ပတ္တမြားငမောက်
စာပေ

မကာရလောပအကျော်

မန်လည်ဆရာတော်ကြီး၏

ဘဝ၊ စာပေ

နှင့်

လိုက်နာကျင့်ဆောင်ဖွယ်ရာ

# မဃဒေဝ လမ်းညွှန်ဒီပနီများ



ဦးဝမ်ထိန်

လောကီလောကုတ္တရာ ကြီးပွားချမ်းသာရေး
လမ်းညွှန်စာအုပ်

apk
2005



# မဃဒေဝ
# လမ်းညွှန်နီတိများ

ဦးဝမ်ထိန်

ဤလောကဌ် နီတိသည် လူ၏အနှစ်သာရလည်းမည်၏။
အမိအဖလည်းမည်၏။ ဆရာသမားလည်းမည်၏။
အဆွေခင်ပွန်းလည်းမည်၏။ ထို့ကြောင့် နီတိတတ်လျှင်
မြတ်သောပညာရှိ၏ဟု လောကနီတိဌ် ဆို၏။

နီတိဟူသည် လူအများလိုက်နာကျင့်သုံးဖွယ်၊
ရှောင်ကြဉ်ဖယ်ရှားဖွယ်ရာ ကြီးပွားချမ်းသာရေး
အဆိုအမိန့်များ ဖြစ်၏။

မဟာသုတကာရီမဃဒေဝလင်္ကာသစ်ကြီးမှ
ကဏ္ဍအလိုက် ရွေးချယ်စုစည်းထားသည့်
ဤမဃဒေဝလမ်းညွှန်နီတိများသည်လည်း
ဖတ်ရှုလေ့လာကျင့်သုံးသူတို့အား
လောကီလောကုတ္တရာ နှစ်ဖြာသောကောင်းကျိုးကို
ပေးမည်မှာ ဧကန်ဖြစ်၏။

# မာတိကာ



## အပိုင်း (၁) မန်လည်ဆရာတော်ကြီး၏ ဘဝနှင့် စာဆို့ဂုဏ်ရည်

## အပိုင်း (၂) ကျင့်ဆောင်ဖွယ်ရာ နီတိများ

▲ ဤလောက၌ နီတိသည် လူ၏အနှစ်သာရလည်း မည်၏။ အမိ အဖလည်း မည်၏။ ဆရာသမားလည်း မည်၏။ အဆွေခင်ပွန်းလည်း မည်၏။ ထို့ကြောင့် နီတိတတ်လျှင် မြတ်သော ပညာရှိ၏ဟု လောက နီတိ၌ ဆို၏။

▲ နီတိဟူသည် လူအများ လိုက်နာကျင့်သုံးဖွယ်၊ ရှောင်ကြဉ်ဖယ်ရှားဖွယ်ရာ ကြီးပွား ချမ်းသာရေး အဆိုအမိန့်များ ဖြစ်၏။

▲ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးမှ ကဏ္ဍအလိုက် ရွေးချယ်စုစည်းထားသည့် ဤမဃဒေဝလမ်းညွှန်နီတိများသည်လည်း ဖတ်ရှုလေ့လာ ကျင့်သုံးသူတို့အား လောကီ၊ လောကုတ္တရာ နှစ်ဖြာသော ကောင်းကျိုးကို ပေးမည်မှာ ဧကန်ဖြစ်၏။

# အမှာစာ

စာရေးသူသည် ငယ်စဉ် ကျောင်းသားဘဝတွင်လည်းကောင်း၊ ထိုမှတပည့်များကို ပညာသင်ကြားပေးရသော စာသင်ဆရာဘဝတွင်လည်းကောင်း ကျက်မှတ်၊ ကြားနာ ဟောပြောခဲ့ရသော မြန်မာပညာရှိကြီးများ၏ လမ်းညွှန်အဆိုအမိန့်များကို တခုတ်တရ၊ ခုံခုံမင်မင်၊ လေးလေးစားစား မှတ်သားနာယူ ကျင့်သုံးခဲ့ရပါသည်။

ဥပမာအားဖြင့်ဆိုရသော်...

(၁) ပညာပြည့်ဝ၊ နှလုံးလှသော်၊ ကိစ္စကြီးငယ်၊ ဆောက်သဖွယ်လျှင်၊ ကျဉ်းကျယ် ထွင်းဖောက်၊ ဖြတ်တောက်လိုရာ၊ ပြီးနိုင်စွာ၏။

(၂) ယုန်ငယ်သဘော၊ မြေပြိုသောဟု၊ ပြောသံကြားရုံ၊ ယုံကြီးယုံ၍၊ လုံးစုံသား ပေါင်း၊ ခြေလေးချောင်းတို့၊ သောင်းသောင်းကြွက်ညာ၊ ဉာဏ်မဲ့စွာဖြင့်၊ သမုဒ္ဒရာရေတွင်း၊ ပြေးဝင်ဆင်းရှင့်။

(၃) သူ့ကို ချီးမြှောက်၊ ကိုယ့်ဂုဏ်မြောက်၏၊ ယှင်းဖောက်အလို၊ ဝန်မတိုနှင့်၊ သူ့ကိုဂုဏ်နှိမ့်၊ ကိုယ့်ဂုဏ်နိမ့်၏၊ စည်းစိမ့်အရာ၊ သူ့ချမ်းသာ၌၊ ဣဿာ မပြု၊ ဝမ်းမြောက်ရှုလော့။

(၄) သားကိုချစ်ရ၊ ငယ်စဉ်မျှသာ၊ ငယ်ကမှာသား၊ ကြီးသော်ကျားတည့်၊ မမှား ပုံသွေး၊ မှန်ချင့်တွေးလော့ စသည်...စသည်ဖြင့်...။

ထိုထိုသော အဆိုအမိန့်များကို တန်ဖိုးသိသိ၊ စွဲစွဲလမ်းလမ်းဖြင့် မိမိရော၊ တပည့်များ ပါ နှုတ်ဝယ်ရွရွ ဆောင်ယူထားသော်လည်း အမှန်အတိုင်းဆိုရလျှင် ယင်းအဆိုအမိန့် များကို မည်သည့်ပညာရှိကြီးများက မိန့်ကြားခဲ့သည်ကိုလည်းကောင်း၊ ထိုအဆိုအမိန့်များ သည် မည်သည့်ကျမ်း၊ မည်သည့်စာအုပ်ထဲ၌ ရှိသည်ကိုလည်းကောင်း လုံးဝ မသိရှိခဲ့ပါ။

စာရေးသူသည် မြန်မာစာပေ လေ့လာခြင်းနှင့် စာရေးသားခြင်းတို့၌ ဝါသနာထုံသူ တစ်ဦး ဖြစ်သည့်အားလျော်စွာ နောက်ပိုင်းကာလများတွင် ကဗျာ၊ ဆောင်းပါးများ ရေးလာရသောအခါ မြန်မာစာပေဆိုင်ရာ ကျမ်းများ၊ မြန်မာပညာရှိကြီးများအကြောင်းကို ထဲထဲဝင်ဝင် လေ့လာဖတ်ရှုခွင့်ရလာပါသည်။

ယင်းကျမ်းကြီးကျမ်းခိုင်များထဲတွင် စာရေးသူအတွက် အလေးစားရဆုံးနှင့် အမှတ်တရဖြစ်ရဆုံးသော စာအုပ်မှာ ကျေးဇူးတော်ရှင် မန်လည်ဆရာတော်ကြီး၏ **"မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီး"** ပင် ဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် စာရေးသူအနေနှင့် နှစ်ပေါင်းကာလကြာမြင့်စွာကပင် နှစ်သက် သဘောကျစွာ ကျက်မှတ်ခဲ့ရသော အဆိုအမိန့်များကို ထိုစာအုပ်ထဲတွင် တွေ့ရ၍ မန်လည်ဆရာတော်ကြီး၏ အဆိုအမိန့်များ ဖြစ်ကြောင်း သိရှိလိုက်ရသောကြောင့် ဖြစ်ပါသည်။

အမှန်ကိုဆိုရလျှင် မန်လည်ဆရာတော်ကြီး၏ မဃဒေဝလင်္ကာသစ်ကြီးကို အစမှ အဆုံးတိုင်အောင် ဖတ်ရှုလေ့လာဖြစ်သူ လွန်စွာနည်းမည်ဟု ထင်ပါသည်။ အကြောင်းကလည်း ရှိပါသည်။ မဃဒေဝလင်္ကာသစ်ကြီးသည် ဘုရားဟော မဃဒေဝမင်းကြီး၏ အကြောင်းကို လင်္ကာအရေးအသားဖြင့် ပိုဒ်ရေပေါင်း (၆၂၅) ပိုဒ်နှင့်အတူ ရှည်လျားစွာ ရေးသားစီရင်ထားခြင်းပင် ဖြစ်ပါသည်။

ဆရာတော်ကြီး၏ (၆၂၅) ပိုဒ်မျှသော လင်္ကာများမှာ ရှည်လျားသည်သာမက ဓာတ်နိပါတ်၊ ရာဇဝင်၊ ဓမ္မသတ်၊ ဗေဒင်နက္ခတ်၊ အင်္ဂရတ်၊ ဂြိုဟ်သွားဂြိုဟ်လာ၊ ဓာတ်ဆင် ဓာတ်ရိုက်၊ ကဗျာဖွဲ့နည်း၊ ဆန်းအလင်္ကာ၊ သဒ္ဒါ၊ ပါဠိ၊ သက္ကတ၊ ပိဋကတ် ကျမ်းများပါ အကြောင်းအရာမျိုးစုံ၊ ဗဟုသုတကိုပါ ပညာဉာဏ်ကြီးမားသူဖြစ်သည့်အားလျော်စွာ လေးနက် ခက်ခဲ သိမ်မွေ့သော အတွေးအမြင်များဖြင့် ရေးသားဖွဲ့ဆိုထားသည်ကို လေ့လာသိရှိကြရမည် ဖြစ်ပါသည်။

ဆရာတော်ကြီး ရေးဖွဲ့အသုံးပြုခဲ့သော လင်္ကာစပ်နည်းများမှာလည်း– ခိုင်ညွန့်ခက်ဖြာ၊ မဏိဥပြည်း၊ ရွှေလောင်းပြန်၊ ဖျောက်ဆိတ်လလည်၊ အာသာဝတီဝတ်ဆံ စသည့် ချနည်းပေါင်းများစွာဖြင့် စုံလင်လှပါသည်။ ထို့ကြောင့်လည်း မဃဒေဝလင်္ကာသစ်ကြီးမှာ စောင်းငြင်းပတ်သာ တူရိယာစုံစွာဖြင့် တစ်ပြိုင်နက်တည်း တီးခတ်လိုက်သကဲ့သို့ သုတိသာယာ၊ ရင်မှာပီတိ ဂွမ်းဆီထိသလို ခံစားကြရမည့် ကျမ်းကြီးတစ်ဆူဟု ဆိုနိုင်ပါသည်။

သို့သော် ဆရာတော်ကြီး၏ အရေးအဖွဲ့များသည် ခက်ခဲ နက်နဲလှသဖြင့် ဆရာတော်ကြီးပေးသော လောကီ လောကုတ္တရာဆိုင်ရာ ဗဟုသုတများ၊ ဆောင်ဖွယ်ရှောင်ဖွယ်များကို စာဖတ်သူများအနေနှင့် ဉာဏ်မမီ၊ မလိုက်နိုင်ကြသဖြင့် ပေးကားပေး၏ မရ ဖြစ်ကြရသည်မှာ ဝမ်းနည်းဖွယ်ပင် ဖြစ်ပါသည်။

ထို့ကြောင့် စာရေးသူသည် ဤလင်္ကာသစ်ကြီးပါ ဆရာတော်ကြီး၏ အဆိုအမိန့်များကို တူရာတူရာ ရွေးချယ်ပြီး မြန်မာပြန်နှင့်တကွ စနစ်တကျ စီစဉ်ကာ **"မဃဒေဝလင်္ကာသစ်ကြီးလာ မှတ်သားကျင့်ဆောင်ဖွယ်ရာ လမ်းညွှန်နီတိများ"** ဟူသော ခေါင်းစဉ်ဖြင့်

စာတစ်အုပ်ရေးရသော် ကောင်းလေစွဟု ဆန္ဒစေတနာ ပေါ်ပေါက်လာသည့် အလျောက် ဤစာအုပ်ကို အချိန်ယူ ပြုစုရေးသားခဲ့ပါသည်။

ဤစာအုပ်တွင် ကျောင်းသူ၊ ကျောင်းသားများ၊ သုတေသီများ၊ မြန်မာစာပေ၌ စိတ်ဝင်စားသူများ၊ ဗဟုသုတ လိုလားသူ၊ လောကီ လောကုတ္တရာ နှစ်ဖြာသောအကျိုးကို လိုလားသူ၊ ရှင်လူရဟန်းများ မှတ်သားကျင့်ဆောင်ဖွယ် လမ်းညွှန် အဆိုအမိန့်များကို ကြည့်ရှုမှတ်သားရာ၌ လွယ်ကူစေရန် အကြောင်းအရာအလိုက် သီးသန့် ခေါင်းစဉ်များဖြင့် ဖော်ပြထားပါသည်။

ထို့ပြင် ဤမျှ လေးနက်သိမ်မွေ့၍ ခက်ခဲလှသော အဆိုအမိန့်များကို မိန့်ကြားညွှန်ပြခဲ့သူ ကျမ်းပြုဆရာ၊ မန်လည်ဆရာတော်ကြီးအား ကြည်ညိုပူဇော်နိုင်ကြစေရန် ဆရာတော်ကြီး၏ ပုဂ္ဂိုလ်ရေးရာ၊ သာသနာရေးဆိုင်ရာ၊ စာပေရေးရာ ဖြစ်ရပ်များကိုလည်း ဖော်ပြထားသည့်အတွက် ဖတ်ရှုလေ့လာသူများအဖို့ ဆရာတော်ကြီးအားလည်း ကြည်ညိုရ၊ အဆုံးအမလမ်းညွှန်နီတိများကိုလည်း နာကြားရ၊ မိမိတို့ဘဝအတွက် အရေးကြီးသော ကျင့်ဆောင်ဖွယ်၊ ရှောင်ကြဉ်ဖွယ် သုတများကိုလည်းရနိုင်ကြသဖြင့် ကြီးမားသည့် အကျိုးကျေးဇူးများကို ရကြမည်မှာ ဧကန်ပင် ဖြစ်ပါသည်။

ဤ "မကာရလောပအကျော်၊ မန်လည်ဆရာတော်ကြီး၏ ဘဝ၊ စာပေနှင့် လိုက်နာကျင့်ဆောင်ဖွယ်ရာ မဃဒေဝလမ်းညွှန်နီတိများ" စာအုပ်ကို စာပေယဉ်ကျေးမှု အသိ၊ လူမှုရေးစေတနာတို့ဖြင့် စာတစ်စောင် ပေတစ်ဖွဲ့ဖြစ်အောင် ရိုက်နှိပ်ထုတ်ဝေပေးသော ရန်ကုန်မြို့၊ ပတ္တမြားငမောက်စာပေမှ တာဝန်ခံဆရာ ဦးကြည်ထွေးနှင့် ဒေါ်ဝင်းသန္တာတို့အား အထူးကျေးဇူး ဥပကာရတင်ရှိကြောင်း ဖော်ပြအပ်ပါသည်။

**စာရေးသူ**

# စာအုပ်အစီအစဉ်နှင့် လေ့လာမှတ်သားရန် နည်းလမ်း

ဤစာအုပ်ကို ဖတ်ရှုလေ့လာမှတ်သားသူများအတွက် အကျိုးများစေရန် အောက်ပါ အစီအစဉ်အတိုင်း ပြုစုရေးသားထားပါသည်။

၁။ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးသည် မြန်မာစာပေသမိုင်းတွင် အထူးထင်ရှားသော ဂန္ထဝင်မြောက် ကျမ်းကြီးတစ်စောင်ဖြစ်သည်နှင့်အညီ ခက်ခဲ နက်နဲပြီး ရှည်လျားလှသော အကြောင်းအရာ၊ အဖွဲ့အနွဲ့၊ အဆိုအမိန့်များကို အဓိပ္ပာယ်ဝိတ္ထာရနှင့် တကွ နားလည်ရန် ခက်ခဲ၍ လက်လှမ်းမမီနိုင်သော ပုဂ္ဂိုလ်များအတွက် လွယ်လင့် တကူ လေ့လာမှတ်သားနိုင်စေရန် စာဆိုကျော် မန်လည်ဆရာတော်ကြီး၏ ဘဝဖြစ်စဉ်၊ စာဆိုဂုဏ်ရည်နှင့် မှတ်သားဖွယ်ရာ နီတိများဟူ၍ အပိုင်းနှစ်ပိုင်းခွဲကာ တင်ပြထားပါသည်။

၂။ ဆရာတော်ကြီး၏ များပြားလှစွာသော ပစ္စုပ္ပန်၊ သံသရာဆိုင်ရာ အဆိုအမိန့် များအနက် ဆရာတော်ကြီး ရည်ညွှန်းမိန့်ကြားလိုသော ပုဂ္ဂိုလ်၊ အဖွဲ့အစည်း၊ အကြောင်း အရာအလိုက် ပြန်လည်စိစစ်ရွေးချယ် ကောက်နုတ်ကာ သီးခြားခေါင်းစဉ်များဖြင့် စုစည်း ဖော်ပြထားပါသည်။ ထို့ကြောင့် သုတအလိမ္မာ မှတ်သားဖွယ်ရာများကို လေ့လာလိုသူများ သည် စာအုပ်မာတိကာတွင် ဖော်ပြထားသည့် "မိဘနှင့်ဆရာ၊ ပညာရှိ၊ ဉာဏ်ပညာ၊ လုံ့လဝီရိယ၊ လူမိုက်၊ မိန်းမ၊ ယောကျာ်း၊ လင်မယား၊ ပြည်သူ့ဝန်ထမ်း"စသည့် ခေါင်းစဉ်များအောက်တွင် တစ်စုတစ်ပေါင်းတည်း လွယ်ကူစွာ ဖတ်ရှုလေ့လာနိုင်ပါသည်။

၃။ ဆရာတော်ကြီးသည် ဂန္ထန္တရ၊ ဘာသန္တရ၊ ပါဠိပါရဂူ၊ ပိဋကတ်ကျမ်းတတ်ကဝိ တစ်ဆူ ဖြစ်သည့်အတိုင်း သူ၏လမ်းညွှန်မိန့်ကြားချက်၊ လမ်းညွှန်နီတိများမှာ လေးနက် ခက်ခဲလှသည်နှင့်အမျှ လွယ်လင့်တကူ နားလည်သဘောပေါက်နိုင်ရန် အခက်အခဲရှိနေ သဖြင့် သူ၏အဖိုးတန်လမ်းညွှန် မိန့်ကြားချက်များကို မြန်မာစကားပြေဖြင့် လိုရင်း တိုရှင်း ဖော်ပြထားပါသည်။

**ပစ္စုပ္ပန်မြားမောက်စာပေ**

၄။ ဆရာတော်ကြီး၏ လမ်းညွှန်နီတိများကို မှတ်သားလေ့လာ ကျင့်ဆောင်ရာ၌ "ပုဂ္ဂိုလ်မင်မှ တရားခင်သည်"ဟူသော ဆိုရိုးစကားနှင့်အညီ ဆရာတော်ကြီး၏ ဘဝ၊ စာပေ၊ စာဆို့ဂုဏ်ရည်များကို လေးလေးစားစား မှတ်သားကြည်ညိုနိုင်ကြစေရန် ဆရာတော်ကြီး၏ ဘဝ၊ စာပေ၊ စာဆို့ဂုဏ်ရည်ကို လက်လှမ်းမှီရာ စာအုပ်စာတမ်းများကို လေ့လာ ဖတ်ရှုပြီး သုတေသနပြု လေ့လာတင်ပြထားပါသည်။

၅။ မန်လည်ဆရာတော်ကြီးသည် ဉာဏ်ပညာကြီးမား နက်နဲသူဖြစ်သည့်အလျောက် သူ၏အဆိုအမိန့်များသည် ပစ္စုပ္ပန်၌ အသုံးပြုနိုင်သလို တမလွန်သံသရာအတွက်လည်း အလားတူ မှတ်သား ကျင့်သုံးနိုင်ပါသည်။ စကားပြောဆိုရာ၌ ကျင့်သုံးလိုက်နာနိုင်သလို ပေါင်းသင်းဆက်ဆံရာ၌လည်း မရှိမဖြစ် လိုအပ်သော လမ်းညွှန်တစ်ခု ဖြစ်နေပြန်သည်။ ထို့အတူ အချို့သော လမ်းညွှန်များသည် မိန်းမ၊ ယောကျ်ားတို့အတွက် အလွန်အသုံးတည့်သလို အိုးအိမ်ထူထောင်ကြသော လင်မယားဖြစ်သူများအတွက်လည်း လေးလေးစားစား လိုက်နာကျင့်သုံးရမည့် အဆိုအမိန့်များ ဖြစ်နေပြန်သည်။ ထို့ကြောင့် ဤစာအုပ်ပါ လမ်းညွှန်နီတိများမှ အချို့သည် "ပညာရှိ" ခေါင်းစဉ်အောက်တွင် ပါပြီးဖြစ်သော်လည်း "ပညာ" ခေါင်းစဉ်အောက်တွင် ထပ်မံထည့်သွင်းထားသည်ကိုလည်းကောင်း၊ "စကား" ခေါင်းစဉ်အောက်တွင် ဖော်ပြပြီးဖြစ်သော်လည်း "ပေါင်းသင်းဆက်ဆံရေး၊ ပြည်သူ့ဝန်ထမ်း" ခေါင်းစဉ်အောက်တို့တွင် ထပ်မံဖော်ပြထားသည်ကိုလည်းကောင်း တွေ့ကြရမည် ဖြစ်ပါသည်။

၆။ ဤစာအုပ်ထဲတွင် လူတိုင်းအတွက် မသိမဖြစ်၊ လေးလေးစားစား လိုက်နာကျင့်သုံးအပ်သော အဆိုအမိန့်လမ်းညွှန် (၄၄၈) ခုကို အဓိပ္ပာယ်ပြန်ဆိုချက်များနှင့်အတူ ဖော်ပြထားရာ လေ့လာဖတ်ရှုသူတိုင်းအဖို့ အကျိုးများမည်မှာ ဧကန် ဖြစ်ပါသည်။

# မန်လည်ဆရာတော်ဘုရားကြီး၏ ဘဝဖြစ်စဉ်

## ၁။ ဖွားမြင်တော်မူခြင်း

မန်လည်ဆရာတော်ဘုရားကြီးအဖြစ် ဝေးနီးပတ်ကုံး ပြည်လုံးအနှံ့ ရိုက်ဟည်း ကျော်ကြားလာမည့် အလောင်းအလျာကို မြန်မာသက္ကရာဇ် ၁၂၀၃ ခုနှစ်၊ တန်ခူးလဆန်း ၁၂ ရက်၊ အင်္ဂါနေ့၊ ည သုံးချက်တီးကျော် ဝိသာခါနက္ခတ်ထွန်းပ မွန်းတည့်ချိန်တွင် ဖွားမြင်တော်မူသည်။ ကျေးဇူးရှင် မိဘနှစ်ပါးကား မြို့စာရေး ဦးထင်ညိုနှင့် ဒေါ်ဖြေ တို့ပင်တည်း။ မွေးရာဇာတိမှာ စစ်ကိုင်းတိုင်း၊ အင်းတော်မြို့နယ်၊ မန်လည်မြို့ဖြစ်၏။ ငယ်မည်ကား မောင်မာဖြစ်၏။

## ၂။ ရှင်သာမဏေအဖြစ်သို့ ရောက်တော်မူခြင်း

ဆရာတော်အလောင်းအလျာ မောင်မာကလေး အသက်သုံးနှစ်အရွယ်တွင် ဖခင် ဦးထင်ညို ကွယ်လွန်သွားခဲ့ရာ မိခင် ဒေါ်ဖြေနှင့်အတူ မွေးရပ်ဇာတိ မန်လည်မှ ထီးချိုင့် မြို့နယ် ရောက်ခါးရွာသို့လည်းကောင်း၊ ထိုမှ နဂါးဆင်းမြို့၊ ကျောက်ပြည်သာရွာသို့လည်း ကောင်း ပြောင်းရွှေ့နေထိုင်ခဲ့သည်။ အသက် (၁၂)နှစ်အရွယ်တွင် မောင်မာသည် ဝန်းသိုမြို့သို့ ရောက်လာပြီး ဝန်းသိုမြို့ တောင်ပေါ်ကျောင်းဘုန်းတော်ကြီး ဦးပန်းအောင်ထံ စာပေပညာများကို သင်ကြားရသည်။ ဤသို့ဖြင့် နောက်သုံးနှစ်ကြာသောအခါ မိခင်ကြီး ဒေါ်ဖြေ ကွယ်လွန်သွားပြန်သည်။ အသက် (၁၆)နှစ်သို့ ရောက်သောအခါ မောင်မာ သည် ထိုတောင်ပေါ်ကျောင်း၌ပင် ရှင်သာမဏေအဖြစ်သို့ ရောက်တော်မူခဲ့သည်။ ရှင်ဘွဲ့ မှာ ရှင်ဇဝနဖြစ်လေသည်။

## ၃။ စာပေကျမ်းဂန်များ လေ့လာသင်ယူခြင်း

ရှင်ဇဝနသည် မိမိ၏မွေးရပ်ဇာတိမြေ မန်လည်မြို့သို့ ပြန်လည် ပြောင်းရွှေ့ခဲ့ပြီး ဆရာရင်းဖြစ်သူ လေးထပ်ကျောင်း ဂိုဏ်းအုပ်ဆရာတော် အရှင်နန္ဒမဥ္ဇူထံတွင် စာပေ

ကျမ်းဂန်များကို လေ့လာသင်ယူလေသည်။ ဇီဇအားဖြင့် ဉာဏ်ပညာ ထက်မြက်သူဖြစ်သည့်အားလျော်စွာ သာမဏေ (၆)ဝါအရတွင် ဗုဒ္ဓစာပေ ကျမ်းဂန်များ၌ အတော်အတန် ကျွမ်းကျင်ပေါက်ရောက်ခဲ့သည့်ပြင် ရတု၊ ရကန်၊ ချေင်း၊ မော်ကွန်း၊ ပျို့၊ လေးချိုး စသည့် ကဗျာလင်္ကာများကိုလည်း ကောင်းစွာ ရေးသားဖွဲ့ဆိုနိုင်ခဲ့သည်။

## ၄။ ရဟန်းဘောင်သို့ ကူးပြောင်းရောက်ရှိတော်မူခြင်း

ဆရာတော် အရှင်နန္ဒမဥ္ဇူသည် အသက် (၂၀)ပြည့်နေပြီဖြစ်သော တပည့်ရှင်ဇဝနအား ရဟန်းဘဝသို့ ကူးပြောင်းရန် တိုက်တွန်းတော်မူခဲ့သော်လည်း ရုတ်တရက် လက်မခံဘဲ ငြင်းဆိုခဲ့သည်။ ရဟန်းဘဝဖြင့် ကြီးလေးလှသော သာသနာ့တာဝန်ကြီးကို ထမ်းဆောင်ရန် စိုးရွံ့တော်မူသဖြင့် ရှင်သာမဏေဘဝဖြင့်သာ ဆက်လက်နေခဲ့သည်။ သို့ရာတွင် ဆရာရင်းဖြစ်သူ ဆရာတော်နန္ဒမဥ္ဇူက ရှင်ဇဝန၏ ပညာရည်နှင့် ဘုန်းပါရမီကို ရိပ်စားမိသည့်အတိုင်း မဖြစ်မနေ တိုက်တွန်းပြန်သဖြင့် သက္ကရာဇ် ၁၂၂၅ ခု၊ နှစ်ဦးပိုင်း၊ အသက် (၂၂)နှစ်အရွယ်တွင် ဆရာရင်း၏ တိုက်တွန်းမှုကို လက်ခံကာ ရဟန်းအဖြစ်သို့ ရောက်ရှိတော်မူသည်။ ရှင်ဇဝန ရဟန်းအဖြစ် ရောက်ခဲ့သည့်နေ့၊ ညနေပိုင်းတွင် ဆရာတော် အရှင်နန္ဒမဥ္ဇူသည် ပျံလွန်တော်မူခဲ့သည်။ ရဟန်းဘွဲ့တော်ကား အရှင်ဇဝနပင် ဖြစ်လေသည်။

အရှင်ဇဝနသည် ထိုနှစ် တပေါင်းလပြည့်ကျော် (၅)ရက်နေ့တွင် အောင်းပင်ရွာ၊ ဝါတော် (၆၀)ရ အရှင်ဂုဏဝါမဟာထေရ်အား ဥပဇ္ဈာယ်ပြု၍ မဲဇာမြစ်တွင်းရှိ နဒီသိမ်တော်တွင် ဒုတိယအကြိမ် ရဟန်းခံတော်မူပြန်သည်။ ဤသို့ တစ်ဝါရပြီးမှ တစ်ဖန် ရဟန်းခံတော်မူရခြင်းကို နှောင်းလူတို့က အမျိုးမျိုးဝေဖန်ပြောဆိုနေကြသည်ကို ဆရာတော်ကြီးကိုယ်တိုင် "ဘေးကလည်း တီးတိုးပြောကြ၊ ငါကလည်းငယ်ငယ်၊ စိတ်ကလည်း မြန်၊ စာပေကလည်း ဒီလောက်မနံ့စပ်သေးလို့သာ ဤသို့ ရဟန်းခံခဲ့ရသည်"ဟု အမိန့်တော်ရှိခဲ့ရာ အဘယ်ကြောင့် ဒုတိယအကြိမ် ရဟန်းခံခဲ့ရကြောင်း သိရှိနိုင်ပေသည်။

## ၅။ ပညာဆက်လက်သင်ကြားခြင်း

ဤသို့ ရဟန်းအဖြစ်ခံယူပြီးနောက် ၁၂၂၈ ခုနှစ်တွင် မန္တလေးမြို့၊ အနောက်ပြင် ထီးလင်းတိုက်သို့ ကြွတော်မူ၍ ပိဋကတ်စာပေများကို ဆက်လက်လေ့လာ သင်ယူပြန်သည်။ ထို့နောက်တွင် မန်လည်မြို့သို့ ပြန်လည်ကြွရောက်၍ မြို့ဝန် ဦးပု ဆောက်လုပ်လှူဒါန်းသော သမန္တပါသာဒိက မဟာဝိဟာရပြာသာဒ်ကျောင်းကြီးတွင် သီတင်းသုံးနေထိုင်ခဲ့သည်။ ထိုသို့နေထိုင်ရင်း ပိဋကတ်ကျမ်းဂန်များကိုသာမက စာပေအလင်္ကာကျမ်းများ၊ ဒေသန္တရနှင့် ဘာသန္တရဆိုင်ရာကျမ်းများ၊ ဇာတက၊ နိပါတ်၊ မဟာဝင်၊ ရာဇဝင်၊ နီတိ၊ ဗေဒင်၊ နက္ခတ်၊ အင်္ဂရတ် စသည့်ကျမ်းမျိုးစုံကို ဝါသနာပါရင်း ရှိတော်မူသည့်အတိုင်း ဆက်လက် လေ့လာဆည်းပူးခဲ့ပေရာ ဆရာတော်သည် ထိုထိုသော ပညာရပ်တို့

တွင် ပါဠိရဂုံမြောက်တစ်ဖက်ကမ်းခတ်လောက်အောင် တတ်မြောက်ကျွမ်းကျင်တော်မူခဲ့သည်။

## ၆။ ဆရာတော်ကြီး၏ ပညာဂုဏ်ရည်

ဆရာတော်သည် ထက်မြက်သော ဉာဏ်ရည်နှင့် စာပေ၊ ပညာရပ်မျိုးစုံနှင့် လောကီလောကုတ္တ နှစ်ဖြာသောကိစ္စများ၌ စိတ်ဝင်စားမှု ကြီးမားနှံ့စပ်သူဖြစ်သောကြောင့် ပညာရှိတို့ နားလည်တတ်ကျွမ်းအပ်သော ပညာရပ်အသီးသီး၌ အံ့ဖွယ်ဘနန်း ထူးကဲစွာ တတ်မြောက်ကျွမ်းကျင်တော်မူသည်။

ပါဠိ၊ အဋ္ဌကထာ၊ ကျမ်းဂန် ဋီကာ ကျမ်းကြီးကျမ်းခိုင်များနှင့်တကွ ပိဋကတ် စာပေများကိုသာမက ဘင်္ဂလီ၊ နာဂရီ၊ သီဟိုဠ် စသည့် ဘာသန္တရကျမ်းများ၊ ဓာတ်၊ နိပါတ်၊ ရာဇဝင်၊ ဗေဒင်၊ ဆေးကျမ်း၊ ဓာတ်ကျမ်း၊ သျှတ္တရကျမ်း၊ နက္ခတ်၊ အင်္ဂရိတ်၊ စစ်ချီစစ်တက် သေနင်္ဗျူဟာ ပညာရပ်အဖုံဖုံကို ဒိုးဒိုးဒေါက်ဒေါက်၊ ခရီးပေါက်အောင် တတ်မြောက်တော်မူသော ပါရမီရှင်ကြီး ဖြစ်ပေသည်။

## ၇။ ရေးသားပြုစုတော်မူသော စာပေများ

ဆရာတော်ကြီးသည် တိပိဋကဓရ၊ ပရိယတ္တိဝိသာရဒ၊ ဝိနယကုက္ကုစ္စ၊ လဒ္ဓိပေသလ၊ သိက္ခာကာမ၊ သီလဝန္တ၊ ဓိတိမန္တ၊ ပညာဝန္တ၊ တိပိဋကဆေက၊ ဂန္ထန္တရ ပါရဂူ၊ ပိဋကတ္တယကောဝိဒ၊ မ-ကာရလောပအနွယ်ဝင် ဖြစ်တော်မူသည်သာမက စာပေ လင်္ကာ ကဗျာရေးသားခြင်း၌ ဝါသနာထုံတော်မူသည့်အားလျော်စွာ စာပေ၊ ကျမ်းဂန်၊ ကဗျာ၊ လင်္ကာအမျိုးမျိုးကို ရေးသားစီရင်ခဲ့သည်။

(၁၆)နှစ်သားအရွယ် ငယ်ရွယ်စဉ်ကပင် ဒွေးချိုး၊ လေးချိုး၊ ဘုရားရှိခိုးများ၊ ငိုချင်းများ၊ အံတော်သီချင်းများနှင့် ပြဇာတ်များကို ရေးသားခဲ့သည်။ ဆိုလိုရင်းသဘောကို ကွက်ကွက်ကွင်းကွင်း ပေါ်လာအောင် အလင်္ကာမြောက်စွာ ဒိုးဒိုးဒေါက်ဒေါက် ရေးသီနိုင်ခဲ့သည်။ ဝိဓူရ၊ အသဒိသ၊ ပဒုမ၊ အယောဃရ၊ သမ္ဗုလ၊ ကုသ၊ စန္ဒကိန္နရီ၊ ပေါရိသာဒ၊ ဥတေန၊ ဆာဝါ စသော ရတုများသည် လူကြိုက်များ၍ ထင်ရှားသော လက်ရာကောင်းများ ဖြစ်ပေသည်။ အထူးသဖြင့်ကား ဆရာတော်ကြီးသည် လင်္ကာရေး၊ စကားပြေပါ ကျွမ်းကျင်ပိုင်နိုင်စွာ ရေးသားဖွဲ့ဆိုနိုင်ခြင်းပင် ဖြစ်သည်။

ဆရာတော်၏ လင်္ကာဖွဲ့ဆိုမှု စွမ်းရည်ကို သူ၏ မဟာသုတကာရီ မဃဒေဝ လင်္ကာသစ်ကြီးတွင် အံ့ချီးဖွယ်ရာ တွေ့မြင်နိုင်ပါသည်။ ထိုအလင်္ကာကြီးသည်ပင် ဆရာတော်ကြီးအား မ-ကာရလောပအကျော်၊ ကဗျာဝိဓူပါရဂူကြီးတစ်ဆူအဖြစ် ပို့ဆောင်ပေးခဲ့သည်။ ထို့ပြင် လောကီ လောကုတ္တရာ နှစ်ဖြာသော ကျမ်းကြီးကျမ်းခိုင်တို့မှ ထုတ်နုတ် ကိုးကားကာ ဝဇီရှုပမဗျာကရဏကျမ်း၊ ဒိဋ္ဌိဝိသောဓနေ ဝဇိရဂ္ဂဒိပနီကျမ်း၊ ကစ္စာယန သင်္ဂဟ သုသုဟာရက ပါဠိ နိဿယ၊ ပညာဝိမံသနကထာကျမ်း စသော ကျမ်းပေါင်း (၇၀)ခန့် ရေးသားပြုစုတော်မူခဲ့သည်။

ဆရာတော်ကြီး၏ **လက်ရာစာပေ** အမြွတေများထဲမှ **အောက်ပါ**ကျမ်းများမှာ အထူးကောင်းမွန် ထင်ရှားကြောင်း နှောင်းခေတ်ပညာရှင်တို့ တညီတညွတ်တည်း အသိအမှတ်ပြု မှတ်တမ်းတင်ခဲ့ကြသည်။

၁။ ပဋ္ဌစတ္တာလီသ ပုစ္ဆာဝိသဇ္ဇနာကျမ်း
၂။ သတ ပဒိက ပုစ္ဆာဝိသဇ္ဇနာကျမ်း
၃။ ဝဇိရဂ္ဂ ဒိဋ္ဌိ ဝိသောဓနေ ကျမ်း
၄။ ဂတိ ဝိသောဓနေကျမ်း
၅။ ဝဇိ ရူပမ ဗျာကရဏကျမ်း
၆။ ဝဇိရတ္တရ ပကာသနီကျမ်း
၇။ ကစ္စာယန သုသုဟာရက ပါဠိ
၈။ ကစ္စာယန သုသုဟာရက ပါဠိနိဿယကျမ်း
၉။ ဝဇိရ ဉာဏ ဝန္ဒနာစသော ဘုရားရှိခိုးအမျိုးမျိုး
၁၀။ မဏိဇောတိက ဝိသဇ္ဇနာကျမ်း
၁၁။ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်
၁၂။ မင်္ဂလာရတုပေါင်းချုပ်
၁၃။ အလမ္ဗုတကျမ်း
၁၄။ ပုစ္ဆာဝိသဇ္ဇာကျမ်း
၁၅။ သီမ ဝိစာရဏကျမ်း
၁၆။ ကမ္မဋ္ဌာန်းကျမ်း
၁၇။ ဖုဿတ္ထေရ ဂါထာ ပါဠိနိဿယကျမ်း
၁၈။ သာမညဖလသုတ် ပါဠိတော်နိဿယကျမ်း
၁၉။ ဂိရိမာနန္ဒသုတ် ပါဠိနိဿယကျမ်း
၂၀။ ဒသသီလဝဇိရဂ္ဂ ဝိနိစ္ဆယကျမ်း
၂၁။ ကဗျာသာရနိဿယခေါ် ဘုန်းကြီးပြန်ငိုချင်း
၂၂။ ပဒုမောဝါဒကထာ
၂၃။ ကုသိမောဝါဒကထာ
၂၄။ ဆန်းသံခိပ်
၂၅။ ဥဿယဝါဒိက သိက္ခာပဒ ဝိနိစ္ဆယ
၂၆။ သဒ္ဒ ပဏာမကျမ်း
၂၇။ ပညာဝိမံသနကထာကျမ်း စသည်တို့ဖြစ်သည်။

### ၈။ စာချစာသင်တော်မူခြင်း

ဆရာတော်ကြီးသည် မိမိကိုယ်တိုင် စာပေဗဟုသုတများကို လိုလားစွာ လေ့လာသင်ယူခဲ့သည့်နည်းတူ လူငယ်တပည့်သာမဏေ၊ ရဟန်းများကိုလည်း လေ့လာဆည်းပူး

သင်ယူစေလိုသော စေတနာ ပြင်းပြထက်သန်လှသဖြင့် မိမိထံခိုဝင်လာသူ တပည့်အပေါင်းတို့အား စာချစာသင်ခြင်းများကို လုံ့လကြီးစွာ စိုက်ထုတ်၍ ရွက်ဆောင်တော်မူခဲ့သည်။

## ၉။ သာသနာတော် ထွန်းကားစည်ပင်ရေးအတွက် ဆောင်ရွက်တော်မူခြင်း

ဆရာတော်သည် စာသင်စာချ၊ လင်္ကာရတုနှင့် ကျမ်းများကို ပြုစုရေးသားတော်မူခြင်းအပြင် ဗုဒ္ဓသာသနာတော်ကြီး ထွန်းကားစည်ပင် အဓွန့်ရှည်တည်တံ့ရေးအတွက် ကြောင့်ကြမဲ့မနေဘဲ မြန်မာနိုင်ငံဒေသအနှံ့သို့ လှည့်လည်တော်မူကာ တရားဒေသနာများဟောကြားခြင်း၊ စေတီပုထိုးများ တည်ထားခြင်း၊ ဒကာ၊ ဒကာမများ သိလိုသော အမေးပုစ္ဆာများကို ဖြေဆိုပြန်ကြားတော်မူခြင်းဖြင့် သာသနာပြုတော်မူသည်။

မန်လည်မြို့၏ ပတ်ဝန်းကျင်ဒေသများ ဖြစ်ကြသော ကသာမြို့၊ ထီးချိုင့်မြို့၊ ကောလင်းမြို့၊ မိုးညှင်းမြို့၊ မိုးကောင်းမြို့၊ ဗန်းမော်မြို့၊ ရွှေကူမြို့၊ မြစ်ကြီးနားမြို့များသို့ ဦးစွာ လှည့်လည်ကြွရောက်ကာ လောက၊ ဓမ္မဆိုင်ရာ တရားများကို ဟောကြားပေးခဲ့သည်။ ထိုမှတစ်ဖန် မိုးကုတ်မြို့၊ သီပေါမြို့များသို့ ကြွရောက်ပြီး သီပေါမြို့ရှိ ရွှေကျင်၊ သုဓမ္မာ၊ ယွန်းဟူသော ဗုဒ္ဓဘာသာဂိုဏ်းကွဲများအား ဗုဒ္ဓ၏အလိုတော်နှင့်အညီ တရားညွှန်ပြ ဆုံးမကာ အချင်းချင်းညီညွတ်စေတော်မူခဲ့သည်။

၁၂၈၁–ခုနှစ်တွင် မန္တလေး၊ စစ်ကိုင်းမြို့များမှတစ်ဆင့် ပခုက္ကူ၊ ပြည်၊ ဇလွန်၊ ပုသိမ်မြို့များသို့ ဧရာဝတီမြစ်ရိုးတစ်လျှောက် ရေလမ်းခရီးဖြင့် ကြွရောက်တော်မူခဲ့သည်။ ဆရာတော်သည် မင်းလှမြို့တွင် လယ်တီဆရာတော်ကြီးနှင့် တွေ့ဆုံ၍ နှစ်ပါးအတူ သီးသန့် မီးရထားဖြင့် ရန်ကုန်မြို့သို့ ဆက်လက်ကြွချီတော်မူခဲ့ပြန်သည်။ ဆရာတော်ကြီးနှစ်ပါး ရန်ကုန်မြို့သို့ ရောက်သောအခါ အမြောက် ၂၁ ချက်ပစ်ဖောက် အပူဇော်ခံရသည်။ ထိုမှတစ်ဖန် ကီလီလမ်းမှ ပုဇွန်တောင် ဩောင်တုန်းကျောင်းတိုက်သို့ ကားဖြင့် ဆက်လက်ကြွချီရာ လမ်းတစ်ဖက်တစ်ချက်မှ ထောင်ပေါင်းများစွာသော ပရိသတ်ကြီးက သောင်းသောင်းဖျဖျ ကြိုဆိုပူဇော်ကြလေသည်။

ဆရာတော်ကြီးသည် သာသနာပြု ကြွချီတော်မူရာ ခရီးတစ်လျှောက်တွင် သိလို၍ မေးမြန်းလာသော သာသနာတော်ဆိုင်ရာ အမေးပြဿနာများကို ဖြေကြားတော်မူခြင်း၊ ဘာသာ၊ သာသနာတော် ညစ်နွမ်းထိပါးစေမည့် အယူဝါဒ၊ အကျင့်အကြံ၊ အပြုအမူများကို ဖယ်ရှားသန့်စင်၍ နည်းလမ်းပြသ ဆုံးမတော်မူခြင်း၊ နိဗ္ဗာန်ရောက်ကြောင်း တရားတော်များကို ဟောကြားတော်မူခြင်း စသည်တို့ကို ရွက်ဆောင်တော်မူခဲ့သည်။

ထိုမှ ပြန်လည်ကြွချီတော်မူရာတွင် လမ်းတစ်လျှောက်ရှိ ပဲခူး၊ ဖြူး၊ ပဲနွယ်ကုန်း၊ တောင်ငူ၊ ပျဉ်းမနားမြို့များ၌ သာသနာပြုတော်မူသည်။ ထို့ပြင် နေရပ်ဖြစ်သော မန်လည်မြို့၊ ကသာမြို့များ၌ စေတီတော်များတည်ကာ သာသနာပြုခရီးတစ်လျှောက်တွင် အနယ်နယ် အရပ်ရပ်မှ လှူဒါန်းပေးအပ်ခဲ့သော ဆင်းတုတော်၊ ဓာတ်တော် မွေတော်များ၊ သင်္ချိုင်းတော်ပြာများကို ထိုစေတီများအတွင်း ထည့်သွင်းဌာပနာတော်မူသည်။

အိန္ဒိယနိုင်ငံ လက်ခနောင်းမြို့ပြတိုက်မှူးဖြစ်သူ ဒေါက်တာအေဖြူရာထံမှ လက်ခံရရှိတော်မူခဲ့သော ဗုဒ္ဓအံတော်တစ်ဆူကိုလည်း မန်လည်မြို့တွင် တည်ထားသည့် တာဝတိံသာ မဟာအဘယစေတီတော်တွင် ဌာပနာခဲ့သည်။ ထိုသို့ ဘာသာအကျိုး၊ သာသနာအကျိုးကို စိတ်ရောကိုယ်ပါ ပြောင်မြောက် အောင်မြင်စွာ ထမ်းရွက်တော်မူနိုင်ခြင်းနှင့် ဂန္ထဓုရ၊ ဘာသဓုရ ဗဟုသုတနှင့်တကွ ဗုဒ္ဓစာပေ၌ တစ်ဖက်ကမ်းရောက်အောင် တတ်မြောက်ကျွမ်းကျင်တော်မူသောကြောင့် အင်္ဂလိပ်အစိုးရသည် မြန်မာသက္ကရာဇ် ၁၂၇၉ ခု၊ ခရစ်နှစ် ၁၉၁၇ ခုနှစ်၊ ဇန်နဝါရီလ (၁)ရက်နေ့တွင် **အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်**တော်ကို ဆက်ကပ်လှူဒါန်းခဲ့လေသည်။

(မှတ်ချက်)- ဗုဒ္ဓအံတော်မှာ ကပိလဝတ်ပြည် ဆထူပ စေတီတော်ကြီးအတွင်းမှ ရရှိပြီး နာဂရီစာဖြင့် မှတ်သားထားသော ဗုဒ္ဓအံတော်အစစ် (ဗုဒ္ဓဒန္တ) ဖြစ်တော်မူသည်။ ထိုအံတော်မြတ်ကို မန်လည်မြို့ ပြာသာဒ်ကျောင်းကြီးဝင်းအတွင်း ၁၂၅၄ ခုနှစ်က တည်ထားခဲ့သော ဉာဏ်တော် (၇၈)တောင်ရှိ မဟာအဘယ စူဠာမုနိစေတီတော် အနောက်မုခ်တွင် ၁၂၈၁ ခု၊ ပြာသိုလ၌ ဌာပနာတော်မူခဲ့ခြင်း ဖြစ်သည်။

## ၁၀။ ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဂန္ထဓုရ၊ ဘာသဓုရ၊ ဒေသဓုရ ဗဟုသုတဘဏ်တိုက်ကြီးသဖွယ် ဖြစ်တော်မူပြီး တိပိဋကဓရ၊ တိပိဋကကောဝိဒ၊ ပါဠိပါရဂူ၊ ကျမ်းပြုပညာရှိ ကဝိတစ်ဆူဖြစ်တော်မူသော ကျေးဇူးရှင် မန်လည်ဆရာတော်ဘုရားကြီးသည် အောက်မြန်မာနိုင်ငံ သာသနာပြုခရီးကြွချီရာမှ ပြန်လာပြီး လယ်တီဆရာတော်ကြီး၏ တောင်းပန်လျှောက်ထားချက်အရ ဆန်းသံခိပ်နှင့် အလင်္ကာသံခိပ်ကျမ်းများကို စီရင်ရေးသားနေဆဲကာလတွင် ပျံလွန်တော်မူသည်။ ပျံလွန်သည့်အချိန်မှာ ၁၂၈၂ ခုနှစ်၊ တော်သလင်းလဆန်း (၁၃) ရက်၊ နံနက် (၁)နာရီ (၃၀)မိနစ်တွင် ဖြစ်လေသည်။ သက်တော် (၇၉)၊ ဝါတော် (၅၆)ဝါ ဖြစ်သည်။

အံ့ဖွယ်သရဲ ထူးကဲမှုတစ်ရပ်မှာ ဆရာတော်၏ ကြွင်းကျန်ရစ်သော ဥတုဇရုပ်ကလာပ်သည် ပုပ်သိုးပျက်စီးခြင်းမရှိခြင်းပင် ဖြစ်သည်။ ရုပ်ကလာပ်တော်ကို အုတ်ပြာသာဒ်ကြီးထဲ၌ ထည့်သွင်းကာ ကိုးကွယ်ပူဇော်ခဲ့ရာ ၁၃၀၈ ခုနှစ် မြေငလျင်ဒဏ်ကြောင့် အုတ်ပြာသာဒ်ကြီး ပြိုကျပျက်စီးခဲ့သဖြင့် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက မင်းကွန်းဆရာတော် အရှင်ဝိစိတ္တသာရာဘိဝံသ အရှင်မြတ်က ဦးစီးပြီး အနယ်နယ်အရပ်ရပ်က ကုသိုလ်ရှင်များက အသစ်တစ်ဖန် ပြန်လည်တည်ဆောက်လှူဒါန်းခဲ့သည်။ ဆရာတော်ကြီး၏ မပုပ်မသိုး ကြွင်းကျန်ရစ်သော ရုပ်ကလာပ်ကို မန်လည်မြို့တွင် ယနေ့တိုင် ဖူးတွေ့ ကြည်ညိုနိုင်ကြပေသည်။

# ၂။ ဆရာတော်ကြီး၏ ဉာဏ်ရည်ဉာဏ်သွေး

မန်လည်ဆရာတော်ကြီးနှင့် စပ်လျဉ်း၍ နောင်းလူတို့ အစဉ်အဆက် ချီးကျူး မှတ်တမ်းတင်ခဲ့သော စကားတစ်ခွန်းရှိလေသည်။ ထိုစကားမှာ **"မန်လည်ဆရာတော်ကြီး သည် ပါရမီအလျောက် စွဲမှီလာသော ပညာဉာဏ်ရည်ဉာဏ်သွေး လွန်စွာ ထက်မြက် စူးရှ၍ လောကီ လောကုတ္တရာ နှစ်ဖြာသော သိမှတ်ဖွယ်ရာ ဗဟုသုတ၊ အကြားအမြင်များ သိမ်းထားရာ ဘဏ်တိုက်ကြီးသဖွယ် ပြည့်ဝလှသောကြောင့် မသိသောအရာ၊ မပြေဆို နိုင်သောအရာ၊ မတွေးနိုင် မခေါ်နိုင်သောအရာသည် မရှိ။ မ-တစ်လုံးကျေသော၊ မ-ကာရလောပ ပုဂ္ဂိုလ်ကျော်ကြီးတစ်ပါး ဖြစ်သည်"**ဟူသော စကားပင် ဖြစ်ပေသည်။

သို့ဆိုပါလျှင် ဆရာတော်ကြီးသည် ပညာဉာဏ် မည်မျှ ထက်မြက်ပါသနည်း။ ဉာဏ်ပညာအရာ၌ မည်မျှထူးချွန် ပြည့်ဝပါသနည်း။ မ-ကာရလောပပုဂ္ဂိုလ်ကြီးတစ်ပါး အဖြစ် ချီးပပြောဆိုနိုင်လောက်အောင် အကြားအမြင် ဗဟုသုတအဖြာဖြာတို့နှင့် မည်မျှ ပြည့်စုံကြွယ်ဝပါသနည်း။

"ဉာဏ်ပညာ"ဟူသော သဘောသည် သိမြင်နားလည်ခြင်း၊ ကျွမ်းကျင် တတ် မြောက်ခြင်း၊ ခွဲခြမ်းဝေဖန်တတ်ခြင်းဟူသော ဉာဏ်အရည်အသွေးရှိရုံသာမဟုတ်။ အသိတစ်ခုကို အကျိုးအကြောင်းဆက်စပ်၍ ဆင်ခြင်တွေးတောတတ်ခြင်း၊ ထိုအသိတရား မှတစ်ဆင့် ဖြစ်ထွန်းပေါ်ပေါက်လာမည့် အကျိုးဆက်များကို မျှော်မှန်း ကောက်ချက်ချ နိုင်ခြင်း၊ ထိုအသိကို မိမိသိသကဲ့သို့ အခြားသူများ နားလည်သိရှိနိုင်အောင် ရှင်းလင်း ပြတ်သားစွာ ထုတ်ဖော်ပြောဆို ရေးသားတတ်ခြင်း၊ မောဟဟူသော အမိုက်တိုက်ကြား တွင် စမ်းတဝါးဝါး လျှောက်လှမ်းနေကြသူ၊ ဘဝခရီးဖော်တို့အား အမှောင်ကို ပယ်ခွင်း ၍ ဉာဏ်အလင်းကို ဆောင်ကြဉ်းပေးနိုင်ခြင်း စသော အရည်အသွေးကောင်းများနှင့် ပြည့်စုံသော ဉာဏ်ပညာမျိုးသည်သာလျှင် မိမိအကျိုး၊ လောကအကျိုးကို ထိရောက်စွာ သည်ပိုးပေးနိုင်မည် ဖြစ်သည်။

ဆရာတော်ကြီး၏ ဉာဏ်ပညာ အရည်အသွေးကား ထိုသို့သော အရည်အသွေးကောင်းများနှင့် ပြည့်စုံကြွယ်ဝနေသည့် ဉာဏ်မျိုးပင် ဖြစ်လေသည်။

ဆရာတော်အလောင်းအလျာ မောင်မာကလေးသည် (၃)နှစ်သားအရွယ်မှစ၍ ဖခင်ကြီး ကွယ်လွန်သွားသဖြင့် ဖတဆိုးသားတစ်ယောက်အနေနှင့် ကြီးပြင်းလာခဲ့ရာ (၁၂)နှစ်သားအရွယ်တွင် မိခင်ကြီးနှင့်အတူ ဝန်းသိုမြို့သို့ ပြောင်းရွှေ့သွားရပြီး ထိုမြို့ တောင်ပေါ်ကျောင်း ဆရာတော်ထံတွင် စာပေပညာများ စထင်သင်ယူခဲ့ရသည်။ ထိုသို့ အသက်ကြီးကာမှ ပညာကို စတင်သင်ကြားရသော်လည်း (၁၆)နှစ်သားအရွယ်တွင် မြန်မာစာကို ရေးထုံးရေးနည်း၊ နည်းနိသျှည်းနှင့် ပုဒ်ဗျည်းမကျန်၊ ကာရန်ဝါကျ၊ မြန်မာကဗျာ၊ သဒ္ဒါသတ်ပုံ အလုံးစုံတို့ကို ဆရာစားမကျန် တတ်ပွန်ရင်းနှီးရင်းရှိသဖြင့် ထိုအရွယ်၌ပင် ဒွေးချိုး၊ လေးချိုး၊ တေးထပ်ကဗျာများနှင့် ဆာဝါပြဇာတ်၊ ပဒုမပြဇာတ်များကို အဆင့်အတန်းမြင့်မြင့် ရေးသားစပ်ဆိုနိုင်ခဲ့သည်။

မောင်မာသည် အသက် (၁၆)နှစ်ပြည့်မှသာ ရှင်သာမဏေအဖြစ်သို့ ရောက်ရှိခဲ့ရသည်။ သူ၏ပညာဉာဏ် ထက်သန်လျင်မြန်ပုံကို သိမြင်သော တောင်ပေါ်ကျောင်းဆရာတော်က သူ့အား **"ရှင်ဇဝန"** ဟူသည့် ဘွဲ့အမည်ကို ပေးခဲ့သည်။ ရှင်သာမဏေဘဝတွင် လိင်ဒဏ်၊ သေခိယ၊ ခန္ဓကတို့ကို ဆက်လက်သင်ယူရာ သင်ရိုးနှင့်တကွ နှုတ်တက်အာဂုံ တတ်မြောက်ခဲ့သည်။

ထိုမှတစ်ဖန် ရှင်ဇဝနသည် မိမိ၏မွေးရပ် မန်လည်မြို့သို့ ကြွလာပြီး ပြာသာဒ်ကျောင်းကြီး ဆရာတော် အရှင်နန္ဒမဥ္ဇူထံ ပိဋကတ်စာပေများ ဆက်လက်သင်ယူသည်။ ဤသို့ဖြင့် ရှင်ဇဝနသည် ပါဠိဘာသာ၊ သဒ္ဒါ၊ သဂြိုဟ်ဆိုဆိုသမျှ ဂန္ထန္တရ၊ ဘာသန္တရ ဗဟုသုတများကို နားလည်တတ်မြောက်သည်သာမက ဒွေချိုး၊ လေးချိုး၊ တေးထပ်၊ ပြဇာတ်ဆိုင်ရာ လက်ာဖွဲ့ဆိုမှုပညာကိုပါ ကောင်းစွာ ကျွမ်းကျင်နေပြီဖြစ်ကြောင်း ကြည်ညိုစွာ တွေ့နိုင်ပေသည်။

ထို့ပြင် ရှင်ဇဝနသည် အသက် (၂၂)နှစ်တွင် ရဟန်းဘဝသို့ ကူးပြောင်းရောက်ရှိတော်မူပြီးနောက် အဆင့်မြင့် ပိဋကတ်ကျမ်းဂန်စာပေ၊ ဋီကာ၊ အဋ္ဌကထာများကို ဆက်လက်သင်ယူဆည်းပူးပြန်ရာ မူလကပင် အထုံဝါသနာ၊ ဉာဏ်ပဋိဘာန် ရင့်သန်နေပြီဖြစ်သည့်အားလျော်စွာ ပိဋကတ်သုံးပုံ ပါဠိတော်များကို အစမှ အဆုံးတိုင် မွေနှောက်ချောက်ချားလျက် ပါရဂူကြီး ဖြစ်တော်မူသည့်ပြင် အရှင်ကာဠုဒါယီ၊ အရှင်ဝင်္ဂီသ၊ အရှင်မဟာသီလဝံသ၊ အရှင်မဟာရဋ္ဌသာရ အရှင်မြတ်တို့ကဲ့သို့ ပေါ်ရာဏကထာ၊ ပျို့ကဗျာလင်္ကာ၊ ချင်း၊ မော်ကွန်း၊ သတ်ညွှန်းသတ်စု၊ ရတုသတ်ပုံကျမ်းများကို ရေးသားစီရင်တော်မူခဲ့သည်။ ထို့ကြောင့် ဆရာတော်သည် လောကီ၊ လောကုတ်၊ မယုတ်စွယ်စုံ၊ မုန်ဝင်အာသောက်၊ ကဝိပါမောက်၊ ပြောင်ကြီးမြောက်၍ ပေါက်သားကြီးတစ်ဆူအဖြစ် ကျော်ကြားထင်ရှားတော်မူလေသည်။

# ၃။ ဆရာတော် ရေးသားစီရင်တော်မူသော ကျမ်းဂန်စာပေများ

ဆရာတော်သည် ပညာအရာ၌ ကြီးကျယ်သာလွန်မှုကို အထူးလိုလားတော်မူသည်။ ယခု မျက်မှောက်ဘဝမှာသာ မဟုတ်သေး၊ နိဗ္ဗာန်သို့ မရောက်မီ သံသရာအဆက်ဆက်တွင်လည်း သူတကာနှင့်မတူ ကြီးမားလွန်ကဲသောပညာကို ရယူလိုသော ဆန္ဒသည် ပြင်းပြခိုင်ကျည်လှပေသည်။ ယင်းသဘောကို ဆရာတော်ကိုယ်တိုင် ရေးသားပြုစုခဲ့သည့် မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီး၏ ပတ္ထနာအာသိသဒဿန နိဂုံးတွင် ဤသို့ ရေးဖွဲ့ထားသည်ကို တွေ့မြင်နိုင်ပေသည်။

"ဤသို့ယှည်းကောင်း၊ ဇာတိပြောင်းလည်း၊ ကျင့်ဟောင်းဝသီ၊ မြတ်စာရီနှင့်၊ အညီလေ့တူ၊ သူတော်မူနှင့်၊ အယူသမွာ၊ တည်ကြည်စွာလျက်၊ မန္တာခိဋ္ဌ၊ ငယ်သော်ကလျှင်၊ စ၍နည်းနာ၊ တတ်စရာသား၊ သဒ္ဒါရုပ်ပိုင်း၊ ဓာတ်ပုဒ်ဂိုဏ်း၌၊ ဆုတ်ဆိုင်းမရှိ၊ လိမ္မာသိ၍၊ အတိဂမ္ဘီ၊ လေးလီပရမတ်၊ နှုတ်လွတ်လေ့လာ၊ နေ့ညဝါလည်း၊ မဟာပြောင်မြောက်၊ နည်းကုံလောက်လျက်၊ အာသောက်မုန်ဝ၊ စွယ်စုံလှသား၊ ကူဋရကြီး၊ ထေရ်ပေါက်ထီးသို့၊ ပွဲသိမ်းခံရာ၊ သုခမ္မာဝယ်၊ ငါသာငါနှင့်၊ နှိုင်းသော်သင့်အောင်၊ ရဲရင့်တောက်တောက်၊ ခြသေ့်ဟောက်သို့၊ ပြန်လျှောက်ဘောင်ဘောင်၊ ပွဲတိုင်းအောင်၍၊ လေးထောင်ရှစ်သောင်း၊ အပေါင်းဓမ္မခန်၊ အင်ကိုးတန်ဖြင့်၊ မဟဏ္ဏဝ၊ သာဂရထက်၊ နယကျင့်ဝင့်၊ ဟောဖော်ဖွင့်သား၊ ရှင်ပင်အာဂုံ၊ အလုံးစုံတိ၊ သုံးပုံပိဋကတ်၊ ပရိယတ်ကို၊ တတ်မှတ်မကျန်၊ အောက်ထက်လှန်ပြီး၊ ဂန္ထန္တရ၊ သုတပွားလူး၊ ဆည်းပူးစုံစီ၊ ပန်းနှယ်သီလျက်၊ ဘင်္ဂရီနာဂရီ၊ မာဂဓီက၊ ထိုဤများစွာ၊ ဘာသာဖြင့်ပြွမ်း၊ ထိုထိုကျမ်းလည်း၊ ဘက်ကမ်းပါရဂူ၊ ရောက်စိမ့်ဟူ၍၊ ဆုယူပန်ထွာ၊ ပတ္တနာ၏"

ဆရာတော်ကြီးသည် မိမိကိုယ်တိုင် ပညာကို အမြတ်တနိုး တန်ဖိုးထားသူဖြစ်သည့်အတိုင်း တစ်ပါးသူတို့အားလည်း ပညာကို မြတ်မြတ်နိုးနိုး၊ ခုံခုံမင်မင်၊ လေးလေးစားစား လေ့လာလိုက်စားစေလိုသည်။ ငိုးစာပေတို့မှတစ်ဆင့် လောကီ လောကုတ္တရာ

နှစ်ဖြာသော အသ်အလ်မွာများကို တိုးပွားစေလိုသည်။ မသိခြင်းဟုသည့် မောဟသည် လောကီရေးရာမှာသာမက လောကုတ္တရာ သံသရာအရေးတွင်ပါ မကောင်းကျိုး၊ အဖြစ်ဆိုးများကို ဖြစ်စေသည့် တရားခံ၊ ရန်သူကြီးအစစ်ဖြစ်သည်ကို သဘောပေါက်တော်မူသည် ဖြစ်၍ လူရှင်သတ္တဝါတို့အား အမိုက်မှောင် မောဟကို ဖယ်ခွာ၊ အမှန်တည်းဟူသော ဉာဏ်အလင်းကို ထွန်းလင်းစေလိုသော မေတ္တာ စေတနာဖြင့် ကျမ်းဂန်အမျိုးမျိုး၊ လင်္ကာ၊ ရတု၊ ပျို့၊ မော်ကွန်းကဗျာအမျိုးမျိုးကို အထူးကြိုးကုတ် ဝါယမထုတ်၍ ရေးသားပြုစုတော်မူခဲ့သည်။

စာပေကျမ်းဂန် ရတုလင်္ကာ ကဗျာများကို ဖွဲ့ဆိုရေးသားခြင်းသည် ပါရမီကို အခြေခံသော အတတ်ပညာတစ်ခုသာ ဖြစ်လေသည်။ သာမန်ပုဂ္ဂိုလ်များအနေနှင့် အနားသို့ပင် မသိဝံ့ကြချေ။ ပညာအရည်အချင်း အတန်အသင့်ရှိသူ ပညာရှိအမည်ခံ ပုဂ္ဂိုလ်အချို့သည်ပင် ရေးဖွဲ့ရန် မတတ်ကောင်းသော ပါရမီစွမ်းရည်တစ်ပါးပင် ဖြစ်သည်။ ဆရာတော်သည်ကား ပါရမီအလျောက် ရရှိလာသော ထိုအရည်အသွေးကို စနစ်တကျ အသုံးချကာ နောင်လာနောက်သားတို့ ဗဟုသုတ တိုးပွား၍ အကျိုးများစေရန် ပါဠိ ကျမ်းဂန်အမျိုးမျိုး၊ လေးချိုး၊ လင်္ကာ၊ ရတု၊ သံပေါက် စသည်တို့ဖြင့် ပညာရှိစွယ်စုံရ ပုဂ္ဂိုလ်များကသာ စွမ်းနိုင်သော ဗုဒ္ဓ ဓမ္မဆိုင်ရာ အမေးအဖြေကျမ်းများစွာကို ပြုစုတော်မူခဲ့ရာ ဆရာတော်ကြီး၏ ပညာပါရမီတော်နှင့် စာပေရေးသားဖွဲ့ဆိုမှုဆိုင်ရာ စွမ်းရည်ကို မြတ်နိုးကော်ရော် ပူဇော်ကြည်ညိုထိုက်လှပေသည်။

ဆရာတော်ကြီးသည် ဘဝတစ်သက်တာတစ်လျှောက်တွင် စာပေကျမ်းဂန်၊ လင်္ကာ၊ ကဗျာ စသည့်ကျမ်းပေါင်း (၇၀)ခန့်ကို ရေးသားစီရင်ခဲ့သည်။ ထိုထိုသော ကျမ်းစာပေများ ထဲမှ တကယ့်ပညာရှင်တို့သာ စီရင်ရေးဖွဲ့နိုင်သည့် ထူးခြားပြောင်မြောက်လှသော လက်ရာ အချို့ကို မြန်မာစာ၊ မြန်မာမှု လေ့လာလိုက်စားသူများအတွက် ထုတ်နုတ်တင်ပြလို ပေသည်။

ဆရာတော်ကြီး၏ လက်ရာစုံ ကျမ်းပေါင်းများစွာထဲတွင် ထိပ်ဆုံးမှ နေရာယူပြီး အမျိုးလေးပါးတို့ ယနေ့တိုင် လိုက်နာကျင့်ကြံ၊ ဝေဖန်ညွန်ပြ၊ ချီးပ၍ မကုန်နိုင်အောင် ထင်ရှားသည့်စာအုပ်မှာ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးပင် ဖြစ်ပေသည်။ ထိုလင်္ကာသစ်ကြီးသည် နှစ်ပေါင်း (၁၀၀)မျှ ကြာညောင်းခဲ့ပြီဖြစ်သော်လည်း နောင်လာ နောင်သားတို့ ယနေ့တိုင် ကိုးကားထုတ်နုတ်ပြောဆိုရေးသားနေရဆဲဖြစ်ပြီး ဗဟုသုတ ဘဏ်တိုက်ကြီးသဖွယ် အားကိုးအားထားပြုနေရသည့် ထိပ်တန်းစာပေတစ်ဆူ ဖြစ်သည်။

ယင်းစာအုပ်ထဲတွင် လောကီ လောကုတ္တရာ သိမှတ်ကျင့်ကြံဖွယ်အကြောင်းချင်းရာ အချက်အလက်ပေါင်း ထောင်သောင်းများစွာကို မဟာသမုဒ္ဒရာ ရေပြင်ထက် ဒလဟော သွန်းဖြိုးရွာချလိုက်သော မိုးကြီးကဲ့သို့ စုံလင်စွာ ထည့်သွင်းရေးသားထားသည်မှာ ဖတ်၍ မဝ၊ မှတ်၍မကုန်၊ ချီးပပြောဆို၍ မဆုံးနိုင်အောင်ပင် ဖြစ်လေသည်။

(ထိုမဃဒေဝလင်္ကာသစ်ကြီးအကြောင်း အပြည့်အစုံကို နောက်တစ်နေရာတွင် ဖော်ပြထားသည်။) ဆရာတော်သည် မဃဒေဝလင်္ကာသစ်ကြီးကို အပိုင်းကြီး (၆)ပိုင်း၊

အခန်းငယ်ပေါင်း (၅၀)တို့ဖြင့် ခမ်းနားစွာ ရေးဖွဲ့ထားသည်။ ဘုရားဟော နေမိဇာတ်တော်ကြီးကို အခြေခံထား၍ အလောင်းတော် မဃဒေဝမင်းကြီးအကြောင်း၊ အနိစ္စတရား၏ မမြဲသောသဘောကို သိရှိ၍ သံဝေဂကြီးစွာ ရရှိတော်မူပုံ၊ သားတော်အိမ်ရှေ့မင်းအား ဆုံးမသြဝါဒပေးတော်မူပုံ၊ မင်းမှုထမ်းအမတ်တို့အား ပညာပေးဆုံးမပုံ၊ မင်းမိဖုရားများ ကျင့်ကြံလိုက်နာဖွယ်များကို ညွှန်ပြတော်မူပုံ၊ တောထွက်ပြီး ဗြဟ္မဝိဟာရတရားဖြင့် အသက်ထက်ဆုံး ဆောက်တည် ကျင့်သုံးသွားပုံနှင့် နိဂုံးပိုင်းတို့ကို စီရင်ရေးသားရင်း ပိဋကတ်၊ ရာဇဝင်၊ ဇာတ်ကြီးဆယ်ဘွဲ့၊ ငါးရာ့ငါးဆယ်နိပါတ်တော်၊ လက္ခဏာ၊ ဗေဒင်၊ သျှတ္တရ၊ နီတိ၊ စကားပုံ၊ ပုံပြင်များထဲမှ ကျင့်ဆောင်ဖွယ်ရာ အမြုတေရတနာများကို ထည့်သွင်းထားပေရာ နရဏီရွှေပြားကြီးကို ပတ္တမြားလုံးကလေးများဖြင့် ဝန်းရံစီခြယ်ထားသလို ဝေဆာလှပ၊ အဖိုးအနဂ္ဃထိုက်တန်လှပေသည်။

၁။ မယားဟူသည်၊ သက်တူကျွမ်းဝင်၊ သဘောစင်က၊ လူတွင်မိတ်စစ်၊ ဆွေရင်းဖြစ်၏။ အပြစ်တမူ၊ အမျက်ယူက၊ ရန်သူကြီးဖြစ်၊ သေမင်းစစ်၏။

၂။ ပညာရှိထံ၊ ရိုကျိုးနွံ၍၊ နည်းခံသင်မှ၊ ပညာရ၏၊ ထကြွဝီရိယ၊ ဥဋ္ဌာနဖြင့်၊ လုံ့လရှိမှ၊ ဥစ္စာရ၏၊ မခွဲနှုတ်လျှာ၊ မှန်ကန်စွာလျှင်၊ သစ္စာတည်မှ၊ ကျော်ဇောရ၏၊ ကိုယ်ကဥစ္စာ၊ စွန့်လွှတ်ကာလျှင်၊ မေတ္တာရှေး၍၊ ပေးကမ်းတတ်မှ၊ မိတ်ဆွေရ၏။

၃။ တစ်နည်းမှာကား၊ အစာကြေမှ၊ စားထဘောဇဉ်၊ အစဉ်မှတ်ဖွယ်၊ ကြီးငယ်နှစ်ပါး၊ ကျင့်အသွားကို၊ မတားအဟုန်၊ မေထုန်ကြဉ်ရှား၊ သူ့အားမညှင်း၊ မစဉ်းစားမှု၊ မပြုလျှင်စွာ၊ ဤငါးဖြာလည်း၊ သက်အာယုမြတ်၊ ရှည်ကြောင်းမှတ်လော့။

၄။ တရားမကြိုက်၊ လျှာဒုစရိုက်နှင့်၊ သူမိုက်လေ့လာ၊ ယစ်မူးစွာသည့်၊ ဝါသနာဆိုးသူ၊ ထိုလူတို့မှာ၊ မိုးကလာ၍၊ ဣဿာသယ၊ တောင့်တလိုရာ၊ ပြီးတတ်စွာသား၊ စကြာအိုးလေး၊ သိကြားပေးလည်း၊ ကျေးဇူးနတ္ထိ၊ ကယ်မရှိရှင့်၊ ပကတိအသွင်၊ အဖတ်တင်ရုံ၊ သို့စင်ချည်းနှီး၊ ကျိုးမပြီးဘဲ၊ မကြီးမပွား၊ မကောင်းစားဘူး။

၅။ ခွေးနှင့်တမျှ၊ ထိုဗာလတို့၊ မိဘနှစ်ပါး၊ ကြီးမားဂုဏ်အင်၊ ကျေးဇူးရှင်ကို၊ ပြင်ပြင်မရှု၊ မပြုမမွေး၊ မလုပ်ကျွေးသူ၊ ဆဲရေးရေရွတ်၊ နှုတ်ပေါက်လွှတ်နှင့်၊ ပုတ်ခတ်ခိုက်ထိ၊ ပြုကုန်ဘိကြောင့်၊ ဘမိတကာ၊ ခိုရာမဲ့သီး၊ သားသမီးအား၊ ပြန်ပြီးကြောင့်ကြ၊ နေကုန်ရ၏။

၆။ ဤလောကဥ္၊ မိန်းမတကာ၊ ထိုများစွာတို့၊ ရူပါရမ္မဏာ၊ စသည့်လုံးစုံ၊ အာရုံငါးပါး၊ လက်နက်အားဖြင့်၊ ယောကျာ်းတို့ကို၊ အလိုယုတ်မာ၊ တွေ့ရာကိုက်သတ်၊ နှိပ်စက်တတ်၏။

၇။ ပါပယုတ်မာ၊ တရားမှာလည်း၊ သဒ္ဓါမရှိ၊ ဟိရိမကပ်၊ ဩတ္တပ်ကင်းပ၊ ကောခကြီးစွာ၊ ပညာမဲ့ကြား၊ ဤငါးပါးတည့်၊ မှတ်သားသမှု၊ သတိပြုလော့၊

ငါးခုပထမ၊ ပဋ္ဌာကတွင်၊ ကောဓအရော၊ ပယ်နှုတ်ကာလျှင်၊ ဥပနာဟ၊ ဣဿုကနှင့်၊ မစ္ဆေရဟူဘိ၊ အတိစာရိ၊ ဒုဿီတစ်ခု၊ အပ္ပဿုတ၊ ကုသိမည်ထုတ်၊ ခုနစ်ပုဒ်ကို၊ တစ်ပုဒ်စီထည့်၊ ငါးခုပြည့်သား၊ ဖြစ်၏ရှစ်ဝါ၊ ဒေသနာတည့်။

အထက်တွင် သာဓကများအဖြစ် ဖော်ပြထားသည့် နည်းယူမှတ်သားဖွယ်ရာ အဆိုအမိန့်များကဲ့သို့သော အဖိုးတန် အဆိုအမိန့်များသည် မဃဒေဝလင်္ကာသစ်ကြီးထဲတွင် ကောင်းကင်ထဲရှိ ကြယ်ပွင့်ကလေးများပမာ များပြားလှသည်။ သုတပညာ အလိမ္မာကို လိုလားကြကုန်သော ပုဂ္ဂိုလ်များအတွက်မူ လိုတရဘဏ်တိုက်ကြီးတစ်ခုပင် ဖြစ်ပေသည်။

ဆက်လက်ပြီး ရဟန်းရှင်လူ၊ လူငယ်လူရွယ်ကလေးများနှင့် ပိဋကတ်စာပေသုတေသီများအဖို့ မိးရှူးတန်ဆောင်ကြီးများပမာ လက်စွဲထားအပ်သည့် ဆရာတော်ကြီး၏ **"ပညာဝိမံသနကထာ"**ကျမ်းကြီးနှင့် မိတ်ဆက်ပေးလိုပါသည်။

"ပညာဝိမံသနကထာ"ကျမ်းကြီးတွင် အောက်ပါကျမ်းများ ပါဝင်ပါသည်။

(၁) ပုစ္ဆာဝိသဇ္ဇနာကျမ်း
(၂) ပဋ္ဌစတ္တာလီသ ပုစ္ဆာဝိသဇ္ဇနာကျမ်း
(၃) သတပဒိက ပုစ္ဆာဝိသဇ္ဇနာကျမ်း
(၄) ပညာဝိမံသနကထာကျမ်း
(၅) သိမာဝိစာရဏာကျမ်း
(၆) ဒသသီလဝိနိစ္ဆယ ဝဇိရဂ္ဂဒီပနီကျမ်း
(၇) ရာမညေယျောဝါဒ ဝဇိရဂ္ဂဂဏ္ဌိပဒကျမ်း
(၈) မန်လည်ဥဒါန်းသြဘာ ကဗျာကျမ်း
(၉) ဝိသဇ္ဇနရာသိကျမ်း

ထိုကျမ်းကြီးသည် လယ်တီဆရာတော်၊ မင်းကွန်းဆရာတော်၊ မင်းကွန်း အလယ်တောရဆရာတော်၊ ပုသိမ်မြို့ ဦးပဒုမဆရာတော်၊ မိုးတားမြို့စားအတွင်းဝန်၊ မိုင်းခိုင်းမြို့ဆိုင်ရာမင်းကြီးတို့ အပါအဝင် ဂန္ထန္တရစာပေပညာရှင် ရဟန်းရှင်လူတို့နှင့် အမေးအဖြေပြုလုပ်တော်မူရာ မန်လည်အမေးအဖြေပေါင်းချုပ် ကျမ်းကြီးတစ်ဆူလည်း ဖြစ်ပေသည်။

မြန်မာမှုတွင် အမေးနွားကျောင်းသား၊ အဖြေ ဘုရားလောင်းဟူသော စကားရှိသည်နှင့်အညီ မေးခွန်းတစ်ပုဒ်၏ အဖြေကို ထုတ်ပေးရသောအလုပ်သည် လွန်စွာခက်ခဲလှသည်။ ဖြေဆိုသူသည် ပိဋကတ်စာပေ၏ အဆုံးအစလုံးစုံများစွာတို့၌ မွေ့နှောက်ချောက်ချားစေနိုင်သည်သာမက အကြားအမြင်သုတများခြင်းဟူသော ကိုယ်ခံအားကောင်းမွန်သူလည်း ဖြစ်ရပါမည်။ ဒေသန္တရ၊ ဘာသန္တရ၊ ဂန္ထန္တရဆိုင်ရာ ဗဟုသုတများနှင့်လည်း ပြည့်စုံရပါမည်။ မေးခွန်းနှင့် တစ်ထပ်တည်းကျသော အဖြေကို ထုတ်ပေးနိုင်သည့် ဉာဏ်ပဋိဘာန်ရှိသူလည်း ဖြစ်ရပါမည်။ မန်လည်ဆရာတော်ကြီးသည် ထိုသို့သော အရည်အသွေးကောင်းများနှင့် ပြည့်စုံတော်မူသော ပါရမီရှင်ပုဂ္ဂိုလ်ထူးကြီးဖြစ်

ကြောင်းကို ဤပညာဝိမံသနကထာကျမ်းကြီးတွင် အထင်အရှား ကြည်ညိုဖွယ်ရာ တွေ့နိုင်ပါသည်။

ပညာဝိမံသနကထာကျမ်းကြီးပါ ကျမ်းငယ်တစ်ဆူစီမှ ဆရာတော်၏ ဉာဏ်ရည်ဉာဏ်သွေးများကို စာရှုသူတို့ ကြည်ညိုမှတ်သားနိုင်စိမ့်သောငှာ ဥပမာများအဖြစ် ထုတ်နုတ်တင်ပြပါအံ့။

## ၁။ လယ်တိဆရာတော်ကြီး၏ အမေးပုစ္ဆာကို မန်လည်ဆရာတော်ကြီး ဖြေကြားစီရင်အပ်သော အဖြေဝိသဇ္ဇနာ။

လျှောက်ထားလိုက်ပါသည် ဆရာတော်ဘုရား–

အကြောင်းမှာ– သတ္တက္ခတ္တုပရမသောတာပန်၊ ကောလံကောလ သောတာပန်၊ ဧကဗီဇသောတာပန်၊ သကဒါဂါမ်ပုဂ္ဂိုလ်တို့သည် ဤလူ့ဘုံသို့ တစ်ဖန်ပြန်ခွင့်ရှိကြောင်း ကျမ်းဂန်တို့မှာ အဆိုလာရှိသည်တစ်ရပ်၊ ဒီဃနိကာယ်သက္ကပဉှသုတ်၌ သောတာပန်ဖြစ်၍ ယခုရှိနေသော သိကြားမင်းသည် လူ့ပြည်သို့လာ၍ လူမင်းပြုလုပ်ရပါလိမ့်ဦးမည်ဟု ဘုရားအား လျှောက်ထားချက်ပါသည်တစ်ရပ်၊

ဝိမာနပါဠိတော်၌ ရှင်မောဂ္ဂလန်မေးရာ ဤနတ်ပြည်မှာ လူ့အရေအတွက် နှစ်ဖွပါင်းသုံးကုဋေ ခြောက်သန်းခံစား စံစားပြီးနောက် လူ့ပြည်သို့ တစ်ဖန် ပြန်ရဦးမည်ဟု သောတာပန် နတ်သမီး လျှောက်ထားချက်ပါရှိသည် တစ်ရပ်၊

ဘုရားလက်ထက်တော်၌ သာဝတ္ထိပြည်မှဖြစ်ကြသည့် သောတာပန်၊ သကဒါဂါမ် ကုဋေများစွာ၊ ရာဇဂြိုဟ်ပြည်မှ ဖြစ်ကြသည့် သောတာပန်၊ သကဒါဂါမ် ကုဋေများစွာ၊ ဝေသာလီ၊ ကောသမ္ဗီ၊ ကပိလဝတ်အစရှိသော တိုင်းပြည်မြို့ရွာဒေသတို့မှ ဖြစ်ကြသည့် သောတာပန်၊ သကဒါဂါမ်ပေါင်း ကုဋေများစွာ၊ ဓမ္မစကြာဒေသနာ၊ မဟာသမယသုတ်ဒေသနာ၊ သမစိတ္တသုတ်ဒေသနာ အစရှိသော ဒေသနာ သမယတို့၌ အနန္တ အနန္တ ကျွတ်လွတ်ကြသည့် နတ်သောတာပန်၊ နတ်သကဒါဂါမ်ပေါင်းများစွာ ယခုနတ်ပြည် ၆ ထပ်မှာ အပြည့်ရှိနေကြသည်။

ထိုသူတို့တွင် အချို့အချို့ကား ဘုံစဉ်စံအနေဖြင့် ဗြဟ္မာပြည်သို့ရောက်၍ အဂ္ဂနိဋ္ဌဘုံမှာမှ ပရိနိဗ္ဗာန်အဆုံးစံကြကုန်လတ္တံ့။ အချို့ အချို့တို့ကား "ပဉ္စာနိဋ္ဌနိဋ္ဌာသတ္တက္ခတ္တုပရမသ ကောလံကောလသ ဧကဗီဇိသသကဒါဂါမိသ၊ ယောစဒိဋ္ဌေဝအရဟာ" ဟူသောပုဂ္ဂလပညတ်ပါဠိတော်မြတ်နှင့်အညီ နတ်ပြည် (၆)ထပ်မှာ ပရိနိဗ္ဗာန်စံကြသော်လည်း အသင်္ချေယျ အနန္တများစွာ လူ့ပြည်သို့ တစ်ဖန်ပြန်လာ၍ လူ့ပြည်မှာ ပရိနိဗ္ဗာန်စံကြသူများတို့လည်း အသင်္ချေယျအနန္တများစွာ ရှိကုန်ရာပါသည်။

ထိုသို့ရှိခဲ့သော် လူ့ပြည်မှာ သာသနာနှစ် အကြွင်းအကျန်လည်း နှစ်ထောင်ကျော်မျှသာ ကျန်ရှိတော့သည်ဖြစ်ပါ၍ ထိုသောတာပန်၊ သကဒါဂါမ် အရိယာသိကြားနတ်တို့ လူ့ပြည်သို့ ပြန်ရောက်သည့်အခါ သာသနာကွယ်လွန်ပြီးနောက် တက်ကပ်သို့ရောက်သော အခါ လူ့ပြည်မှာ အရိယာခေတ် ဖြစ်ပေါ်လာလိမ့်ဦးမည်။ လူသောတာပန်တွေ ဖြစ်ပေါ်

လာလိမ့်ဦးမည်။ လူ့သကဒါဂါမ်တွေ ဖြစ်ပေါ်လာလိမ့်ဦးမည်။ လူ့အနာဂါမ်၊ လူ့ရဟန္တာတွေ ဖြစ်ပေါ်လာလိမ့်ဦးမည်ဟု ဆိုခွင့်ဆိုက်လျက်ရှိနေပါသည်။ သာသနာပအခါ လူ့ပြည်မှာ အရှင်ပစ္စေကဗုဒ္ဓါတို့မှတစ်ပါး လူ့အရိယာ ပေါ်ပေါက်လာရန် အခွင့်အလမ်း မခက်တောင်း။ ဤအရာများ၌ ဉာဏ်မရဲ၊ စိတ်မရဲ မခွဲနိုင် မခြမ်းနိုင် ရှိနေပါသည်ဖြစ်၍ အရှင့်သဘောဉာဏ်သက်ရာကို နာခံလိုပါကြောင်း လျှောက်လိုက်ပါသည်ဘုရား။

(၁၂၄၆ ခု၊ နယုန်လဆန်း၊ ၁၀-ရက်)

**မှတ်ချက်။ ။ ထိုအမေးနှင့် ပူးတွဲလျက် သဏ္ဍပဥပါဋ္ဌိတော် (၆)ပိုဒ်၊ ဝိမာနဝတ္ထုပါဋ္ဌိတော်မှ ရှင်မောဂ္ဂလန်အမေး၊ နတ်သမီးအဖြေ၊ နေမိဇာတ်ပါဠိတော် အဋ္ဌကထာအနက်တို့ကို ဖော်ပြထားသည်။**

မန်လည်ဆရာတော်ကြီး၏အဖြေ

ဉာဏ်စွမ်းရှိသမျှ မြွက်ဆိုပြန်ကြား ဖြေဆိုပါအံ့။

ထိုခဲရာခဲဆစ် ပြဿနာအမေးသည် (ဝါ) ခဲဆစ်ခဲရာ ဝိသဇ္ဇနာစာတမ်း ဝဇိရသမဒုလ္လဘကျမ်းသည် သိကြားလက်ချိန် ဝရဇိန်မျိုး မိုးကြိုးလက်နက် နတ်မင်းစက်နှင့် နှိုင်းရှည့်စရာ ဥပမာမဝေး တစ်ပြေးတည်း တူလှသည်သာတည်း။

လျှောက်ထားလိုက်ပါသည် တောရပ်ဆရာတော်-

မေးခွန်းပုစ္ဆာပြဿနာအရ ဣဟဋ္ဌက နိဋ္ဌာနိက သုက္ခဝိပဿက ဣဓနိဋ္ဌာမျိုးဖြစ်ကုန်သော သတ္တက္ခတ္တုံ ပရမ ကောလံ ကောလ ကေဗိဇိသောတာပန်၊ သကဒါဂါမ် ပုဂ္ဂိုလ်တို့၏အဖြစ်ဖြင့် လူ့ပြည်တစ်ဖန် ပြန်လာကြမည့် သဘောမှာ-

(၁) ဘဂဝတော ဂဟိတနာမ ဝ သေနေဝ စေတာနိ တေသံနာမာမိ။ တွေ ကဥ္ဍာနံဂတော သတ္တက္ခတ္တုံ ပရမော၊ တွေက် ကောလံကောလော၊ တွေက် ကေ ဗိဇိတိဘဂဝတာ တေသံနာမံ ဂဟိတံ။ နိယမတောပနအယံ သတ္တက္ခတ္တုံ ပရမော၊ အယံ ကောလံ ကောလော၊ အယံ ကေဗိဇိတိနတ္ထိ။

သစေဟိဥပရိတိဏ္ဏံ မဂ္ဂါနံဝိပဿနာ ဗလဝတိဟောတိ၊ ကေဗိဇိနာမဟောတိ။ တတောမန္ဒာယ ကောလံ ကောလော၊ တထာမန္ဒတရာယ သတ္တက္ခတ္တုံ ပရမောတိ။ ဟူ၍ ပုဂ္ဂလပညတ်အဋ္ဌကထာ-၄၆၊ ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ၊ အင်္ဂုတ္တရ မဟာဋီကာတို့ မိန့်ဆိုကြရကား မဂ်၏နိယာမ သိဒ္ဓိမဟုတ်။ ဝိပဿနာ၏ နိယာမသိဒ္ဓိဖြစ်သောကြောင့် လူ့ပြည်သို့ တစ်ဖန်ပြန်ရမည်ဖြစ်သော သတ္တက္ခတ္တုံ ပရမသောတာပန် စသည်တို့၏ အဖြစ်ကို စင်စစ် နိယာမအားဖြင့် အမြဲရှိရာ၏ဟု မမှတ်ရာ၊ အထက်မဂ်တို့၏ ဝိပဿနာ၏ ဗလဝ၊ မန္ဒ၊ မန္ဒတရအားဖြင့် တစ်ဘဝ စသည်ဖြစ်သော်သာ ကေဗိဇိ စသည် မည်ကုန်၏ဟု မှတ်အပ်သတည်း။

(၂) ၎င်းသတ္တက္ခတ္တုံ ပရမစသောအရာတို့၌ မိစ္ဆတ္တနိယာမ၊ သမ္မတ္တနိယာမတရားတို့ကဲ့သို့ သဘာဝအားဖြင့် ထင်ရှားရှိသော ထိုသတ္တက္ခတ္တုံပရမစသော အမည်အားဖြင့် မြဲသောပုဂ္ဂိုလ်မရှိကြောင်းကို ပဋိသမ္ဘိဒါမဂ်ဂဏ္ဌိ၌ မိန့်ဆိုထားသည်။

(၃) အမှတ်မရှိသော သောတာပန်ပုဂ္ဂိုလ်၏ မုဒိန္ဒြေတို့သည်လည်း ပစ္စယဝိသေသကြောင့် တိက္ခအဖြစ်သို့ ရောက်တတ်ကုန်ကြောင်းကို ကထာဝတ္ထုအနုဋီကာ၌ မိန့်ဆိုသည်။

(၄) သောတာပန်တို့၏ ဝိပဿနာကို မဆိုလင့်ဦး။ ကလျာဏပုထုဇဉ်တို့၏ ဝိပဿနာဉာဏ်သည်လည်း မပွားသော်မဂ်မဖြစ်။ ပွားသော် မဂ်ဖြစ်၏။ အရိမေတ္တေယျဘုရားသခင်ကို ဖူးမြင်လို၍ ဝိပဿနာကို မပွားဘဲ ထားသောအခါ ဝိပဿနာတိက္ခအဖြစ်သို့ ရောက်သဖြင့် မဂ်မဖြစ်။ ပွားသောအခါ ခဏ ချက်ချင်း တိက္ခအဖြစ်သို့ မရောက်သဖြင့် အရဟတ္တမဂ်ဖြစ်၍ ရဟန္တာအဖြစ်သို့ ရောက်သော မဟာသံဃရက္ခိတမထေရ်၏ ဝိပဿနာကို ထောက်၍လည်း ဝိပဿနာနိယာမသိဒ္ဓိအဖြစ်ကို စင်စစ်မှတ်ယူရာသတည်း။

ထိုမှတစ်ပါး ပဋ္ဌာန်ဂုံတ္တရပါဠိတော်၌ ဟောတော်မူသော သေက္ခပရိဟာနိယသုတ်စသည်ကို ထောက်၍လည်း ဝိပဿနာ နိယာမသိဒ္ဓိကို စင်စစ်မှတ်ယူရာ၏။

သို့ဖြစ်၍ သတ္တက္ခတ္တု ပရမသောတာပန် စသည်တို့၏အဖြစ်ဖြင့် လူ့ပြည်ပြန်ကိစ္စကို နိယာမအားဖြင့် စင်စစ်မပြန်မနေရ၊ အမြဲကေန်ပြန်ရမည်ဟူ၍ မမှတ်ရာသောသဘောရှိသည်။

(၅) တိကင်္ဂုတ္တရပါဠိတော် သိဟနာဒသုတ်၌ ဤဒိဋ္ဌဓမ္မပင် အရဟတ္တဖိုလ်သို့ မချွတ်ရောက်လတ္တံ့သော အရှင်အာနန္ဒာအားလည်း နတ်မင်း (၇)ကြိမ်၊ လူမင်း (၇)ကြိမ်ဖြစ်ရာ၏ဟု သတ္တက္ခတ္တုပရမလက္ခဏာအားဖြင့် ဗုဒ္ဓပသာဒမဟာကုသိုလ်၏ အာနိသံသမဂ္ဂါနုဘာဝတို့ကိုပြခြင်းငှာ ဟောတော်မူသကဲ့သို့ပင်တည်း။

(၆) ဤပါဠိတော်၌ နတ်မင်း လူမင်းချည်း ဖြစ်ရမည့်အဖြစ်ကို ဗုဒ္ဓပသာဒမဟာကုသိုလ်၏ အာနိသံသကို ပြတော်မူသည်။ နတ်ပြည်၊ လူ့ပြည်၌ (၇) ဘဝအပိုင်းအခြားကိုကား သောတာပတ္တိမဂ်၏ အာနုဘာဝ အာနိသံသကို ပြတော်မူသည်။

(၇) ဤသို့ မှတ်ယူပြောဆိုကြကုန်သော်လည်း-

**နတ္တောဘဝံ အဋ္ဌမမာဒိယန္တိ** ဟူသော ခုဒ္ဒကပါဌ၊ သုတ္တနိပါတ် ၃၁၃၊ ရတနသုတ်ပါဠိတော်အရ ထိုသောတာပန် ပုဂ္ဂိုလ်သည် ရှစ်ကြိမ်မြောက်ဖြစ်သော ကာမသုဂတိဘဝကို မယူနိုင်ကုန်။

(၈) **အဘဗ္ဗောဒိဋ္ဌိသမ္ပန္နောပုဂ္ဂလော အဋ္ဌမံဘဝံနိဗ္ဗတ္တေတုံ** ဟူသော အင်္ဂုတ္တရပါဠိတော်အရ လောကုတ္တရာ သမ္မာဒိဋ္ဌိဉာဏ်နှင့် ပြည့်စုံသော အရိယာဖြစ်သော သောတာပန်ပုဂ္ဂိုလ်သည် ရှစ်ကြိမ်မြောက်ဖြစ်သော ကာမသုဂတိဘဝကို ဖြစ်စေခြင်းငှာ မထိုက်။

(၉) **အဋ္ဌာနမေတံ အနဝကာသော၊ ယံဒိဋ္ဌိသမ္ပန္နော အဋ္ဌမံဘဝံ နိဗ္ဗတ္တေယျ နေတံ ဌာနံ ဝိဇ္ဇတိ** ဟူသော ဉာဏဝိဘင်းပါဠိတော်အရ လောကုတ္တရာ သမ္မာဒိဋ္ဌိဉာဏ်နှင့် ပြည့်စုံသော အရိယာဖြစ်သော သောတာပန်သည် ရှစ်ကြိမ်မြောက်သော ကာမသုဂတိဘဝကို အကြောင်းဖြစ်နိုင်ရာ၏။ ဤရှစ်ကြိမ်မြောက်ဘဝကို ဖြစ်စေနိုင်ခြင်းသည် အကြောင်းမဟုတ်။ အရာမဟုတ်။ ဤရှစ်ကြိမ်မြောက်ဖြစ်ခြင်း၏ အကြောင်းသည်မရှိ။

(၁၀) **ပဋိသမ္ဘိဒါမဂ်၊ မဟာနိဒ္ဒေသ စူဠနိဒ္ဒေသ (၃၃)** ဂါထာတော်၊ ဤပါဠိတော် စသည်တို့ဖြင့် နတ်ပြည်၌သာ ဆက်၍ဖြစ်သော်လည်း (၇) ဘဝထက်မလွန်၊ လူ့ပြည်၌ ဆက်၍ဖြစ်သော်လည်း (၇)ဘဝထက်မလွန်၊ နတ်ပြည် လူ့ပြည်တို့၌ တက်တုံ သက်တုံ ဖြစ်သော်လည်း (၇) ဘဝထက်မလွန်သည်ကိုသာ ငါတို့ သဘောရသည်။

ဤပါဠိတော်၌ (၇)ဘဝဟူသည်ကိုလည်း ကာမဘဝကိုသာ ရည်၍ သန္ဓာယ ဘာသိတအားဖြင့် ဟောတော်မူသည်ဟု သိရာ၏။

(၁၁) **အဋ္ဌမံဘဝန္တိ ကာမဘဝေ အဋ္ဌမံပဋိသန္ဓိံ**။ (သက္ကပဉှတ္တရ အဋ္ဌကထာ-၁၄၀)

**အဋ္ဌမံဘဝံ** ဟူသည်ကား ကာမသုဂတိ (၇)ဘုံ၌ ရှစ်ကြိမ်မြောက်ဖြစ်သော မဟာဝိပါက် တိဟိတ်ပဋိသန္ဓေကို ဆို၏။

(၁၂) **တယောပိဏ္ဏမေ သောတာပန္နာ ကာမဘဝ ဝသေနဝုတ္တာ။ ရူပါရူပဘဝပန ဗဟုကာပိ ပဋိသန္ဓိယော ဂဏှန္တိ**။ (ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ-၆၇)

သုံးမျိုးလည်းဖြစ်သော သောတာပန်ပုဂ္ဂိုလ်တို့ကို ကာမသုဂတိဘဝ၏ အစွမ်းအား ဖြင့် ဟောတော်မူအပ်ကုန်၏။ ရူပဘဝ အရူပဘဝ၌ကား များစွာလည်း ဖြစ်ကုန်သော မဟဂ္ဂုတ်ဝိပါက်တိဟိတ် ပဋိသန္ဓေတို့ကို ယူနိုင်ကုန်၏။

(၁၃) **ဓမ္မသင်္ဂဏီ အနုဋီကာ-၁၂၄ အရ နတောဘဝံ အဋ္ဌမမာဒိယန္တိ၊ နတောဘဝံ အဋ္ဌမမာဒိယန္တိ** ဟူ၍ အကြင်စကားကိုကား ဟောတော်မူအပ်ပေ၏။ ထိုစကားကိုလည်း **ကာမာဝစရ** သုဂတိဘဝကိုသာလျှင် ရည်၍ ဟောတော်မူပြီ။ ဝိပါက်မဟဂ္ဂုတ်ရူပါ၊ **ရူပဘဝ**တို့၏ အပိုင်းအခြားသည်မရှိ။ ဤသို့ဆရာတို့သည် ဆိုကုန်၏။

(၁၄) ဋီကာကျော် ၂၇၆ အရ ထိုသောတာပန်ပုဂ္ဂိုလ်အား ကာမသုဂတိ (၇)ဘုံ၌ (၇)ကြိမ် ပဋိသန္ဓေနေခြင်းဟူသော အဆုံးအပိုင်းအခြားသည်ရှိ၏။ ထို့ကြောင့် သတ္တက္ခတ္တုပရမသောတာပန် မည်၏။ ရှစ်ကြိမ်မြောက်ဖြစ်တတ်သော အလေ့သည်မဖြစ်။ ဤသည်ကို ရည်၍ မြတ်စွာဘုရားသည် **နတောဘဝံ အဋ္ဌမမာဒိယန္တီတိ၊ နတောဘဝံ အဋ္ဌမမာဒိယန္တိ** ဟူ၍ ဟောတော်မူအပ်၏။ ရူပသုဂတိဘဝ၊ အရူပသုဂတိဘဝသို့ကား (၇)ကြိမ်ထက် အလွန်လည်း ရောက်နိုင်၏ဟု ဆရာတို့သည် ဆိုကုန်၏။

(၁၅) ဤအဋ္ဌကထာ ဋီကာစသည်တို့ဖြင့် (၇)ဘဝဟူသည်ကို ကာမသုဂတိဘဝ ကိုသာ ရည်၍ သန္ဓာယဘာသိတအားဖြင့် ဟောတော်မူသတည်းဟု သိအပ်၏။

ဤကာမသုဂတိဘဝ၌လည်း နတ်ဘဝချည်းသက်သက်၊ လူ့ဘဝချည်း သက်သက် (၇)ဘဝကိုမဆိုလို၊ မိဿက (၇)ဘဝကိုသာ ဆို၏။ ဘဝနှစ်မျိုးစလုံး၌ အထူးထင်ရှား သော ဝိသေသ မဂ္ဂါနုဘာဝ ဝိသေသမဂ္ဂါနိသံသတို့ကို ပြတော်မူခြင်းအကျိုးငှာ မိဿက (၇)ဘဝကိုသာ သတ္တက္ခတ္တုပရမအဖြစ် ဟောတော်မူသည်ဟု သိရာသတည်း။

(၁၆) ဤသို့လျှင် ဆိုအပ်ခဲ့ပြီးသော နည်းတို့ဖြင့် သတ္တက္ခတ္တုပရမ သောတာပန် စသည်တို့ကို ဟောတော်မူခြင်းကိုကား မဂ္ဂါနိသံသဝိသေသကို ပြခြင်းငှာသာ ဟောတော် မူသည်ဟု စင်စစ်မှတ်အပ်ရာသတည်း။

**ပဏ္ဏာမြားငမောက်စာပေ**

(၁၇) ကထာဝတ္ထုအဋ္ဌကထာ–၂၃၂ အရ အဘဗ္ဗောအန္တရာတိ ပဉှေသု၊ အဘဗ္ဗော အန္တရာဟူသော အမေးပဉှာပြဿနာတို့၌ အနန္တရိယကံမရှိသည်၏အဖြစ်ကို ရည်၍ ပယ်၏။ သတ္တခတ္တုပရမ သောတာပန်ပုဂ္ဂိုလ်ကိုရည်၍ ဝန်ခံ၏။

(၁၈) အနန္တရိယကံမရှိ၊ အနန္တရိယပုဂ္ဂိုလ်မဟုတ်သောကြောင့် ဘဗ္ဗပုဂ္ဂိုလ်ဖြစ်သော်လည်း ပစ္စယဝိသေသမရှိ။ ပကတိ မုဒိန္ဒြိယအတိုင်းသာ။ ဘုသံပမတ္တံ ပမာဒဝိဟာရီဖြစ်၍ သတ္တက္ခတ္တုပရမဟူ၍ ဟောအပ်သော ပုဂ္ဂိုလ်အား (၇) ဘဝစေ့မှသာ ရောက်ရာ၏။ ပစ္စယဝိသေသရှိမူကား မုဒိန္ဒြိယတို့သည်လည်း တိက္ခိန္ဒြိယအဖြစ်သို့ ရောက်တတ်ကုန်၏။ ထို့ကြောင့် ဘဗ္ဗဟု ဆိုအပ်သည်ဟူလို။

(၁၉) အကြင်သောတာပန်ပုဂ္ဂိုလ်ကို သတ္တက္ခတ္တုပရမ သောတာပန်ဟူ၍လည်းကောင်း၊ ကောလံကောကသောတာပန်ဟူ၍လည်းကောင်း၊ ဧကဗီဇီသောတာပန်ဟူ၍လည်းကောင်း မြတ်စွာဘုရားသည် ဣန္ဒြိယပရောပရိယတ္တဉာဏ်ဒေါ်ဖြင့် ပိုင်းခြား၍ ဟောတော်မူအပ်၏။

(၂၀) သို့ဖြစ်သော် **"ကိံပနသော အန္တရာ အဘိသမိဿတီတိ ကေစိဝဒန္တိ။ သတ္တက္ခတ္တုပရမော သတ္တမဘဝံ နာတိက္ကမတိ။ ဩရတောပန နတ္ထိပဋိသေဓောတိ အပရေ"**ဟူ၍ မူလဋီကာ ဆရာပြသော ကေစိဝါဒတို့သည် ယုတ္တဖြစ်ကုန်ပေသည် မဟုတ်လောဟု ဆိုငြားအံ့။ အဘယ်ကြောင့်နည်း။ ထိုဝါဒတို့သည် မုဒိန္ဒြိယဖြစ်သော သတ္တက္ခတ္တုပရမသောတာပန်သည် ပစ္စယဝိသေသမရှိဘဲ (၇)ဘဝအတွင်း အမှတ်မဲ့သော ဘဝ၌ ဣန္ဒြေရင့်ခြင်းသို့ ရောက်သဖြင့် အရဟတ္တဖိုလ်သို့ ရောက်ကုန်ရာ၏ဟု အယူရှိသောကြောင့်မသင့်။ ပစ္စယဝိသေသ မငဲ့ဘဲဆိုကုန်သည်ဟူလို။

(၂၁) ဤကထာဝတ္ထု ပါဠိအဋ္ဌကထာ ဋီကာအနုတို့ဖြင့် မုဒိန္ဒြိယအတိုင်းသာ ဖြစ်အံ့။ (၇)ဘဝအတွင်း ရဟန္တာဖြစ်၏။ ထိုပုဂ္ဂိုလ်သည် သတ္တက္ခတ္တုပရ မမည်။ မဇ္ဈိန္ဒြိယ စသည်တို့ကိုလည်း ထို့အတူ မှတ်အပ်ကုန်၏။

## ဆရာတော်ကြီး၏ နိဂုံးဖော်ပြချက်

ဤသို့လျှင် အလုံးစုံပြဆိုအပ်ပြီးသော ဋီကာ၊ ပါဠိ၊ အဋ္ဌကထာ၊ အနု၊ ဂဏ္ဌိ အရပ်ရပ်တို့ကို ဆေ့စပ် ညှိနှိုင်းတိုင်းထွာယူဆသဖြင့် သတ္တက္ခတ္တုပရမ စသော သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်တို့၏အဖြစ်ဖြင့် လူ့ပြည်သို့ တစ်ဖန်ပြန်ကြမည့်ကိစ္စတို့ကို ကေန်မုချ နိယတ္တအားဖြင့် မပြန်မနေရ ပြန်ကြရမည်ချည်းသာဟူ၍လည်း မမှတ်ရာသတည်း။

ပြန်တန်သမျှ၊ပြန်ခွင့်ရှိသမျှ ပြန်ကြရသော သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်တို့သည် မရှိသင့်ပြီလောဟူအံ့။ ရှိသင့်ကုန်၏။ ရှိသင့်ကုန်၍ ပြန်ကြသော် သာသနာနှစ်ခေတ်သမယ ကာလမသင့်၍ ပြန်ခွင့်မရှိနိုင်ရာ။ သာသနာအပနှင့်သာ ကာလကြိုက်ကြုံရာ၏ ဟူ၍လည်းမမှတ်ရာ။ သာသနာတွင်း၌ပင် ပြန်ခွင့်သဘောလည်း ရှိသည်ပင်။

အဘယ်သို့နည်း။ အထက်နတ်ပြည်၌ စုတေခါနီးမှ သောတာပန်စသည်တည်၍ လူ့ပြည်မှာ ဖြစ်လာခြင်း၊ လူ့ပြည်မှာသက်တမ်း ၃ ခု၊ ၂ ခု၊ ထက်ဝက် စသည်ဖြင့် စုတေ၍ နတ်ပြည်၌ တစ်ဖန်ဖြစ်ပြန်ခြင်း၊ နတ်ပြည်၌လည်း ပိပဿနာ ဝီရိယာရဒ္ဓကြောင့် အာဟာရပြတ်၍ နတ်သက်မစေ့ခင် စုတေလာသဖြင့် လူ့ပြည်မှာ ဖြစ်လာခြင်း။ ဤသို့ စသောနည်းဖြင့် တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်၊ လေးကြိမ်တိုင်အောင်ပင် လူ့ပြည်မှာ သာသနာတွင်း၌ ပြန်ခွင့်ရှိလေသည်ဟူ၍လည်း မှတ်ရာသတည်း။

မဟာဗောဓိသတ္တ စသည်တို့သည် တစ်ခုသောကမ္ဘာ ဝိဝဋ္ဋဌာယီကပ်အတွင်း အထပ်ထပ်၊ လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာပြည်တို့၌ ဖြစ်ခြင်းသကဲ့သို့လည်းကောင်းပင် တည်း။ သက်တမ်းစေ့ လူ့ပြည်၊ နတ်ပြည် (၇)ကြိမ် ပြန်ဖြစ်ခြင်းသည်ကား မည်သည့် ဘုရားသခင် သာသနာမှာပင် မဖြစ်နိုင်ရာ။ သက်တော်အရှည်ဆုံး ဘုရားသည်လည်း အသက်တစ်သိန်းတမ်းမှာသာဖြစ်သဖြင့် တစ်သိန်းဆယ်ပြန်နှင့်လည်း စတုမဟာရာဇ် နတ်သက် (၉)သန်းကိုမျှ မမီနိုင်သောကြောင့်တည်း။

အကယ်၍ သာသနာသမယ ကာလမသင့် ဖြစ်ခွင့်မရှိခဲ့သော်ကား ဖြစ်ခွင့်ရှိရာ နတ်ပြည်၌ ဖြစ်ကြ၍ အရဟတ္တဖိုလ်သို့ ရောက်ကုန်မည်သာတည်း။ ကပ္ပဝိနာသအခါ ကမ္ဘာပျက်သောကာလ၌ နိယတမိစ္ဆာဒိဋ္ဌိ အယူရှိသောသူတို့မှတစ်ပါး များလှကုန်စွာ မဟာအဝီစိမှစ၍ သတ္တဝါတို့သည် ကာမာဝစရနတ်ဘုံ စသည်တို့၌ ဖြစ်ကုန်လျက် ဝါယောကသိုဏ်းကို ပွား၍ ရှာန်အားလျော်စွာ အထက်ဗြဟ္မာဘုံသို့သာ လားရာရှိသည့် အတိုင်း လားကုန်ကြသကဲ့သို့လည်းကောင်း၊ မေတ္တာပုဗ္ဗင်္ဂမ သောမနဿ ဉာဏသမ္ပယုတ် အသင်္ခါရိက တိဟိတ်ဥက္ကဋ္ဌ မဟာကုသိုလ်ကြောင့် ၎င်းနှင့်တူသော မဟာဝိပါက် စိတ်ဖြင့် ပဋိသန္ဓေနေတော်မူကုန်သော သဗ္ဗညုစသည်တို့သည် အသင်္ချေယျ အသက်တော် ရှည်ရာ ကုန်လျက် ပွင့်တော်မူရာ သက်တမ်းမျှသာတည်၍ ပရိနိဗ္ဗာန်ပြုကြကုန်သကဲ့သို့ လည်းကောင်းတည်း။

ထိုကဲ့သို့ပင် နိဗ္ဗာနိက ဣဓနိဋ္ဌာဖြစ်ကုန်သော သောတာပန်အရိယာပုဂ္ဂိုလ်တို့သည် မုဒိန္ဒြိယဖြစ်၍ (၇)ဘဝဖြစ်တိုက်ငြားသော်လည်း အဘဗ္ဗပုဂ္ဂိုလ်မဟုတ်ရကား ပစ္စယ ဝိသေသဘာဝနာဗလဖြင့် တိက္ခအဖြစ်သို့ ရောက်ကုန်၍ ခေတ်နှင့်လျော်စွာ လူ့ပြည်သို့ တစ်ကြိမ်၊ နှစ်ကြိမ်ပြန်ခြင်း။ လူ့ပြည်တစ်ဖန် မပြန်မလည်ကုန်ဘဲလည်း အထက် နတ်ပြည်တို့၌ အရဟတ္တဖိုလ်သို့ ရောက်နိုင်ခြင်းစသော သဘောရှိပေကုန်သတည်းဟူ၍ အသင့်ယူကျုံး နှလုံးပိုက်အပ်တော့သည်သာတည်း။ (သုဒ္ဓလ္လဘောဝါယံ ဝိနိစ္ဆယော)

မှတ်ချက်။ ။မန်လည်ဆရာတော်ကြီးသည် ဖော်ပြပါအကြောင်းတို့ကို အကျိုးအကြောင်း သာဓကစုံလင်စွာဖြင့် ကျကျနန ပြည့်ပြည့်စုံစုံ ဖြေကြားတော်မူပြီး ပုစ္ဆာရှင် လယ်တီဆရာတော်ကြီးထံ ပြန်ကြားခဲ့ရာ လယ်တီဆရာတော်ကြီးသည် အထူးနှစ်သက် ဝမ်းမြောက်တော်မူသည်။ သို့သော် မန်လည်ဆရာတော် ကြီး ပြန်ကြားသော "ဒေဝူပပတ္တိချည်း (၇)ဘဝ၊ မနုဿူပပတ္တိချည်း

(၇)ဘဝဖြစ်ခဲ့လျှင် ကေဗိဇိမျိုးသာ ဖြစ်၏။ သတ္တက္ခတ္တုပရမမျိုး မဟုတ်သော အနက်ကို ပြဆိုတော်မူခြင်းအပေါ် မရှင်းမလင်းသဖြင့် ဒုတိယအကြိမ် ပြန်လျှောက်ထားခဲ့ပြန်သည်။ မန်လည်ဆရာတော်ကြီးလည်း "ဤစကားတို့၌ ကေဗိဇိမျိုးဖြစ်သဖြင့်ဆိုသည်ကား– **ဣမေစကေဗိဇိနောဝ** ဟူသော နေတ္တိမဟာဋီကာကြီးနှင့်အညီ ဆိုအပ်သည်သာ ဖြစ်၏"ဟူသည်ဖြင့် ပြန်လည် ဖြေကြားတော်မူခဲ့သည်။

## စာရေးသူ၏ အထူးဖော်ပြချက်

ဗုဒ္ဓကိုရာဘုရားလောင်းလျာ မဟာဗောဓိသတ္တ ပိဋကတ္တယပါရဂူ စွယ်စုံပညာရှင်ကြီး ဖြစ်တော်မူသော ကျေးဇူးတော်ရှင် မန်လည်ဆရာတော်ကြီး၏ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးကို နှစ်ပေါင်းများစွာ ဖတ်ရှုလေ့လာရင်း ကျမ်းပြုဆရာတော်ကြီးနှင့် ကျမ်းပါအဆိုအမိန့်အဖွဲ့အနွဲ့များအား လွန်စွာအားရနှစ်ခြိုက်မိရာမှ သုတဂုဏ်၊ ပညာဂုဏ်၊ အလင်္ကာဂုဏ်ပေါင်းများစွာနှင့် ပြည့်စုံတော်မူသော ဆရာတော်ကြီးအား ကြည်ညိုသဒ္ဓါ ပြင်းပြစွာဖြင့် ဤစာအုပ်ကို ရေးသားပြုစုခဲ့ပါသည်။ ဆရာတော်ကြီး၏ ပညာဂုဏ် ကြီးမားပုံကို မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးတစ်စောင်တည်းဖြင့် ပင် ပြောမကုန် ဆိုမဝ ချီးပ၍ မကုန်နိုင်အောင် ဖြစ်ရသည့်နည်းတူ အခြားဆရာတော်ကြီးကိုယ်တိုင် စီရင်ရေးသားခဲ့သည့် ပညာဝိမံသကထာကျမ်းကြီးပါ ပုစ္ဆာဝိသဇ္ဇနာကျမ်း၊ ပဋ္ဌစတ္တာလီသပုစ္ဆာဝိသဇ္ဇနာကျမ်း၊ သတပဒိက ပုစ္ဆာဝိသဇ္ဇနာကျမ်း၊ သိမာဝိစာရဏာကျမ်း၊ ဒသသီလဝိနိစ္ဆယဝဓိရဂ္ဂဒီပနီကျမ်း၊ ရာမညေယျောဝါဒ ဝဓိရဂ္ဂကဏ္ဍိပဗ္ဗနှင့် မန်လည်ဥဒါန်းသြဘာကဗျာကျမ်း စသည်များကို ဖတ်ရှုလေ့လာရသဖြင့်လည်း အံ့ဖွယ်သရဲ ထူးကဲသော ဉာဏ် ပဋိဘာန်နှင့် ပိဋကတ္တယ၊ ဂန္ထန္တရသုတ ပညာရှင်ကြီးအဖြစ် ကြည်ညိုရင်းသဒ္ဓါဟုန်တို့သည် တဖွားဖွားပေါ်ပေါက်လာရပေသည်။

ထို့ကြောင့် ဤအခန်း၌ ဆရာတော်ကြီး၏ နက်နဲသော ပညာဂုဏ်ကို ဖော်ထုတ်၍ တစ်ပါးသူတို့အား မိမိနည်းတူ ကြည်ညိုသဒ္ဓါပွားစေလိုသဖြင့် လယ်တီဆရာတော်ကြီး မေးသော အမေးကို မန်လည်ဆရာတော်ကြီး ဖြေဆိုပြန်ကြားတော်မူသည့် ပုစ္ဆာဝိသဇ္ဇနာကျမ်းပါ အကြောင်းအရပ်ရပ်ကို မိမိဉာဏ်မီသမျှ မကျဉ်းမကျယ် ထုတ်နုတ်ဖော်ပြအပ်ပါသည်။ မရှင်းလင်း၍ အကျယ်ဖတ်လိုလျှင် မူလကျမ်းဖြစ်သည့် ပုစ္ဆာဝိသဇ္ဇနာကျမ်းကို ဖတ်ရှုလေ့လာကြပါကုန်။

# ၄။ ဆရာတော်ကြီး ရေးသားစီရင်အပ်သော အခြားအမေး အဖြေနှင့် အဆုံးအဖြတ်ကျမ်းများ

## ၁။ ပဥ္စတ္တာလီသ ပုစ္ဆာဝိသဇ္ဇနာကျမ်း

ဤကျမ်းမှာ အလယ်တောရဆရာတော်မေးတော်မူ၍ မန်လည်ဆရာတော်ကြီး ဖြေဆိုအပ်သော ကျမ်းတစ်ဆူ ဖြစ်သည်။ ပိဋကတ်တော်လာ နိကာယ်ငါးရပ်ဆိုင်ရာ ကျမ်းအဆူဆူမှ ဉာဏ်လွှာနဲနက်၊ အခက်အခဲများထဲမှ ခွဲခြားရွေးနုတ်ကာ မေးမြန်းထားသည့် မေးခွန်းပေါင်း (၄၅)ပုဒ်နှင့် အဖြေ (၄၅)ပုဒ်ကို ထည့်သွင်းထားသဖြင့် ဖတ်ရှုသူ ရဟန်းရှင်လူတို့အဖို့ အကျိုးများစေနိုင်ပါသည်။

ဤကျမ်းထဲပါရှိသော ပုစ္ဆာ (၄၅)ပုဒ်နှင့် အဖြေ (၄၅)ပုဒ်စလုံးသည် စကားပြေ ရိုးရိုးနှင့်မဟုတ်ဘဲ လေးချိုး၊ ဒွေးချိုး၊ ကဗျာ လင်္ကာအဖွဲ့များဖြင့် ရေးသားဖော်ပြထားသဖြင့် ထူးခြားလေးနက်လှပေသည်။ အခြားတစ်ဖက်တွင်လည်း ဆရာတော်ကြီးနှစ်ပါး၏ ဂမ္ဘီရဉာဏ်၊ ဇဝနဉာဏ်နှင့် စာပေကျမ်းဂန်အမျိုးမျိုး၌ တတ်ပွန်လိမ္မာတော်မူကြကြောင်း လှစ်ဟဖော်ကျူးနေသကဲ့သို့ ရှိချေသည်။

ဥပမာအားဖြင့် ဖော်ပြရလျှင်–

၁။ ပဌမပုစ္ဆာ။ ။ ဥမင်ကိုဖီလာဆီး၊ တောင်ကြီးတဲ့ဝိဇ္ဇာ။ ။ တိုက်ပြီးလျှင် သွယ်ဖြာခဲ့၊ စိမ်းလဲ့ညိုပြာ။ ။ မြစ်ဂင်္ဂါဘယ်မျှသာ ရှည်လျား။ ။ အဏ္ဏဝါ ရေယဉ်ကျအောင်၊ မိန့်ပထင်ရှား။

အဖြေ ။ ။ ဥမင်ကိုဖီလာဆီး၊ တောင်ကြီးတဲ့ဝိဇ္ဇာ။ ။ တိုက်ပြီးလျှင် သွယ်ဖြာခဲ့၊ စိမ်းလဲ့ညိုပြာ။ ။ မြစ်ဂင်္ဂါအတာရှည်လျား။ ။ အဏ္ဏဝါရေယဉ်ကျ အောင်၊ ယူဇနာငါးရာပြ၊ ကျမ်းကထင်ရှား။

၁။ အဌမပုစ္ဆာ။ ။ နာနာတဲ့ဝိနာ။ ။ အညထာဘာဝသုံး၊ အာလုံးသိပါ။ ။ ဖြစ်ခြင်းရာ စိတ်ဖြာဝေခြမ်း။ ။ ဖြေသည့်သူဂုဏ်ရောင်ပွင့်အောင်၊ ညွှန်းဖွင့် ပါစမ်း။

အဖြေ ။ ။ မျိုးကွဲတဲ့နာနာ။ ။ သေကွဲလျှင်ဝိနာနှင့်၊ အညထာဘာဝကွဲ၊ ခွဲ၍မှတ်ပါ။ ။ အဌကထာဋီကာအရ။ ။ ပဏ္ဍိတ်ဓိပ္ပာယ်နှင့်၊ သိလွယ်ရုံမကျယ်ဝန်း၊ ညွှန်းဖြေလို့ပြ။

၃၂။ ဗာတ္တိံသတိမပုစ္ဆာ။ ။ လေးသင်္ချေလွန်လေဘိ၊ သိန်းကပ်ရှိခေတ်တွင်။ ။ အဖန်ဖန်ကျင်လည်ရောင်း၊ လောင်းတို့သခင်။ ။ သာသနာဝင်၊ ဖြစ်သည်လျှင်ရဟန်း။ ။ ကိုးကြိမ်မျှ ရေတွက်တယ်၊ ဘယ်စိန္တေ ရှင်တော်ပွဲမှာ၊ နွှဲခဲ့လေမှန်း။

အဖြေ ။ ။ လေးသင်္ချေလွန်လေဘိ၊ သိန်းကပ်ရှိခေတ်တွင်။ ။ ကောဏ္ဍညာ့ သုမင်္ဂလနှင့်၊ သုမေဓာသုဇာတ၊ ဖုဿဝေဿဘူက၊ ကကုသန် ကောဏာဂ၊ ကဿပရှင်။ ။ ကိုးပါးတွင်သည်ပင်သာပါတဲ့။ ။ တို့လောင်းတော်မြတ်စွာ၏၊ သာသနာကိုးကြိမ်လမ်းကို၊ ကျမ်းက မှာခဲ့။

ဤသို့ကစသော အကြောင်းအရာများနှင့် ဝမ်း၊ ခြေ၊ လက်၊ ဦးခေါင်းနှင့်တူသော တရားများ၊ အဂ္ဂသာဝကနှစ်ပါးတို့၏ သက်တော်နှင့် သိက္ခာတော်၊ ပုထုဇဉ်တို့၏ သန္တာန်၌ရှိသော များစွာသောဟိတ်၊ ကဲ့ရဲ့သူ၊ ချီးမွမ်းသူတို့ အပြစ်တူကြပုံ စသည်တို့ကို စိတ်ဝင်စားဖွယ်ရာ တင်ပြထားသည်။ အကျယ်ကို ထိုကျမ်း၌ ဖတ်ရှုပါကုန်။

## ၂။ သတပဒိက ပုစ္ဆာဝိသဇ္ဇနာကျမ်း

ဤကျမ်းမှာ မန်လည်ဆရာတော်မေး၍ မင်းကွန်းအလယ်တောရ ဆရာတော်ကြီးက ပြန်လည်ဖြေကြားတော်မူသော ကျမ်းတစ်ဆူ ဖြစ်သည်။ ဤကျမ်းသည် ဆရာတော်ကြီး၏ နံ့စပ်ပြည့်စုံသော လောကီ လောကုတ္တရာ အသိအမြင်များကို ညွှန်ပြနေပေသည်။ လူပြောသူပြောများပြီး အထောက်အထား ခိုင်လုံစွာမရှိသည့် ဉာဏ်စမ်းပုစ္ဆာ အချို့ကို သုတေသီများအတွက် မေးမြန်းထားခြင်းဖြစ်သည်။ ထိုပုစ္ဆာများကို ဖြေကြားတော်မူသော မင်းကွန်းအလယ်တောရဆရာတော်၏ ပညာဉာဏ် ဗဟုသုတများကိုလည်း ကြည်ညိုနိုင်ပေသည်။ ဤကျမ်းတွင် လင်္ကာအဖွဲ့ဖြင့် ရေးသားထားသော မေးခွန်း (၁၀၀)၊ အဖြေ (၁၀၀)ပါဝင်သည်။

ဥပမာအဖြစ် ကောက်နုတ်တင်ပြရလျှင်–

မေး–၁။ ။ သီလဝန်မထေရ်မြတ်၌ ပညတ်ဖြင့်သင့်လျော်။ ။ ပုံနှုန်း၍ခေါ်။ ။ မြတ်ရှင်တော်ဟောတော်မူဘိ။ ။ ကုစ္ဆိပါဒေနှင့်၊ လက်ဟတ္ထေသီသများ၊ ဘယ်တရားပေသိ။

ဖြေ ။ ။ သမာဓိကိုဝမ်း၊ သီလကိုခြေ၊ သဒ္ဒါကို လက်၊ ဉာဏ်ကို ဦးခေါင်း- အစဉ်သင့်ယထာက္ကမနည်း၊ ယထာသမ္ဘာနည်းယူလေဟူလို။ (နိဒါနဝဂ်၊ ကဿပသံယုတ်၊ စန္ဒောပမသုတ် အဋ္ဌကထာ။) ၎င်းသုတ်ပါဠိတော်၌ကား တရားကိုယ်သရုပ်အားဖြင့် ထင်ရှားအောင် ဟောတော်မမူ၊ အဋ္ဌကထာ ကိုယ်သရုပ်အားဖြင့် ထင်ရှားအောင် ဘုရားသခင် ဟောတော်မမူ၊ အဋ္ဌကထာ၌ တရားကိုယ်သရုပ်နှင့်တကွ ဥပမာ ဥပမေယျထင်အောင် ဖွင့်ပြတော်မူသည်။

မေး-၂။ ။ လေးပါးတဲ့မဂ်ဉာဏ်။ ။ ဆအသာဂုဏ်ဝါစု၊ သဗ္ဗညုဉာဏ်။ ။ ထိုနှစ်တန် ဘယ်ဉာဏ်ကတန်ခိုး။ ။ မြတ်သည့်ဂုဏ်တေဇာတောက်၊ ကဲမောက်၍မိုး။

ဖြေ ။ ။ လေးပါးတဲ့မဂ်ဉာဏ်။ ။ ဆအသာဂုဏ်ဝါစု၊ သဗ္ဗညုဉာဏ်။ ။ ထိုနှစ်တန် မဂ်ဉာဏ်ကတန်ခိုး။ ။ တိက်၊ ဒုက်ကိုဝေဖန်ပုံက၊ မြတ်သည့် ဂုဏ်တေဇာတောက်၊ ကဲမောက်၍မိုး။ (ဟီနတိက်၊ သဉတ္တာရဒုတ် စသည်တို့နှင့် အညီတည်း။)

မေး-၃။ ။ သဘောမှန်အနက်ကင်း၊ ပြိန်ဖျင်းသည့်ဝါစာ။ ။ အင်နှစ်ဖြာစုံညီ ကြိုက်လျက်၊ ကံမထိုက်ပါ။ ။ အိပ်မက်လည်းမဟုတ်ပါ၊ ကျမ်းလာဘဲ့မလွဲ။ ။ ဘယ်အင်္ဂါ ဘယ့်နှယ်ချွတ်လို့၊ လွတ်ရသလဲ။

ဖြေ ။ ။ သဘောမှန်အနက်ကင်း ပြိန်ဖျင်းတဲ့ဝါစာ။ ။ အင်နှစ်ဖြာစုံညီ ကြိုက်လျက်၊ ကံမထိုက်ပါ။ ။ အိပ်မက်လည်း မဟုတ်ပါ၊ ကျမ်းလာဘဲ့မလွဲ။ ။ နာတဲ့လူ မယုံချွတ်လို့၊ လွတ်ရသဘဲ။

သီတာ၊ ရာမ စသော အကျိုးမဲ့စကားကို ရေးရှုခြင်း၊ ယင်းစကားကို ပြောခြင်း၊ အင်္ဂါနှစ်ပါးနှင့်ညီသော် နာသူမယုံလျှင် ကံမမြောက်၊ ယုံမှ မြောက်သတည်း။

မေး-၄။ ။ ရေးချုချာ၊ မေးပုဆာထင်တော်ရှိနှင့်၊ သာကီနွယ်ဘုန်း။ ။ ဝိသာခါ ပရရွှေနိမ္မာက၊ ဘယ်ဗြဟ္မာဘုံကိုယွန်းလို့၊ ထွန်းတောက်မတုံး။

ဖြေ ။ ။ ရေးချုချာ၊ မေးပုဆာ ထင်တော်ရှိပါဘု၊ သာကီနွယ်ငဲ့။ ။ ဝိသာခါပရရွှေနိမ္မာက၊ အဝိဟာဘုံကိုယွန်းလို့၊ ကွန်းထောက်မည်ကွဲ့။

အထက်ဖော်ပြပါ အမေးအဖြေများမှာ ဆရာတော် အမေး (၁၀၀)၊ အဖြေ (၁၀၀)ပါ သတပဒိကပုစ္ဆာ ဝိသဇ္ဇနာကျမ်းမှ ကောက်နုတ်ချက် ဖြစ်ပါသည်။ ပိဋကတ်တော်လာ အဆိုအမိန့်များ၊ အဋ္ဌကထာ ဆရာမြတ်တို့၏ ဖွင့်ဆိုချက်များမှ မွှေနှောက်ထုတ်နုတ်၍ ခက်ခဲ နက်နဲသော ပုစ္ဆာများကို အကိုးအထောက် စုံလင်စွာဖြင့် ဖြေဆိုထားပုံမှာ ဆရာတော်ကြီး၏ သုတကြွယ်ဝခိုင်ခံ့ပုံကို ကြည်ညိုနိုင်ပါသည်။

**ပဏ္ဍာမြားငမောက်စာပေ**

ဤကျမ်းတွင် အခြားမေးခွန်းများဖြစ်သော နေမိမာန်၌ ဒေါင်းရုပ်ရှိမရှိ၊ ကိုယ့်ဥစ္စာ ကိုယ်ပေး၍ အပါယ်ကျသူများ၊ နိယတပုဂ္ဂိုလ်သုံးဦး၊ လူပုဂ္ဂိုလ်ကမ္ဘဝါရွတ်ကကံချွတ်– မချွတ်၊ နည်းနှစ်ပါးဖြင့် ဝိထိကျခြင်း၊ မသေရာသော အချိန်ကာလ၊ ကိတ်၊ အာချာတ် နှစ်မျိုးရသောပုဒ်များ၊ ငါးရာငါးဆယ်ဇာတ်တော်ဖြစ်ရာ ကပ်ကမ္ဘာ စသည်တို့ကိုလည်း ထည့်သွင်းထားပါသည်။ ထိုကျမ်းတွင် အကျယ်ရှုကြပါကုန်။

## ၃။ ပညာဝိမံသနကထာကျမ်း

ဤကျမ်းမှာ ဆရာတော်ထံမှ မင်းကြီးမဟာ မင်းခေါင်ဇေယျသူထံပေးစာများ၊ မင်းကြီးမဟာမင်းခေါင်ဇေယျသူထံမှ ဆရာတော်ထံ လျှောက်ကြားစာ (မေတ္တာစာ) များနှင့် လျှောက်ထားသူ၏ အမေးပုစ္ဆာ၊ ဖြေကြားသူ၏ အဖြေဝိသဇ္ဇနာ၊ အခြားသော တကာတို့၏ လျှောက်ထားချက်များ စသည်ဖြင့် ပုဒ်ရေ (၂၁)ပုဒ် ပါဝင်ပေသည်။ ပုစ္ဆာများသည် ဖြေဆိုသူ၏ ပညာအရည်အချင်းကို စမ်းသပ်လို၍ မေးထားခြင်းဖြစ်ရာ ဖြေဆိုသူ၏ ဉာဏ်ပဋိဘာန်ကို ဤကျမ်း၌ အထင်အရှား တွေ့နိုင်သည်။ လျှောက်ထားချက်၊ ပုစ္ဆာ၊ မေတ္တာစာ၊ ဝိသဇ္ဇနာများကို စကားပြေဖြင့်လည်းကောင်း၊ လင်္ကာအဖွဲ့ဖြင့်လည်းကောင်း ဖော်ပြထားသည်။

ကျမ်းပါပေးစာ၊ ပြန်စာများမှာ ရှည်လျားသဖြင့် သီးခြားကောက်နုတ် ဖော်ပြခြင်းမပြုတော့ဘဲ စာရှုသူများ သိသာရုံမျှ၊ လိုရင်းတိုရှင်း ရေးသားထားသော ပုစ္ဆာနှင့် ဝိသဇ္ဇနာအချို့ကိုသာ ဖော်ပြလိုက်ရပါသည်။

### ဒကာတစ်ယောက် လာရောက်လျှောက်ထားသည့် အမေးပုစ္ဆာ

စက္ခုသောတနှင့်၊ ဃာနလည်းမမြင်၊ စွယ်တစ်ချောင်းဟန်ပြင်သည်၊ မုခတွင်မမြဲ။ ။ မသွားတတ်မလှမ်းနိုင်သည်၊ တံကျင်ပြိုင် လျှိုနှက်လို့ခွဲ။ ။ ဒေါသစိတ်ဆိတ်မပါတယ်၊ အိပ်ရာကထဘဲ။ ။ မြေပြင်မှာ မှောက်လဲလို့၊ ဘယ်နှစ်ပဲကြာကြာ။ ။ ခန္တီစတရားကို၊ ထောက်ထားလို့ သည်းခံတော့သာ။ ။ ဘုံသုံးပါးအရသာကို၊ မစားရာပယ်ပစ်လို့၊ မာန်ယစ်တဲ့ ကိလေသာ၊ ဝေးကရှောင်ခွာ။ ။ အဝိဉ–သဝိဉာဏ်၊ ပုဂ္ဂိုလ်သာ ရွေးပါတော့လေး။

### ဆရာတော်ကြီး ပြန်ဖြေတော်မူသော ဝိသဇ္ဇနာ

ပုစ္ဆာတော်ပြုချက်ဖြင့်၊ တုဖက်ခွင့်မမြင်၊ လူ့သက်ရှိကဲ့အသွင်ကို၊ ချဲ့ထွင်လို့တင်စား။ ။ ပညတ်နှင့် ပရမတ်ကိုနှောင်သည်၊ မှတ်ထင်ယောင်မေးချက်ကများ။ ။ စွယ်တစ်ချောင်း မမြဲလေသည်၊ ကျည်ပွေ့ပေတကား။ ။ မရွေ့စေမလှုပ်ရှားအောင်ပ၊ ဂလန့်ခါးတံကျင်လျှိုနှက်ခါ၊ မြေပေါ်ထက်မှာ။ ။ လဲမှောက်လျက်အမြဲပါပင်၊ ဆန်စပါးပုံအယင်ကို၊ သူ့ထံတွင် ပစ်ကာထားသော်လည်း၊ သစ်သားမို့ သူ့ခမျာ၊ မစားတတ်ရှာ။ ။ လူတွေ့တိုင်း နင်းချက်နာသည်၊ ခန္တီဝါဆန်မောင်းတဲ့လေး။

**ပဏ္ဏမြားမောက်စာပေ**

မှတ်ချက်။ ။ စပါးထောင်းသည့် ကျည်ပွေ့ (ဆန်မောင်း) ကို စကားထာဝှက်၍ မေးထားသည်။

## ၄။ သိမာဝိစာရဏာကျမ်း

ဤကျမ်းမှာ သီဟိုဠ်ရဟန်းတော်တို့က ဝိသုံဂါမသိမ်နှင့်စပ်လျဉ်း၍ မန္တလေးမြို့ရှိ ဆရာတော်များထံ လျှောက်ထားလာရာ ထိုဆရာတော်များအနက် ဝဇိရာရာမဆရာတော်ကြီး၏ တိုက်တွန်းတော်မူချက်အရ မန်လည်ဆရာတော်ကြီး ဆုံးဖြတ် စီရင်ရေးသားတော်မူသော ကျမ်းဖြစ်သည်။

ဤကျမ်း၌ ဝိသုံဂါမသိမ်၊ ဥဒကုက္ခေပသိမ်၊ သိမ်နုတ်ခြင်းဆိုင်ရာ အကြောင်းတို့ကို ဖွင့်ဆို၍ ယင်းသိမ်များ၏ ဝိနိစ္ဆယ အဆုံးအဖြတ်များကို ဝိနည်း၊ အဋ္ဌကထာများနှင့်အညီ ပါဠိ၊ မြန်မာဘာသာတို့ဖြင့် စီရင်ရေးသားထားသည်။ ရဟန်းတော်များနှင့် ဘာသာရေးသုတေသီများအဖို့ လက်စွဲကျမ်းတစ်ဆူ ဖြစ်လေသည်။

## ၅။ ဒသသီလ ဝိနိစ္ဆယဝဇိရဂ္ဂဒီပနီကျမ်း

ဤကျမ်းကို ဆရာတော်ကြီးသည် ပထမရွှေကျင်ဆရာတော်၊ ဒုတိယ ရွှေကျင်ဆရာတော်ကြီးတို့၏ တိုက်တွန်းချက်ဖြင့် စီရင်ရေးသားခဲ့သည်။ ရာမညဒေသ၊ ပုသိမ်မြို့နေ အရှင်ပဒုမ၏ လူပုဂ္ဂိုလ်များ ဒသသီလခေါ် ဆယ်ပါးသီလကို စောင့်ထိန်းရန် သင့် မသင့်၊ အပ် မအပ်ဟူသော ပြဿနာကို ကျမ်းငယ်တစ်စောင်ရေး၍ အဆုံးအဖြတ်ပြုထားခြင်းနှင့် စပ်လျဉ်း၍ အရှင်ပဒုမက လူပုဂ္ဂိုလ်များ ဒသသီလကို ရွေးရိုးဟောင်းရွှေငွေ စသည်ကို အလုံးစုံ အာလယပြတ်ကင်း၍ မစွန့်နိုင်လျှင် ဆောက်တည် ကျင့်သုံး၍ မရဟု ဖော်ပြခဲ့သည်။

ယင်းဖော်ပြချက်နှင့် ပတ်သက်၍ ရှိဟောင်းရွှေငွေများကို အာလယပြတ် မစွန့်သော်လည်း ဒသသီလကို လူတို့ဆောက်တည်ကောင်းကြောင်း၊ ရှိဟောင်း ရွှေငွေကို ဒသသီလဆောက်တည်ပြီးနောက် ငါ့ရွှေ၊ ငါ့ငွေရှိသည်ဟူ၍ အောက်မေ့နှစ်သက် သာယာမိသော်လည်း သီလမပျက်၊ အပြစ်မရှိကြောင်းပြဆိုသော ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန်များနှင့် ညီညွတ်သည့် ရှေးဆရာတော်ကြီးများ အဆုံးအဖြတ်များအတိုင်း တည်စေပြီး ငြင်းခုံပြောဆိုမှုမရှိ၊ ငြိမ်းအေးသွားစေရန် ဒသသီလ ဝိနိစ္ဆယကျမ်းတစ်စောင်ကို ပြေပြစ်ချောမောစွာ ရေးသားစီရင်ပေးပါမည့်အကြောင်း လျှောက်ထားလာသဖြင့် ဤကျမ်းကို ရေးသားရခြင်း ဖြစ်လေသည်။

ဤကျမ်းတွင် ဆရာတော်ကြီးသည် သီလဆောက်တည်ခြင်း၏အကျိုး၊ ဆယ်ပါးသီလဆောက်တည်သူများ၊ ဥပုသ်စောင့်ရန် နေ့ရက်များ၊ ဥပုသ်အဆုံးအဖြတ်၊ ပုဒ်အဆုံးအဖြတ်နှင့် ရွတ်ဖတ်သံများနှင့် ခံယူတည်ဆောက်ပုံ၊ နိဂုံးစသည်ဖြင့် စေ့စုံစွာ ရေးသားထားပေရာ သီလဆိုင်ရာ အလင်းပြကျမ်းကြီးတစ်ဆူဟုပင် ခေါ်ဆိုထိုက်လှပေသည်။

## ၆။ ရာမညဒေသဗျောဝါဒ ဝဇီရဂ္ဂဂဏ္ဌိပဗ္ဗကျမ်း

ဤကျမ်းသည် မန်လည်ဆရာတော်ကြီးက ဆယ်ပါးသီလအရေးနှင့် ပတ်သက်၍ ပုသိမ်ဆရာတော် ဦးပဒုမထံသို့ ရေးသည့်ကျမ်းဖြစ်သည်။ ဆရာတော်ကြီး၏ ပိဋကတ်ကျမ်း နှံ့စပ်ကျွမ်းကျင်တော်မူပုံနှင့် လူတစ်ဦးတစ်ယောက်၏ လွဲမှားနေသော အယူဝါဒတစ်ခုကို လမ်းမှန်ပေါ်ရောက်အောင် ဆွဲဆောင်ရေးသားနိုင်စွမ်းရှိသည့် ဂုဏ်အရည်အသွေးများကို ထွန်းတောက်စေသည့်ကျမ်း ဖြစ်သည်။

ဤကျမ်းကို ရေးသားတော်မူရခြင်းမှာ ဆရာတော်၏ ဒသသီလ ဝိနိစ္ဆယ ဝဇီရဂ္ဂဒီပနီကျမ်း၌ ပါရှိသော စကားရပ်အချို့ကို ပုသိမ်ဆရာတော် ဦးပဒုမက ပြစ်တင်ရေးသားလာသဖြင့် ဆရာတော်က ပြန်လည် ဖြေကြားရေးသားခြင်း ဖြစ်သည်။ ဆရာတော်သည် ဤကျမ်း၌ ဒသသီလနှင့် ရွှေငွေတို့ အပ်စပ်မှု ရှိ မရှိသဘောကို ကျမ်းဂန်၊ ဋီကာများစွာကို ကိုးကား၍ ရေးသားထားပေရာ ဘာသန္တရ၊ ဂန္ထန္တရဆိုင်ရာ သုတလိုလားသူ ရဟန်းရှင်လူများအား အကျိုးများစေမည်မှာ အမှန်ပင် ဖြစ်ပေသည်။

## ၇။ မန်လည်ဥဒါန်း ဩဘာကဗျာကျမ်း

ဤကျမ်းသည် မန်လည်ဆရာတော်ကြီး၏ ပုသိမ်ရွှေမုဋ္ဌောစေတီတော်အကြောင်းများနှင့် ဩဝါဒကထာများကို စုစည်းကာ တင်ပြထားသော ကျမ်းဖြစ်သည်။ ယင်းကျမ်းထဲတွင် မန်လည်ဆရာတော်ကြီး၏ ဒသသီလကို လူတို့စောင့်ထိန်းအပ်ကြောင်း ဝိနိစ္ဆယစာတမ်းကို ပုသိမ်မြို့ဆရာတော် ဦးပဒုမက မအပ်ကြောင်း ခုခံ၍ စာအုပ်ရေးထုတ်ပြန်ရာ သာသနာပိုင် သုဓမ္မာဆရာတော်တို့က မန်လည်ဆရာတော် ဆုံးဖြတ်တင်ပြသော စာတမ်းကို အတည်ပြု၍ ဦးပဒုမရေးသောစာအုပ်ကို မီးဖုတ်ပစ်ရမည်ဟု အမိန့်တော်ထုတ်ပြန်ချက်အရ ရေးသားသော လေးချိုးကြီးလေးပုဒ်၊ အနုဂ္ဂဟစာတမ်း၊ ဦးမောင်ကလေး၏ လျှောက်လွှာ၊ ပုသိမ်မြို့ ရွှေမုဋ္ဌောစေတီတော်တွင် ခတ်ကြီးမြှုပ်သွင်း ပူဇော်ခြင်းကြော်ငြာစသည်တို့နှင့် စပ်လျဉ်း၍ ဦးပဒုမအသင်းက ကုသိုလ်မဖြစ်၊ အကုသိုလ်ဖြစ်သည်ဟူ၍ဆိုပြီး မန်လည်ဆရာတော်၏ ပထမဆုံးဖြတ်တော်မူသော အမိန့်တော်ကို မနာယူပြန်သဖြင့် ဒုတိယအကြိမ် ဆုံးဖြတ်တော်မူသော မန်လည်ဆရာတော်ကြီး၏ အမိန့်တော်စာတမ်း၊ ပုသိမ်မြို့ ဆရာမြက မန်လည်ဆရာတော်ကြီးထံ သတိပေးလျှောက်ထားသည့် မန်လည်ပြန်စာတမ်း၊ ဦးအာသံရေးသားသည့် မန်လည်ပြန်လေးချိုးများ၊ ပုသိမ်မြို့ ဦးပဒုမထံ မန်လည်ဆရာတော် ပြန်ရေးသည့် ကုသိမောဝါဒချိုးအပုဒ် (၂၀)၊ ပုသိမ်မြို့ကို မ–အက္ခရာသတ်သင့်ကြောင်း မန်လည်ဆရာတော်ထံပြန်စာ၊ ဒွေးချိုး၊ လေးချိုး၊ တေးထပ်၊ သဖြန်များ ပါဝင်ပေသည်။

ဤကျမ်းတွင် ဆရာတော်ကြီး၏ စာပေကျမ်းဂန် နှံ့စပ်ကျွမ်းကျင်မှုဂုဏ်၊ သာသနာတော် ညစ်နွမ်းကျဆင်းမည့်အရေးကိစ္စများတွင် မဆုတ်မနစ် ရှေ့တန်းက ပါဝင်ကာ သာသနာ့ဆူးငြောင့်ခလုတ်များကို ရှင်းလင်းဖျောက်ဖျက်ပေးတတ်ပုံနှင့် ထိုခေတ် ထိုအခါ

က သာသနာ့ဥဿျှောင် သာသနာပိုင်ဆရာတော်ကြီးများကပင် မန်လည်ဆရာတော်ကြီး၏ ပညာအရည်အသွေးကို အသိအမှတ်ပြု အားကိုးကြပုံတို့ကို ကြည်ညိုဖွယ်ရာ တွေ့မြင်ဖတ်ရှုနိုင်ပါသည်။

## ၈။ ဝိသဇ္ဇနရာသိကျမ်း

မန်လည်ဆရာတော်ကြီးက မြန်မာပြည်၊ သီဟိုဠ်ပြည်အရပ်ရပ်တို့မှ ရောက်လာကုန်သော ပုစ္ဆာတို့ကို သတ္တဝါအများ ယုံမှားသံသယကင်းစေရန် ပါဠိကျမ်းဂန်၊ အဋ္ဌကထာများမှလာသော အဆိုအမိန့်များနှင့်အညီ သိကြားစက်ရိုန် ဝရဇိန်သွား ရွပ်ရွပ်ဝါးသကဲ့သို့ ဖြေကြားစီရင် ဆုံးဖြတ်စီရင်တော်မူအပ်သော ကျမ်းမြတ်တစ်ဆူ ဖြစ်သည်။

ယင်းကျမ်းတွင် စေတီပြုပြင်ခြင်း အဆုံးအဖြတ်၊ ကထိန်အဆုံးအဖြတ်၊ အမွေခံအဆုံးအဖြတ်၊ ရဟန်းလူထွက် ပုဂ္ဂလိက အဆုံးအဖြတ်၊ နီလကဟာပဏ အဆုံးအဖြတ်၊ ဝတ္တဝိနိစ္ဆယ (၁)၊ ဝတ္တဝိနိစ္ဆယ (၂)၊ နိဗ္ဗာန်အဆုံးအဖြတ်၊ စိဝရဝိသဇ္ဇနာခေါ် ကထိန်သင်္ကန်း အဆုံးအဖြတ်၊ ဦးနဝိသတိဝဿ ဝိသဇ္ဇနာ၊ သက္ကာယဒိဋ္ဌိဝိသဇ္ဇနာ၊ ဂေါလောမာဝိလောမဝိသဇ္ဇနာ၊ ရဟန်းတရားစွဲဝိသဇ္ဇနာ၊ ဗောဓိဘိက္ခုဝိသဇ္ဇနာ၊ ဥပသမ္ပဒကံ အဆုံးအဖြတ် ဝိသဇ္ဇနာ၊ ဥပသမ္ပဒကမ္မဝါဝိသဇ္ဇနာ၊ အိမ်တွင်းဝဇ္ဇနိယ ဝိသဇ္ဇနာ၊ ဆရာတော်ကြီး၏ သက်တော်ဝါတော် ဘွဲ့တေးထပ်နှစ်ပုဒ်တို့ ပါဝင်သည်။

ဆရာတော်သည် အထောက်အထားပြည့်စုံစွာဖြင့် ထိုထိုသော အငြင်းပွားဖွယ်အဆိုများကို တိကျပြတ်သား ရဲဝံ့စွာ အဆုံးအဖြတ် ပေးတော်မူခဲ့သည်။ အဆုံးအဖြတ်များပေးရာတွင် စကားပြေ၊ လင်္ကာ၊ ပါဠိဘာသာတို့ဖြင့် အလျဉ်းသင့်သလို ထည့်သွင်းဖွင့်ဆိုထားပေရာ နောင်းခေတ်ဘာသာရေး သုတေသီများအဖို့ အဖိုးထိုက်လှပေသည်။

## ၉။ မင်္ဂလာရတုပေါင်းချုပ်

ဤကျမ်းပါ အရေးအဖွဲ့များသည် ဆရာတော်ကြီး၏ အလင်္ကာ ကဗျာဉာဏ်ရည်မည်မျှကြီးမားကြောင်းကို ဖော်ပြနေပေသည်။ မြတ်စွာဘုရားဟောကြားသော နိပါတ်တော်လာ ဇာတကများစွာထဲက ဇာတက (၁၀)ခုနှင့် ဗုဒ္ဓလောင်းလျာ သန္ဓေယူခန်း၊ ဖွားတော်မူခန်းတို့ကို ရတုလင်္ကာများအဖြစ် ဖွဲ့ဆိုရေးသားထားသည်။ ဆရာတော်ကြီးသည် ထိုထိုသော ဇာတကများထဲမှ အများလည်း စိတ်ဝင်စားစေ၊ ဘာသာရေးအတွေးအမြင်များလည်း မှန်ကန်ခိုင်မြဲစေ၊ အသိအလိမ္မာလည်း တိုးပွားစေနိုင်သည့် အကြောင်းရပ်များကို ရွေးထုတ်၍ ပေါ်လွင်ပြောင်မြောက်သော လူ့စရိုက်၊ လူ့သဘာဝအဖွဲ့များနှင့် ရသဂုဏ်မြောက်စွာ ရေးဖွဲ့ထားသည်။

ဆရာတော်ကြီးသည် အတွေးအခေါ် ရင့်ကျက်နှံ့စပ်သူပီပီ တင်ပြလိုသော အကြောင်းကို ရဲဝံ့ပြတ်သားစွာ ရေးတတ်သည်သာမက စာရှုသူများ နားဝင်ဆိမ့်ပြီး နာချင်စဖွယ်၊ ဖတ်ချင်စဖွယ်ဖြစ်လာအောင် လင်္ကာဂုဏ်မြောက်စွာရေးဖွဲ့နိုင်သူဖြစ်သဖြင့်

မန်လည်ဆရာတော်၏ စာဆိုလျှင် အများက အထူးစိတ်ဝင်တစားရှိရခြင်းဖြစ်လေသည်။ အထူးသဖြင့် ငြီးငွေ့ခြင်းကို ပယ်ပျောက်စေ၍ စာဖတ်သူ စိတ်ဓာတ်ရွှင်လန်း တက်ကြွအောင် ဟာသရသများကို သင့်သလို ထည့်သွင်းစပ်ဆိုနိုင်ခြင်းပင် ဖြစ်ပေသည်။

ဤမဂ်လာရတုပေါင်းချုပ်တွင် အောက်ပါရတုများ ပါဝင်ပါသည်။

၁။ အသဒိသ ရတု

၂။ ဝိဓုရ ရတု

၃။ ပဒုမ ရတု

၄။ အယောဃရ ရတု

၅။ သမ္ဘုလ ရတု

၆။ ကုသ ရတု

၇။ စန္ဒကိန္နရီရတု

၈။ ပေါရိသာဒ ရတု

၉။ ဥတေန ရတု

၁၀။ သံဝေ္ဂယူခန်း၊ ဖွားတော်မူခန်း ရတု

၁၁။ ဆာဝါ ရတု တို့ဖြစ်ပါသည်။

ဆရာတော်ကြီး ရေးဖွဲ့စီရင်သော ရတုများသည် မည်ကာမတ္တများမဟုတ်ချေ။ ဇာတကတစ်ခုပါ ဇာတ်လမ်းကြီးတစ်ခုလုံး ရုပ်လုံးပေါ်လာစေရန် ပိုဒ်ရေများစွာခွဲပြီး ရှည်လျား ပြည့်စုံစွာ ရေးဖွဲ့ထားသည့် ရတုများဖြစ်ကြသည်။ ထိမိခြင်း၊ ပြောင်မြောက်ခြင်း၊ ပေါ်လွင်ခြင်း၊ သာယာနာပျော်ဖွယ်ရှိခြင်း၊ အတ္ထာလင်္ကာရ၊ သဒ္ဒါလင်္ကာရတို့ဖြင့် အလင်္ကာဂုဏ်မြောက်စွာ ရေးဖွဲ့နိုင်ခြင်းဟူသော ဂုဏ်အရည်အသွေးများကြောင့် မြန်မာစာပေ ဂန္ထဝင်တွင် ထင်ရှားလှသည်။

ဆရာတော်၏ လက်ရာအချို့ကို စာမြည်းအဖြစ် ထုတ်နုတ်ပြပါမည်။

(၁) ပြေးလေပေါက်လွတ်၊ အရေးချွတ်၍၊ ခါးဝတ်မပါ၊ ဗလာခြာသည်၊ ကိုယ်မှာ ကိုယ်ချည်းပင်။ ။ ခုနစ်ပြည်လုံး၊ ရန်စတုံးသည်၊ ရွှေဘုန်းထိုက်အောင်မြင်က။ ။ မြို့ဝန်းကျင်မှာ၊ မြင်းဆင်လက်နက်ပေါင်း၊ ရွှေငွေရတနာ၊ အသပြာသည်၊ တန်ဆာပုဆိုးကောင်းတည်း။ (အသဒိသရတု)

(၂) ဝိမိုရ်သည်းအူ၊ မရမူလျှင်၊ နန်းသူမယ့်မှာ၊ သေပွဲသာဟု၊ ဝိမလာမြွတ်၊ တောင်ညာနတ်က၊ ထပ်ထပ်တင်သောခါ။ ။ နဂါးမင်းကြီး၊ ရင်ကိုတီးသည်၊ ကြက်သီးထစပါ၍။ ။ ဝိမလာငယ်၊ ဝိရှာတော်မူနဲ့၊ ပတောင့်ပတော၊ အမောင့်ပွေသည်၊ ရောင့်လေရှင်စိတ်ဖွဲ့တည့်။ (ဝိဓုရ ရတု)

(၃) ဘောက်စရာသည်၊ အားနွဲ့တော်မူသတုံး၊ မောင်ပုတစ်ကိုယ်၊ မယ့်တစ်ကိုယ်သည်၊ နှစ်ကိုယ်သီတင်းသုံးတော့။ ။ ထိုထိုဘုန်းငယ်၊ ကျွန်းတုံးကြောင်လျှောက်တယ်၊ ဆီးဖြူဆားစိမ်၊ သည်အချိန်ကို၊ မိုးတိမ်တောက်ပေါ်ကွယ်ဟု။ (ပဒုမရတု)

(၄) တစိုစိုသည်၊ သွေးယိုပြည်စက်စက်၊ စက်ဆုပ်ရွံဖွယ်၊ မတင့်တယ်သည်၊ ကိုယ်ဝယ်ကွဲအက်အက်နှင့်။ ။ ကိုယ်လုံးပျက်သည်၊ ကြောက်မက်ဖွယ်တည့်သာ၊ မောင်းမကိုယ်လုပ်၊ နှာခေါင်းအုပ်သည်၊ စက်ဆုပ်ရွံကြပ့ါလည်း။ ။ သမ္ဗူလမှု၊ မျက်နှာမရှုံ့ဘဲ၊ ကျွန်မသခင်၊ မယ့်ထိပ်တင်ဟု၊ ကြင်နာလွန်ဆကဲ၍။ ။ နေ့မခွဲ ညမခွာ၊ သွေးပြည်ယိုထွက်၊ တစက်စက်ကို၊ ရွှေလက်သုတ်ဆေးကာနှင့်။ (သမ္ဗူလရတု)

(၅) ကျွန်မသခင်၊ မယ့်ချစ်လင်ကို၊ မမြင်ဝံ့ပါပြီ။ ။ သည်မယ့်ဂမုန်း၊ လင်ရွှေတုံးငယ်၊ ခုဆုံးခဲ့ပါပြီဟု။ ။ တွဲကာမှီသည်၊ ချီတုံချတုံသား၊ ရွှေလည်ရှက်ပူး၊ ဖက်ကာလူးသည်၊ ခွေမှူးသေမည့်လားနှင့်။ (စန္ဒကိန္နရီရတု)

# ၅။ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးနှင့် စာဆိုရှင်ကြီး

ပိဋကတ်ကျမ်းတတ် ပါဠိပါရဂူ ဖြစ်တော်မူကြသော မြန်မာ့သမိုင်းဝင် ဆရာတော်ကြီးများထဲတွင် ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် တစ်ပါးအပါအဝင် ဖြစ်သည်။ မန်လည်ဆရာတော်ကြီးဟူသော အမည်သည် မြန်မာတို့၏ နှုတ်ဖျားတွင် ယနေ့တိုင် စွဲမြဲကာ ကျော်ဇောထင်ရှားလျက် ရှိနေသောကြောင့်ပေတည်း။

ထို့အတူ မြန်မာစာပေသမိုင်းစဉ်ကြီးတွင် မည်သည့်ခေတ်၊ မည်သည့်အခါတွင်မဆို ထာဝရရှင်သန်သစ်လွင်နေပြီး မြန်မာတို့အဖို့ ဖတ်၍မကုန်၊ နာ၍မငြီး၊ မှတ်၍မခန်းသော အဖိုးတန် သုတ၊ ရသ ရတနာများကို ပေးစွမ်းနိုင်သည့် 'စာ'များတွင် **"မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီး"**သည် ထိပ်တန်းက ပါဝင်နေသည့် ကျမ်းမြတ်တစ်ဆူ ဖြစ်ပေသည်။

မဃဒေဝလင်္ကာသစ်ဟုဆိုလျှင် မြန်မာစာပေလိုက်စားသူတိုင်းက သိကြသည်။ သူ့အကြောင်းပြော၍မကုန်၊ သိကျူး၍မဝနိုင်အောင် ဖြစ်ကြသည်။ အဘယ်ကြောင့်ပါနည်း။ မဃဒေဝလင်္ကာသစ်ကြီးသည် ကျမ်းမည်ကာမဟုတ်။ မြန်မာတို့ အစဉ်အဆက်တရိုတသေ၊ တလေးတစား လေ့လာဆည်းပူးခဲ့ကြရသည့် ကဗျာကျမ်းကြီးတစ်ဆူကဲ့သို့ သဒ္ဒါ၊ ဘာသာဗေဒ၊ ခွဲထားသတ်ပုံတို့ကို ပြဆိုထားသော မြန်မာစာအဖွင့်ကျမ်းကြီးလည်း ဖြစ်၏။ ကမ္ဘာဦးအစ မဟာသမ္မတမင်းမှစ၍ ကုန်းဘောင်ခေတ်တိုင်အောင် ဖြစ်ထွန်းလာသော လူမှုအစဉ်အလာ အဖြစ်အပျက်များကို ဖော်ကျူးရာ ရာဇဝင်ကျမ်းကြီးလည်း ဖြစ်၏။ မြန်မာ့ထုံးတမ်းစဉ်လာ ဥပဒေ၊ ထုံးတမ်းစဉ်လာ ယဉ်ကျေးမှုနှင့်တကွ ဓာတ်

ဆင်၊ ဓာတ်ရိုက်၊ အဂ္ဂိရတ်၊ အတိတ်၊ နိမိတ်၊ စနည်း၊ တဘောင်၊ ဂဏန်းသင်္ချာဆိုင်ရာ လက်စွဲကျမ်းကြီးအဖြစ်လည်း ဆိုနိုင်၏။ အထူးသဖြင့် တိုင်းပြည်အုပ်ချုပ် စိမံသူ မင်းနှင့်တကွ မိဖုရား၊ အမတ်၊ မင်းသား၊ မင်းသမီးများ၊ မိဘနှင့် သားသမီး၊ ဆရာနှင့် တပည့်၊ လင်နှင့် မယား၊ ယောကျ်ားနှင့် မိန်းမများဆိုင်ရာ ကျင့်ဝတ်များ၊ မင်းမှုထမ်း၊ လယ်လုပ်၊ ကုန်သည်၊ သူဌေးသူကြွယ်စသည်တို့ ကျင့်ကြံဖွယ်ရာများကို တစ်စုတစ်ပေါင်းတည်း ဖော်ပြထားသည့် လမ်းညွှန်နီတိကျမ်းကြီးတစ်စောင်လည်း ဖြစ်သောကြောင့် ပေတည်း။

မဃဒေဝလင်္ကာသစ်ကြီး၏ ထူးခြားချက်များကို အကျဉ်းချုံး၍ ဆိုရသော်-

၁။ ရေးဖွဲ့သူ၏ စာပေရေးဖွဲ့မှု အလင်္ကာဂုဏ်ရည် ထက်မြက် ထူးချွန်ခြင်း။

၂။ ရေးဖွဲ့သော ဇာတ်လမ်း၊ ဇာတ်ကွက်၊ အကြောင်းအရာများသည် ထူးခြား လေးနက်သည်နှင့်အမျှ စိတ်ဝင်စားဖွယ် ကောင်းခြင်း။

၃။ ရေးဖွဲ့သူ၏ ရည်ရွယ်ချက်နှင့် စေတနာ ထက်သန်ကြီးမားခြင်း။

၄။ လူသားတစ်ဦးအဖို့ လူကောင်းလူမွန်တစ်ယောက် ဖြစ်လာအောင် ပစ္စုပ္ပန်၊ သံသရာဆိုင်ရာ ဆုံးမလမ်းညွှန်မှုများပါရှိခြင်း။

၅။ လမ်းညွှန်ဆုံးမရာ၌ နားဝင်အောင် လိုလိုလားလား လက်ခံလာအောင် ဇာတက၊ နိပါတ်၊ ရာဇဝင်၊ ပုံပြင်၊ သေနင်္ဂဗျူဟာ၊ နီတိပေါင်းဂုံတို့ဖြင့် အကျိုးအကြောင်း ဆီလျော်စွာ ထိထိမိမိ ရေးဖွဲ့နိုင်ခြင်း။

၆။ ပညာရှိ သူတော်ကောင်း၊ ပညာမဲ့ လူယုတ်မာ၊ လူလိမ္မာနှင့် လူမိုက်တို့၏ အတွင်းသဘော၊ ယောကျ်ား မိန်းမတို့၏သဘော၊ မိဘနှင့် သားသမီး၊ ဆရာနှင့် တပည့်၊ မိတ်ဆွေသူငယ်ချင်းတို့၏ သဘောတို့ကို ဖော်ထုတ် ညွှန်ပြထားခြင်း။

၇။ လူ့လောက၌ အရေးကြီးလှသည့် အသက်မွေးဝမ်းကျောင်းပြုမှု၊ စီးပွားရှာမှု၊ ပေါင်းသင်းဆက်ဆံမှုတို့ ဖော်ပြပြီး စာရှုသူတို့အား ပညာပေးထားခြင်း။

၈။ ဒါန၊ သီလ၊ သမာဓိ၊ ပညာ တို့ အကျိုးကို လှစ်ပြ၍ ယင်းတို့ကို အခြေခံပြီး သင်္ခါရတရားတို့ ချုပ်ငြိမ်းရာ နိဗ္ဗာန်ရောက်ကြောင်းတရားများကို ဖော်ညွှန်း ဟောကြားထားခြင်း။

၉။ လင်္ကာကြီးတစ်ခုလုံး အစမှ အဆုံးတိုင် ရတုလင်္ကာဖြင့် ရေးဖွဲ့ထားခြင်း ဟူသော အချက်များပင် ဖြစ်ပေသည်။

## ၁။ မဃဒေဝလင်္ကာသစ်ကြီး၏ အကြောင်းအရာအကျဉ်းချုပ်

ဤဘဒ္ဒကမ္ဘာတွင် ကဿပမြတ်စွာဘုရား ပွင့်တော်မူပြီးနောက် တစ်ခုသော သာသနာပကာလတွင် ဂေါတမဘုရားအလောင်းတော် မဃဒေဝမင်းကြီးသည် မိထိလာပြည်ကြီးကို အသစ်တစ်ဖန် တည်ထောင်ဖန်ဆင်းကာ ဗိုလ်ပါအလုံးအရင်းနှင့် ကြွချီ

သိမ်းမြန်း စံစားတော်မူ၏။ မင်းကြီးသည် မင်းအဖြစ် နှစ်ပေါင်း ရှစ်သောင်းလေးထောင် နေပြီးသောအခါ တစ်နေ့သ၌ ဆတ္တာသည်က မင်းကြီး၏ ဦးခေါင်းထက်တွင် ဆံဖြူ တစ်ချောင်းပေါက်နေကြောင်း လျှောက်ထား၏။ ထိုအခါ မင်းကြီးမှာ ဆံဖြူမှာ သေမင်း တမန်ဖြစ်၍ ကြီးမားသော သံဝေဂရတော်မူ၏။

ထိုအခါ မင်းကြီးသည် မိမိသည် မင်းအဖြစ်ကိုစွန့်၍ သားတော် အိမ်ရှေ့စံအား ထီးနန်းလွှဲအပ်ကာ ရသေ့ရဟန်းအဖြစ်ဖြင့် ဗြဟ္မဝိဟာရ မြတ်သောအကျင့်ကို ကျင့်ရန် တောထွက်ခြင်းကို ပြုတော့အံ့ဟု ဆုံးဖြတ်လိုက်၏။ ပထမဦးစွာ သားတော် အိမ်ရှေ့ မင်းအား ခေါ်၍ တရားနှင့်အညီ မိမိကိုယ်စား မိထိလာပြည်ကြီးကို အုပ်ချုပ်မင်းလုပ်ရန် မှာကြားပြီး မင်းတို့ကျင့်ရသော တရားတို့ကို ရှင်းလင်းညွှန်ပြတော်မူသည်။

တစ်ဖန် မှူးမတ်များကို ခေါ်ယူကာ မှူးမတ်များ ကျင့်ဆောင်ရာ တရားများကို ညွှန်ပြ၍ တရားဥပဒေနှင့်အညီ မင်း၏အကျိုး၊ နိုင်ငံနှင့်ပြည်သူတို့အကျိုးကို လေးလေး စားစား ဦးထိပ်ထားပြီး ရွက်ဆောင်ရန် မှာကြားသည်။

ထို့အတူ မိဖုရားခေါင်ကြီးနှင့် မောင်းမများကို ခေါ်ယူကာ မိမိရသေ့ရဟန်းပြု၍ မြတ်သော တောထွက်ခြင်းကို ပြုတော့မည်ဖြစ်၍ မိမိရှိစဉ်ကကဲ့သို့ပင် သီတင်းသီလ၊ ဒါနမဏ္ဍာ၊ ဘာဝနာကျင့်သုံး၍ နန်းထက်တွင် ချမ်းသာစွာ နေထိုင်ကြရန် မိန့်မှာတော် မူသည်။

ဤသို့ အလောင်းတော် မဃဒေဝမင်းကြီးသည် သားတော်၊ မှူးမတ်များ၊ မိဖုရား ခေါင်ကြီးနှင့် မောင်းမများအား လမ်းညွှန်မှာကြား ဆုံးမစကား ပြောဆိုပြီးသော် မင်း၏ ဥယျာဉ်တော်၌ ရသေ့ရဟန်းပြုကာ အသက်ထက်ဆုံး ဗြဟ္မဝိဟာရတရားများဖြင့် မွေ့လျော်ငြိမ်းချမ်းစွာ နေထိုင်သွားခဲ့လေသည်။

**မှတ်ချက်။** ။ မဃဒေဝမင်းကြီးမှာ ဇာတ်ကြီးဆယ်ဘွဲ့ပါ နေမိဇာတ်တော်ကြီးမှ နေမိမင်းကြီးအား ရည်ညွှန်း ခေါ်ဆိုထားခြင်း ဖြစ်ပါသည်။

## ၂။ ကျမ်းပြုသူ မန်လည်ဆရာတော်ကြီး၏ စေတနာနှင့် ရည်ရွယ်ချက်

ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် ဤမဃဒေဝလင်္ကာသစ်ကြီးကို ကျမ်း တစ်စောင် ပေတစ်ဖွဲ့အဖြစ် ရေးဖွဲ့စီကုံးခဲ့ရခြင်းမှာ ထိုအချိန်က တိုင်းတစ်ပါးသားတို့ လက်ထဲသို့ တစ်ပိုင်းတစ်ဝက် ရောက်နေသော မိမိတို့လူမျိုး၏ အသိအလိမ္မာ၊ စာပေ များ တိမ်ကောပပျောက်သွားခြင်း မရှိစေရန် ရည်ရွယ်ရင်းရှိခဲ့သည်ဟု ရှေးပညာရှင်ကြီး များက အမှတ်အသားရှိခဲ့ကြသည်။

သို့သော် ဆရာတော်ကြီး ရည်ရွယ်ချက်နှင့် စေတနာမှာ မြန်မာစာပေ မတိမ် ကော မပပျောက်ရေးအတွက် သက်သက်ဖြစ်သည်ဟုဆိုလျှင် ပြည့်စုံလုံလောက်ဦးမည် မဟုတ်ချေ။ ဆရာတော်ကြီး ဤလင်္ကာတော်ကြီးကို စတင်ပြုစုသော အချိန်အခါသည် ရတနာပုံနေပြည်တော်တွင် မင်းတုန်းမင်းတရားကြီး နန်းစံနေသည့် အချိန်အခါဖြစ်၍

မြန်မာနိုင်ငံတစ်ဝက်သည် တိုင်းတစ်ပါးသားတို့ လက်အောက်သို့ ရောက်နေပေပြီ။ ထိုအချိန်သည် မြန်မာ့လူနေမှုစနစ်အတွင်းသို့ တိုင်းတစ်ပါး အယူဝါဒ၊ ဓလေ့စရိုက်များ ထိုးဖောက်ဝင်ရောက်နေသည့်အချိန်လည်း ဖြစ်ပေသည်။ ထိုသို့သော အခြေအနေမျိုးတွင် မြန်မာတစ်မျိုးသားလုံး မိမိတို့ရိုးရာယဉ်ကျေးမှု ထုံးတမ်းစဉ်လာများကို ထိန်းသိမ်းစောင့်ရှောက်ရေး၊ ဗုဒ္ဓ၏လမ်းညွှန်ဆုံးမမှုများ၌ သက်ဝင်ကာ ဗုဒ္ဓ၏လောကီ လောကုတ္တရာဆိုင်ရာ သွန်သင် ညွှန်ပြမှုတို့နှင့်အညီ အသက်ရှင် ရပ်တည်နေနိုင်ရေးနှင့် တိုင်းတစ်ပါးတို့၏ ယဉ်ကျေးမှု ဓလေ့စရိုက်များ မဝင်ရောက်လာအောင် ထိန်းသိမ်းကာကွယ်ရေးတို့သည် လွန်စွာလိုအပ်နေကြောင်းကို ဆရာတော်ကြီးသည် ကောင်းစွာရိပ်စား သဘောပေါက်မိမည်သာ ဖြစ်သည်။

ထို့ကြောင့် ဆရာတော်ကြီးသည် မြန်မာတစ်မျိုးသားလုံးအား လောကီ လောကုတ္တရာ နှစ်ဖြာ၌ အကျိုးများစေပြီး ဗဟုသုတ အလိမ္မာပြည့်ဝသော မြန်မာ့သားကောင်း သမီးကောင်းများ ပေါ်ထွန်းလာရေးအတွက် ရည်ရွယ်ရေးဖွဲ့ခြင်း ဖြစ်သည်ဟု မှတ်ယူနိုင်ပါသည်။

ဤသဘောကို ထင်ရှားစေရန် ဆရာတော်သည် မဃဒေဝလင်္ကာသစ်ကြီး၏ နိဒါန်းခန်း၊ လင်္ကာနိဒါန်းတွင်...

"အကြင်ငါလျှင်၊ လင်္ကာဤကျမ်း၊ နည်းစုံပြွမ်းကို၊ ဘေးဘျမ်းမငွေ့၊ ပြီးကုံလွှေ့အောင်၊ ချက်စေ့စုံစီ၊ လောကီလောကုတ်၊ မယုတ်စေရ၊ ရာဇဓမ္မ၊ သုတပညာ၊ ပွားရာပွားကြောင်း၊ ပေါင်း၍သဂြိုဟ်၊ ပဟိုရ်စည်ကြီး၊ ဆော်ရိုက်တီးသည်"ဟု ရေးဖွဲ့ထားသည်ကို တွေ့နိုင်ပေသည်။

## ၃။ မဃဒေဝလင်္ကာသစ်ကြီး အစီအစဉ်

ဆရာတော်သည် အလောင်းတော် နေမိမင်းကြီး၏ ဘဝဖြစ်စဉ်ကို နကိုကပင် ကြည်ညိုရင်ရှိသည့်အတိုင်း ဖတ်ရှုသူများ ကောင်းမှုကုသိုလ်နှင့် သုတအလိမ္မာ တိုးပွားစေရန်အလို့ငှာ ဤမဃဒေဝလင်္ကာသစ်ကြီးကို ပျို့စာပိုဒ်ရေ (၆၂၅) ပိုဒ်ဖြင့် ခမ်းနားစွာ ရေးဖွဲ့ခဲ့လေသည်။ ဤမျှ ရှည်လျားလှသော ကြောင်းလျားဖြစ်စဉ်ကို ရောထွေးခြင်းမရှိစေဘဲ ဖတ်ရ၊ မှတ်ရလွယ်ကူအောင် အခန်းကြီး (၆)ခန်း၊ အခန်းငယ် (၅၀)တို့ဖြင့် အစီအစဉ်တကျ ရေးဖွဲ့ထားခြင်း ဖြစ်ပါသည်။

အခန်းကြီး (၆)ခန်းမှာ ဤသို့ဖြစ်ပါသည်။

၁။ ပထမပိုင်း - လောကဟိတစရိယခန်း
(ယင်းတွင် အခန်းငယ် (၉)ခန်း ပါဝင်သည်။)

၂။ ဒုတိယပိုင်း - သံဝေဂခန်း
(ယင်းတွင် အခန်းငယ် (၆)ခန်း ပါဝင်သည်။)

၃။ တတိယပိုင်း - ပုတ္တောဝါဒခန်း
(ယင်းတွင် အခန်းငယ် (၃) ခန်း ပါဝင်သည်။)

၄။ စတုတ္ထပိုင်း - အမစ္စောဝါဒခန်း
(ယင်းတွင် အခန်းငယ် (၄)ခန်း ပါဝင်သည်။)

၅။ ပဉ္စမပိုင်း - ဗြဟ္မစရိယခန်း
(ယင်းတွင် အခန်းငယ် (၇)ခန်း ပါဝင်သည်။)

၆။ ဆဋ္ဌမပိုင်း - နိဂမခန်း
(ယင်းတွင် အခန်းငယ် (၂၁)ခန်း ပါဝင်သည်။)

**မှတ်ချက်။** ။ မဃဒေဝလင်္ကာသစ်၌ မထင်ရှားကွယ်ငုပ်သော အဓိပ္ပာယ် အနက်တို့ကို ထင်ရှားသိလွယ်ရုံ အကျဉ်းမျှ လီနတ္ထဒီပနီကို ဆရာတော်သည် နောက်ပိုင်းတွင် ဆက်၍ ရေးသားခဲ့သည်။

## ၄။ ဆရာတော်ကြီး၏ အလင်္ကာဂုဏ်ရည်

ယနေ့ မြန်မာစာပေလောကတွင် မန်လည်ဆရာတော်ဟူသော အမည်ကို ကြားဖူး သူတိုင်းသည် **မဃဒေဝလင်္ကာသစ်ကြီး**ကိုသိရှိကြပါလိမ့်မည်။ မန်လည်ဆရာတော်အား ကြည်ညို လေးစားသူတိုင်းလည်း မဃဒေဝလင်္ကာသစ်ကြီးကို လေးစားတန်ဖိုးထားကြ သည်သာ ဖြစ်သည်။ ထို့အတူ ဆရာတော်ကြီး၏ ပညာဂုဏ်၊ သုတဂုဏ်၊ အလင်္ကာဂုဏ် တို့ကို ကြည်ညိုသိရှိထားသူတိုင်း မဃဒေဝလင်္ကာသစ်ကြီး၏ စာပေဂုဏ်ရည်နှင့် ကြီးကျယ်ခမ်းနားမှုကို နားလည် လက်ခံထားကြရသည်ဟု နောင်းခေတ် မြန်မာစာပေ ပညာရှင်အားလုံးက တညီတညွတ်တည်း ဆိုကြကုန်သည်။

မှန်၏။ ဤမဃဒေဝလင်္ကာသစ်ကြီးတစ်စောင်တည်းနှင့်မင် မန်လည်ဆရာတော် ကြီးအား ထိပ်တန်းကဗျာဝိဒူ၊ အကျော်အမော် စာဆိုကြီးအဖြစ် ကျော်ကြားသွားအောင် ဆောင်ကြဉ်းပေးလိုက်သောကြောင့် ဖြစ်ပါသည်။ သို့ဆိုလျှင် မဃဒေဝလင်္ကာသစ်ကြီး သည် အဘယ်သို့သော စာမျိုးဖြစ်သနည်း။ မည်မျှထူးခြားပါသနည်း။ အဘယ်မည်သော အကြောင်းများကြောင့် မဃဒေဝလင်္ကာသစ်ကြီးသည် ဤမျှ ကျော်ကြားရပါသနည်း။

ကျော်ကြား ထင်ရှားရသော အကြောင်းများကား များလှပါသည်။ အခြေခံကျ သော အချက်များကို တူရာ တူရာများကိုစု၍ ဆိုရသော် အောက်ပါအတိုင်း ဖြစ်ပါ၏။

(၁) စာဟန်အရေးအဖွဲ့ လှပဆန်းကြယ်ခြင်း၊
(၂) အကြောင်းအရာတစ်ခုကို ကဗျာရှည်ပိုဒ်ရေ (၆၂၅) ပိုဒ်ဖြင့် တန်ဆာဆင် ရေးဖွဲ့ထားခြင်း၊
(၃) မြန်မာ့စိတ်ဓာတ်၊ မြန်မာ့အမြင်၊ မြန်မာမှု အတွေးအခေါ်များကို ပီပြင်စွာ ထည့်သွင်းဖော်ပြထားခြင်း၊
(၄) ပါဠိ ပိဋကတ်ကျမ်းဂန်များမှစ၍ ဘင်္ဂါလီ၊ နာဂရီ၊ သက္ကတ၊ သမိုင်း၊ ရာဇဝင်၊ နီတိ၊ သျှတ္တရကျမ်းများ၊ ဆေးကျမ်း၊ ဓာတ်ကျမ်း၊ ဗေဒင်ကျမ်း၊ နက္ခတ်ကျမ်း၊ အဂ္ဂိရတ်၊ ဝိဇ္ဇာ၊ ဇော်ဂျီ၊ တပသီ၊ အင်းအိုင်ခလဲ့ **လက်ဖွဲ့**

မန္တရား၊ ဂန္ဓာရီ၊ သေနင်ဗျူဟာဆိုင်ရာ **စစ်ချီစစ်တက်**၊ အထိုးအခုတ်များ၊ လူမှုရေးပညာအရပ်ရပ်မှ **စိစစ်ရွေးနုတ်သင့်သလို** ထုတ်ယူထည့်သွင်းထားသည့် လောကီ လောကုတ္တရာဆိုင်ရာ ဘဏ်တိုက်ကြီးဖြစ်ခြင်း။

(၅) ရေးဖွဲ့လိုသောအကြောင်းကို သာယာနာပျော်ဖွယ် ပျို့ကြီးတစ်စောင်အဖြစ် အချိုပိုဒ်၊ အချပိုဒ်များနှင့် ဖွဲ့နည်းများကို နည်းပရိယာယ်မျိုးစုံဖြင့် အဆန်းတကြယ် ရေးဖွဲ့ထားသည်သာမက ခိုင်ညွန့်ခက်ဖြာ၊ မဏိဥပြည်း၊ ထူးဆန်းထွေလာ၊ နေရောင်ခြည်ပြေး၊ မဏိဆံကျင်၊ ရွှေလောင်းပြန်၊ ဖျောက်ဆိတ်လလည်၊ အာသာဝတီဝတ်ဆံ စသော ချနည်းတို့ဖြင့် ခမ်းနား လှပစွာ စာပန်းချီ ခြယ်ရေးဖွဲ့ထားသည့် နှောင်းလူတို့ နည်းယူဖွယ် ကဗျာကျမ်းကြီးတစ်စောင်ဖြစ်ခြင်း၊

(၆) မြန်မာစာ ရေးထုံးမှန်စေရေးအတွက် အပင့် အရစ်၊ သတ်ပုံများကို မှတ်ရဖတ်ရလွယ်အောင် သက်ဆိုင်ရာ အဖွဲ့များထဲတွင် ခွဲထားများအဖြစ် ထည့်သွင်းထားသော မြန်မာခွဲထားသတ်ပုံကျမ်းကြီး တစ်စောင်ဖြစ်ခြင်းတို့ ဖြစ်ပါသည်။

ဆရာတော်ကြီး၏ ကဗျာဉာဏ်ရည်ကို လေ့လာဆန်းစစ်သောအခါ ကဗျာလင်္ကာကောင်းတစ်ပုဒ်၏ ပင်ကိုအရည်အသွေးဖြစ်သော အသံ၊ ကာရန်နှင့် တန်ဆာဆင်ခြင်း (သဒ္ဒါလင်္ကာရ) နှင့် အနက်အဓိပ္ပာယ်ဖြင့် တန်ဆာဆင်ခြင်း (အတ္ထာလင်္ကာရ)ဟူ၍ အဆင်တန်ဆာနှစ်မျိုး တွေ့ကြရပေမည်။ ထိုတန်ဆာဆင်ခြင်းနှစ်မျိုးနှင့် ပြည့်စုံလေလေ ထိုကဗျာလင်္ကာ၏ အရည်အသွေးသည် တောက်ပြောင်လေလေ ဖြစ်သည်။ အလင်္ကာသည် စာဆို၏ ကဗျာလင်္ကာ စပ်ဆို ထုံးဖွဲ့မှုဆိုင်ရာ ကျွမ်းကျင်မှုကို ဖော်ပြနေပေသည်။ ဤမဃဒေဝလင်္ကာသစ်ကြီးသည် ထိုသို့သော စာအမျိုးအစားဖြစ်သည်။

သဒ္ဒါလင်္ကာရသည် ကဗျာ၏ပျော့ပျောင်းလှပမှုကို ဖြစ်စေသည်။ အတ္ထာလင်္ကာရကား ကဗျာ၏ လေးနက်ခန့်တည်မှု ဖော်ကျူးနိုင်သည်။ မန်လည်ဆရာတော်ကြီး၏ မဃဒေဝလင်္ကာသစ်ကြီးတွင် ကဗျာတစ်ပိုဒ်စီက ထိုအလင်္ကာနှစ်မျိုးစလုံးကို ဖော်ပြနေသည်။ ထိုအလင်္ကာနှစ်မျိုးစလုံးက စာဖတ်သူအား ဖတ်ချင်စိတ်ရှိလာအောင် ဆွဲဆောင်ပေးပြီး ဖတ်ရင်းနှင့်ပင် စာ၏ လေးနက်ခန့်ညားမှုကို တစိမ့်စိမ့် တွေးခေါ်မှတ်သားနိုင်အောင် စည်းရုံးပေးသကဲ့သို့ ရှိနေသည်မှာ စာဆိုဖြစ်သူ ဆရာတော်ကြီး၏ အလင်္ကာဂုဏ်ရည်ကိုဖော်ပြနေပေသည်။

## ၅။ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးဟူသောအမည်

ဆရာတော်ကြီးသည် မိမိ၏ ဘုရားအလောင်းတော် မဃဒေဝမင်းကြီး၏ အကြောင်းကို ဖွဲ့ဆိုသော ကဗျာစုတစ်ခုလုံးအား မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးဟု အမည်ပေးထား၏။ ဇာတ်လမ်းကား မဃဒေဝမင်းကြီး၏ အကြောင်းဖြစ်၍

**"မဃဒေဝလင်္ကာသစ်ကြီး"**ဟု အမည်ပေးလျှင် လုံလောက်ပြည့်စုံနေပြီဖြစ်သော်လည်း ယင်းအမည်ရှေ့က **"မဟာသုတကာရီ"**ဟူသော နာမဝိသေသနကို ထည့်သွင်းဖော်ပြ ထားပုံမှာ ထူးခြားနေ၏။

ထိုနည်းတူစွာ မိမိ၏ "မဃဒေဝ"စာစုကို ပျို့ဟူ၍ အမည်မပေးဘဲ "လင်္ကာ" ဟုသာ ခေါ်ဆိုထားပြီး တစ်ဖန် ထို"လင်္ကာ"နောက်တွင် "သစ်"ဆိုသည့် ဝေါဟာရ ကိုပါ ထည့်သွင်းဖော်ပြထားသည်မှာလည်း ထူးခြားနေပြန်၏။

စင်စစ်မူ ဆရာတော်သည် အကြောင်းအရာ ဇာတ်ဝတ္ထုတစ်ခုကို သဒ္ဒါလင်္ကာရ၊ အတ္ထာလင်္ကာရတို့ဖြင့် လှပစွာ တန်ဆာဆင်ကာ နှစ်သက်ဖွယ်ဖြစ်အောင် ပိုဒ်ရေပေါင်း များစွာဖြင့် ခြယ်လှယ်သီကုံးထားပေရာ ဤ "မဃဒေဝလင်္ကာကြီး"ကို အင်းဝခေတ်က နာမည်ကျော် ပါရမီတော်ခန်းပျို့၊ စတုဓမ္မသာရကိုးခန်းပျို့တို့ကဲ့သို့ "မဃဒေဝပျို့"ဟု ခေါ်ဆိုသင့်လှ၏။ သို့သော် ဆရာတော်က ထိုသို့အမည်မပေး။ တန်ဆာဆင်ဖွဲ့နွဲ့ခြင်း ဟူသော အနက်ကိုယူ၍ "လင်္ကာ"ဟူ၍သာ မှည့်ခေါ်ပုံကိုကြည့်လျှင် လမ်းရိုးလမ်းဟောင်း မှ ဖဲကြဉ်ကာ လမ်းသစ်ထွင်လိုသည့် ဆရာတော်၏ စိတ်သဘောကို လေးစားစွာ တွေ့မြင်နိုင်ပါသည်။

ထိုနည်းတူပင် "မဃဒေဝလင်္ကာသစ်"ဟု အမည်ပေးထားပုံကို ထောက်လျှင်လည်း ယခင်က "မဃဒေဝလင်္ကာဟောင်း"တစ်စောင် ရှိခဲ့ဖူးလေသလောဟု စဉ်းစားဖွယ် ရှိလာသည်။ ယင်းကိစ္စနှင့် ပတ်သက်၍ နှောင်းခေတ်ပညာရှင်ကြီးများက ဤသို့ဆိုခဲ့ ကြသည်။

"ဆရာကြီးဦးသော်ဇင်က "မဃဒေဝ"ဟူသည်မှာ မန်လည်ဆရာတော် ရေးဖွဲ့ခဲ့ သော "မဟာသုတကာရီ မဃဒေဝလင်္ကာသစ်"ကို ဆိုခြင်းဖြစ်၏။ လင်္ကာသစ်ဟု ဆိုသဖြင့် "လင်္ကာဟောင်း"ရှိလေသလား မသိပါ။ သို့ရာတွင် မိမိကား ခေတ်အဆက် ဆက်တွင် အစဉ်ဆန်းသစ်နေမည့် လင်္ကာဟူသော အနက်အဓိပ္ပာယ်ဖြင့်သာ ခံယူလာခဲ့ပါ သည်"ဟု ရေးခဲ့ဖူးသည်။

စတုဓမ္မသာရပျို့ခေါ် ကိုးခန်းပျို့ကို တည်းဖြတ်ထုတ်ဝေရာ၌ စကားညွှန်းရေးသူ ကထိကဆရာမကြီး ဒေါ်ခင်စောကမူ "ကုန်းဘောင်ခေတ်စာဆိုအကျော် မန်လည်ဆရာ တော်ဘုရားကြီးကလည်း ဘုရားလောင်းမဃဒေဝမင်းကြီး၏ ကြောင်းရာထုပ္ပတ်ကို ကဗျာ လင်္ကာဖွဲ့ပြီးလျှင် "မဃဒေဝလင်္ကာသစ်"ဟု အမည်ပေးခဲ့သည်။ အင်းဝခေတ် ရှင်အဂ္ဂ သမာဓိအကျော် ရေးသားပြုစုခဲ့သော မဃဒေဝမင်းကြီးအကြောင်း ပြဆိုရာဖြစ်သည့် "မဃ္ဃဒိုဝ်းခန်းပျို့" ခေါ် ပျို့တစ်စောင်တစ်ဖွဲ့ ထင်ရှားရှိပြီဖြစ်သဖြင့် သူ၏ကဗျာကို "လင်္ကာသစ်"ဟု အမည်တပ်ဟန် လက္ခဏာရှိပေသည်"ဟူ၍ ကောက်ချက်ပြုထားသည် ကို တွေ့ရသည်။

ယင်းအဆိုနှစ်ရပ်အနက် ဒုတိယအဆိုဖြစ်သည့် ဆရာမကြီး ဒေါ်ခင်စော၏ အဆိုသည် နှစ်လိုလက်ခံဖွယ်ရှိသဖြင့်လည်းကောင်း၊ ဆရာတော်ကြီးကိုယ်တိုင် "အသစ်"

ဟု ခေါ်ဆိုခဲ့သည်မှာ ယခင်က ရှိခဲ့ပြီးသော "အဟောင်း"ကို ရည်ရွယ်၍ ဆိုခြင်းဖြစ်ကြောင်းသံသယဖြစ်ဖွယ်မရှိသဖြင့်လည်းကောင်း ဆရာတော်သည် ရှင်အဂ္ဂသမာဓိ၏ "မဂ္ဂဒိုဝ်းခန်းပျို့"ကို ပျို့ဟောင်းအဖြစ် မှတ်ယူထားခြင်းဖြစ်သည်ဟု ဆိုသင့်ပေသည်။

ထို့ပြင် ဆရာတော်ကြီးသည် မိမိ၏ "မဃဒေဝလင်္ကာသစ်"ဟူသော စကားရပ်ရှေ့တွင် "မဟာသုတကာရီ"ဆိုသည့် စကားရပ်ကို ထည့်သွင်းထားရသည်မှာလည်း ဆရာတော်ကြီး၏ ဝိဇ္ဇာ၊ သိပ္ပံ သုတအဖြာဖြာကို လိုရာကဗျာများ၌ အမျိုးလေးပါးတို့ နာယူမှတ်သားနိုင်ကြစေရန် "ဤခုနောင်လာ၊ သုတရှာသား၊ ပဏ္ဍာဂတ၊ သဒ္ဓနတို့၊ ဓမ္မသံဝေ၊ ရပစေနှင့်၊ ဉာဏ်ခြေနည်းမူ၊ မှတ်ယူစိမ့်ငှာ"ဟူသော စေတနာဖြင့် ရေးဖွဲ့ထားသည်ကို ထင်ရှားစေလို၍ ဖြစ်သည်မှာ ပေါ်လွင်နေပေသည်။

ထို့ကြောင့် ဆရာတော်ကြီး၏ "မဟာသုတကာရီ မဃဒေဝလင်္ကာသစ်"ဟူသော အမည်သည် ရိုးရိုးသာမန်မဟုတ်။ အမျိုးလေးပါးတို့အား အကျိုးများစေခြင်းငှာ ကြီးကျယ်မြင့်မြတ်သော လောကုတ် လောကီ နှစ်လီသော အကြားအမြင်သုတများကို ပေးစွမ်းနိုင်သည့် ပျို့လင်္ကာသစ်ကြီးဖြစ်သည်ကို ဖော်ညွှန်းထားသည့် အမည်နာမပင် ဖြစ်သည်ဟု ဆိုနိုင်ပေသည်။

# ၆။ မဃဒေဝလင်္ကာသစ်ကြီးပါ သဒ္ဒါလင်္ကာရနှင့် အတ္ထာလင်္ကာရအဖွဲ့များ

ဆရာတော်သည် ဤလင်္ကာသစ်ကြီးကို ရေးဖွဲ့ရာ၌ ပြောင်မြောက်လှပသော စကားလုံးများဖြင့် ချိုနည်း ချနည်းမျိုးစုံကို အသုံးပြု၍ စာရှုသူတို့အတွက် သုတိ သာယာနှစ်လို ကြည်နူးဖွယ်ဖြစ်အောင် ရေးဖွဲ့ထားသည်။ အချပိုဒ်များကို ရေးဖွဲ့ရာတွင် အလင်္ကာကျမ်းပါ ချနည်းများဖြစ်သော ခိုင်ညွန့်ခက်ဖြာ၊ မဏိဥပြည်း၊ ထူးဆန်းထွေလာ၊ နေရောင်ခြည်ပြေး၊ မဏိဆံကျင်၊ ရွှေလောင်းပြန်၊ ဖျောက်ဆိတ်လလည်၊ အာသာဝတီ ဝတ်ဆံ စသည့် ချနည်းများကို အသုံးပြု ရေးဖွဲ့ထားသည်ကို တွေ့ရသည်။

ဥပမာ–

(၁) .........နတ်စောင်းလင်္ကာ၊ ဤကျမ်းစာသည်။ ။ ကြားနာမဝ၊ သုတ ပွားရန်၊ ကောန်ဖြစ်လိမ့် အကျိုးတည်း။ (၁၅ လုံးချ မဏိဥပြည်းချနည်း။)
ပိုဒ်ရေ–၁၁

(၂) .........နောက်မှာအစွန်း၊ ကိုးယောက်ထွန်းသည်။ ။ မော်ကွန်းတင်ပြ၊ မှတ်ကြမင်းစဉ် အကျဉ်းတည်း။ (၁၁ လုံးချ အာသာဝတီဝတ်ဆံချနည်း။)
ပိုဒ်ရေ–၃၃

(၃) .........လူ့ရွာအတွင်း၊ သည်သေမင်းနှင့်။ ။ သေကွင်းတတ်သာပြီ တကား။ (ကားနှင့်ချသော နေရာင်ခြည်ပြေးချတည်း။)
ပိုဒ်ရေ–၁၁၀

(၄) .........ပူဆာလွန်ကဲ၊ တရဲရဲသည်။ ။ လောင်စွဲတချေချေနှင့်သာတမုံ့။ (၉ လုံးချ မဏိဆံကျင်ချနည်း။)
ပိုဒ်ရေ–၁၂၂

**ပဏ္ဍာမြားမောက်စာပေ**

(၅) .........ဝေးကွာတစေစေနှင့်သာတမုံ့။ (ပိုဒ်ရေ-၁၁၉)

ချောက်ချားတမွေမွေနှင့်သာတမုံ့။ (ပိုဒ်ရေ-၁၂၀)

ဆင်းရဲတပေပေနှင့်သာတမုံ့။ (ပိုဒ်ရေ-၁၂၁)

ဤ "နှင့်သာတမုံ့"ဟူ၍ သတ်တူ သံတူကာရန်ချပြီး စပ်ဆိုခြင်းကို သော်တာရောင်ချနည်းဟုလည်း ခေါ်ဆို၏။

(၆) .........ကွင်း၍သေရ တတ်ဘိမူ။ (ပိုဒ်ရေ-၁၄၇)

ကင်း၍ကွေရ တတ်ဘိမူ။ (ပိုဒ်ရေ-၁၄၈)

ရှင်း၍နေရ တတ်ဘိမူ။ (ပိုဒ်ရေ-၁၄၉)

ဤ "ရတတ်ဘိမူ"ဟူ၍ သတ်တူသံတူ ကာရန်ချပြီး စပ်ဆိုခြင်းကို ရွှေလောင်းပြန်ချနည်းဟုလည်း ခေါ်ဆို၏။

(၇) .........ဘယ်ရွှေ့နေရမည်မသိ။ (ပိုဒ်ရေ-၁၆၇)

ဘယ်နေ့သေရမည်မသိ။ (ပိုဒ်ရေ-၁၆၈)

ဤနှစ်ပိုဒ်သည် "ရမည်မသိ"ဟူ၍ ၂ ပိုဒ်လုံးချရကား "သော်တာရောင်"လည်းဟူ၏။ အသတ်မဲ့ရကား "ပေါက်ပြ"ဟုလည်း ခေါ်၏။ "ဖျောက်ဆိတ်လလည်"ဟုလည်း ခေါ်၏။ ၂ ပိုဒ်စလုံး ပိုဒ်ရေ ၈၀ စီညီရကား "ထူးဆန်းထွေလာ"ဟုလည်း ခေါ်၏။

(၈) .........ကျမ်းညီဖြောင့်တန်းစေပြီး၍။ (ပိုဒ်ရေ-၃၂၆)

ခန္ဓာခိုင်ကျန်းစေပြီး၍။ (ပိုဒ်ရေ-၃၂၇)

လိုရာရည်မှန်း စေပြီး၍။ (ပိုဒ်ရေ-၃၂၈)

နှလုံးရွှင်လန်း စေပြီး၍။ (ပိုဒ်ရေ-၃၂၉)

ဤလေးပိုဒ်ကား ၍-နှင့်ချည်းချသဖြင့် "ပုလဲသွယ်ချနည်း"ဟုလည်း ခေါ်၏။

(၉) .........လောကီကိုးရာ.........ဦးထက်ဆင်ရသည့်ဘုရား။ (ပိုဒ်ရေ-၃၃၆)

ဗောဓိမျိုးလျာ.........ဗိုလ်ပေါင်းရှင်ပျသည့်ဘုရား။ (ပိုဒ်ရေ-၃၃၇)

မောဠိစိုးကာ.........မတ်များတင်ကြသည့်ဘုရား။ (ပိုဒ်ရေ-၃၃၈)

ဤသုံးပိုဒ်ကား ပထမပဒလုံးပိုဒ်စုံ၊ ၈၇-ပိုဒ်စီပါသဖြင့် "ထူးဆန်းထွေလာ" ချနည်းဟုခေါ်၏။

(၁၀) .........တော်ဒွးစနည်း...သေတွင်းငုတ်ငုတ်ဝင်တကား။ (ပိုဒ်ရေ-၃၅၁)

ပေါက်ထီးမှန်ပြောင်.........သေခြင်းပြုတ်ပြုတ်စင်တကား။

(ပိုဒ်ရေ-၃၅၂)

ရစ်ဆယ်သံတောင်.........သေမင်းဖြုတ်ဖြုတ်ငင်တကား။

(ပိုဒ်ရေ-၃၅၃)

ဤသုံးပိုဒ်သည် ကိုယ်လုံးပြည့်ချ၊ နေရောင်ခြည်ပြေးချ၊ ညွှန့်လန်းချနည်းများဖြစ်၏။

(၁၁) မဟုတ်လောဟု၊ သဘောအလို.........ပါယ်တွင်နစ်သည် မဟုတ်လော။
(ပိုဒ်ရေ-၄၀၆)

ဤအပိုဒ်ကား စမွယ်ရှေ့ချီနောက်ချနည်းဟု ခေါ်၏။

(၁၂) မလွဲမှတ်ယုံ၊ ပါယ်ဘုံဌာန၊ ကမ္ဘခွဲဝေ၊ ထုတ်ဖွေကျမ်းလာ၊ လင်္ကာစည်ကြီး၊ ဆော်တီးထိန့်ဆူ၊ ရှင်လူကြားစိမ့်၊ ထင်ရှားပြည့်ညွှန်းပေသတည်း။
(ပိုဒ်ရေ-၄၆၇)

ဤအဖွဲ့မှာ ၃၅ လုံးချ ဇမ္ဗူ့သပြေသီးချနည်း ဖြစ်၏။

## သဒ္ဒါလင်္ကာရအဖွဲ့များ

ဆရာတော်ကြီးသည် ဖော်ပြပါ လင်္ကာချနည်းမျိုးစုံဖြင့် စကားလုံးလှလှ၊ အသံသာသာ၊ နှစ်လိုဖွယ်ရေးဖွဲ့နိုင်မှုကြောင့် မဃဒေဝလင်္ကာသစ်ကြီးတစ်စောင်လုံးသည် ဖတ်သူတို့၏ နှလုံးကို ယူကြုံးဆွဲငင်ထားနိုင်ခဲ့သည်ဟု ဆိုရချေမည်။

ဆရာတော်ကြီး၏ သဒ္ဒါလင်္ကာရအဖွဲ့များသည် နှစ်သက်ဖွယ် သိင်္ဂါရ-ရသအပေါ်အခြေစိုက်ကာ လက်စွမ်းပြ ရေးဖွဲ့ထားသောကြောင့် စောင်းငြင်းပတ်သာ တူရိယာတို့ကို တစ်ပြိုင်နက်တည်း တီးခတ်လိုက်သည့်ပမာ နားဝင်ပီယံရှိလှသည်။

ဥပမာ-

(၁) မေတ္တာအရင်း၊ ချစ်မကင်းဘဲ၊ ချစ်ခြင်းဟူသည်၊ ရွှေမဥ္ဇူနံ့၊ ထုံပြန့်မခန်း၊ ချစ်ကြည်လန်း၍။ ။ ချစ်ပန်းလှိုင်ကြစေကုန်လော့။ (၁၈၁)

(၂) ကောင်းကင်ထက်ဝယ်၊ ကြီးငယ်တာရာ၊ ကြယ်ပမာသို့၊ ရွှေညီလာဝန်း၊ ရဲကာထွန်းသည်။ ။ ဂုဏ်ရှန်းမြိုင်ကြစေကုန်လော့။ (၁၈၃)

(၃) ချစ်ခြင်းကြည်ညို၊ ချစ်မပြိုဘဲ၊ သဂြိုဟ်ပေါင်းရုံး၊ ချစ်ဆေးလုံး၍။ ။ ချစ်ဆုံးတိုင်ကြစေကုန်လော့။ (၁၈၄)

(၄) နေမှာပဒ္ဒ၊ ကော်ကနကို၊ ပွင့်ပြုံဇစတတ်၊ အမှတ်တခြား၊ အစဉ်အားဖြင့်၊ လကားကုမုဒြာ၊ ကြာဖြူအပေါင်း၊ ပွင့်ကြောင်းမှန်လှ၊ နေနှင့်လသို့။ (၁၄၃)

(၅) သာယာပြည်းညင်း၊ သံညင်းညင်းနှင့်၊ မငြင်းမခံ၊ နတ်တို့ဘုံထက်၊ ဖော်စုံရှင်မြူး၊ ချစ်ကြည်နူးလျက်၊ ယှဉ်ပူးမေတ္တာ၊ သက်ပမာဖြင့်၊ ချမ်းသာမကင်း၊ ချစ်ငွေ့သွင်း၍၊ ချစ်ချင်းစိတ်တူ၊ ချစ်ကြည်ဖြူသည်။ ။ သည်းအူအနှစ်အနှစ်တည်း။ (၄၇၂)

(၆) မသုန်မဖျင်း၊ ရွှေဘုံချင်းတွင်၊ ခြင်းခြင်းရောင်ဖြူး၊ သာလွန်ကြူး၍၊ လှော်ဦးရွှေသွင်၊ တုမမြင်သည်။ ။ ရွှေစင်အနှစ်အနှစ်တည်း။ (၄၇၄)

(၇) နှစ်စင်းလရောင်၊ ပြိုင်ကျင်းဆောင်သို့၊ ပြောင်ပြောင်ဝင်းဝင်း၊ မိုးလုံးလင်းအောင်၊ နတ်မင်းလုလင်၊ ထောင်မြင်းရှင်လည်း၊ ကောင်းကင်ခရီး၊ ယှာဉ်ပုံစီး၍၊ ကျွန်းကြီးလက်ျာ၊ ဇမ္ဗူဒ္ဒီပဝယ်။ (၅၁၆)

(၈) ပေါက်လဲကင်းငုံ၊ ရာသီကုံနှင့်၊ ရဂုံသာတောင်း၊ ဟေမန်ပြောင်းက၊ တပေါင်း တန်ခူး၊ ဥသြကျူး၍၊ သုံးဖူးပေထွက်၊ ကင်းသရက်ဖြင့်၊ ပန်းငှက် ဓမ္မတာ၊ အမှန်သာတည့်။ (၂၈၀)

(၉) မိုးကရွဲရွဲ၊ နှင်းဖွဲဖွဲနှင့်၊ မြစ်ထဲဘောဘော၊ ဝံလိုမျော၍၊ တောင်တောစိုစို၊ စိမ်းစိမ်းညို၏။ (၂၈၀)

(၁၀) စိတ္တလတာ၊ ဥယျာဉ်သာဝယ်၊ အာသာနွယ်စစ်၊ ကသစ်ရွှေခိုင်၊ ပွင့်ချိန်တိုင်၍၊ လေးခိုင်ရောင်စို၊ ရွှေမြင်းမိုရ်ထက်။ (၇၁)

## အတ္ထာလင်္ကာရအဖွဲ့များ

ဆရာတော်သည် သဒ္ဒါလင်္ကာရဆိုင်ရာ အဖွဲ့များကို ဂရုတစိုက် ရေးသီထားသလိုပင် အနက်အားဖြင့် တန်ဆာဆင်သော အတ္ထာလင်္ကာရအဖွဲ့များကိုလည်း စာတစ်စောင်လုံးတွင် အများအပြား ထည့်သွင်းရေးဖွဲ့ထားသည်။ ဆရာတော်သည် မြန်မာကဗျာဖွဲ့နည်းကို ကျွမ်းကျင်ပိုင်နိုင်သူဖြစ်ပြီး သုတပြည့်ဝကျမ်းတတ်ပုဂ္ဂိုလ်ကြီး ဖြစ်သည့်အားလျော်စွာ သူ၏အတ္ထာလင်္ကာရအဖွဲ့များသည် လေးနက်ထိမိလှပေသည်။

ထိုသဘောကို ဆရာတော်၏ မဃဒေဝလင်္ကာသစ်ကြီးထဲမှ ကောက်နုတ်ပြရသော် . . .

(၁) အိန့်အိန့်ဖြည်းညင်း၊ သုံးလူ့မင်းတို့၊ ထိုးထွင်းမသိ၊ စိုးတစိမျှ၊ မရှိငြားလည်း၊ တရားဟောငှာ၊ သိက္ခာပညတ်၊ ၄ပွတ်ရေးမြော်၊ ကြောင်းနှစ်ဖော်ဖြင့်၊ မိန့်တော်စိစစ်၊ မေးမြဲဖြစ်၏။ (၁၉)

(၂) ကြွခိုင်ခက်ကျိတ်၊ သောင်းလုံးထိတ်လျက်၊ မြကြိတ်လုံခြုံ၊ သိကြားဘုံသို့၊ ပြည့်စုံမချို့၊ သာပေါင်းကြို့၍၊ မြင်းမိုရ်လက်ျာ၊ ဒက္ခိဏာလျှင်၊ ဇေယျာပဝရ်၊ အောင်သံမဆိတ်၊ အောင်နိမိတ်နှင့်၊ ဂုဏ်ဟိတ်သြဘာ၊ ကျော်စောစွာသား၊ မိထိလာမည်သီး၊ ရွှေပြည်ကြီးကို။ (၇၇)

(၃) ပြည်ဦးကင်းကို၊ သားမင်းမနိမ်၊ ဂုဏ်သိမ်မြင့်လွန်၊ ပြည့်တမ်းခွန်ကို၊ သားမွန်မချ၊ နေ့ညမြင်သိ၊ ပြည့်မျက်စိကို၊ မထိမပါး၊ ပြည့်နားမပယ်၊ ပြည်စွယ်မချိုး၊ မညှိုးမျက်နှာ၊ မနာပြည့်ဝမ်း၊ သန်စွမ်းခြေလက်၊ ပယ်မဖျက်ဘဲ၊ အမျက်ကိုးကွင်း၊ ဆင်နိုင်လျှဉ်း၍။ (၁၈၀)

(၄) မိမိကိုယ်ကို၊ ကြီးပွားလိုက၊ အတိုမပြု၊ အရှည်ရှုလော့၊ ဒီဃာဝုမည်၊ လောင်းဇာနည်သို့၊ ခိုင်ကျည်စွာဘိ၊ သမာဓိနှင့် သတိသမ္ပဇဉ်၊ ယှဉ်စေရေးဦး၊ လွန်မကျူးနှင့်၊ ကျေးဇူးရှိမဲ့၊ နှိုင်းရဲ့ကောင်းဆိုး၊ မှုအမျိုးကားရိုးရိုးဆိုတန်၊ မဆိုတန်နှင့်၊ မှန်တိုင်းမကောင်း၊ ချက်ဖယောင်းသို့၊ ပျော့တိုင်းမရာ၊ ကျောက်ပမာလည်း၊ မာတိုင်းမသင့်၊ အခွင့်မဆိုင်၊ ရေးမပိုင်က၊ အနိုင်ဘယ်ခါ၊ မကျင့်ရာဘူး။ (၂၂၁)

(၅) မာတာပိတာ၊ မိနှင့်ဘတို့၊ လောကထုံးတီး၊ အစဉ်မှီး၍၊ သမီးနှင့်သား၊ မွေးကြငြားလည်း၊ သားသာကိုယ့်ဖို့၊ သမီးတို့ကား၊ သူများဖို့သာ၊ မွေးရတာတည်း၊ ဆိုင်ရာသူ့ရှင်၊ မလာခင်၌၊ ခေါင်းတွင်တင်လျက်၊ ဝန်ကြီးရွက်သို့၊ ဆက်ဆက်မဝေး၊ သမီးရေးနှင့် စစ်ရေးတူစွာ၊ ဘယ်ခါစိတ်က၊ မချရဘူး။ (၃၁၁)

(၆) သတ္တဝါမြတ်ယုတ်၊ ဗိုလ်အစုတ်ကား၊ အဟုတ်ရာတ်လတ်၊ ဥပတ်သံသေ၊ ရေကြည်ဂဗ္ဘ၊ အဏ္ဍဇဟု၊ လေးဝယောနိ၊ လေးဇာတိဖြင့်၊ ပဋိသန္ဓေ၊ တည်နေပထမ၊ ရသည်ကပင်၊ စ၍ထစ်ထစ်၊ ပြန်တဆစ်မျှ၊ မနစ်မဆိုင်း၊ တိမ်ရေလှိုင်းသို့၊ ခဏတိုင်းရွေ့၊ သေချိန်စေ့အောင်၊ နေ့နေ့ညည၊ ကာလရှည်တို့၊ ပြေးသွားအိုး၏။ (၃၅၁) စသည်တို့ ဖြစ်ပါသည်။

## စွဲထားသတ်ပုံ ကျမ်းတစ်စောင်ပမာ

ဆရာတော်သည် စာရှုသူတို့အား ရသလည်းခံစားစေ၊ သုတလည်း ပွားစေဟူသော စေတနာဖြင့် အလောင်းတော် မဃဒေဝမင်းကြီးအကြောင်းကို ရေးဖွဲ့ရာတွင် မြန်မာဘာသာဆိုင်ရာ သတ်ပုံ၊ သတ်ညွှန်းရေးထုံးများကို အလျဉ်းသင့်သလို ထည့်သွင်းထားသည်မှာ ထူးခြားချက်တစ်ရပ် ဖြစ်ပေသည်။ မြန်မာစာရေးရာ၌ အများသူငါများလေ့ရှိသော သတ်ပုံများကို စွဲထားအဖြစ် ထည့်သွင်းထားပေရာ ဤလင်္ကာသစ်ကြီးကို နှောင်းခေတ် မြန်မာစာပေလေ့လာသူများအတွက် မြန်မာစာစွဲထားသတ်ပုံကျမ်းကြီး တစ်စောင်အဖြစ် အားကိုးမှတ်ယူနိုင်ပေသည်။

မဃဒေဝလင်္ကာသစ်ကြီးထဲမှ ဆရာတော်ကြီး အလေးအနက်ပြု ရေးဖွဲ့ထားသော မြန်မာစာသတ်ပုံစွဲထားအချို့ကို ကောက်နုတ်ဖော်ပြလိုပါသည်။

(၁) ပေးကမ်း**ခြင်း**ကား၊ အ**ချင်း**ခပ်သိမ်း၊ မှုမျိုးငြိမ်း၏။ (၂၀၉)

(၂) မပြင်းမ**ပြ**၊ သာချမ်းမြလျက်၊ ပျပျရွှင်**ပျော**၊ ဆိုမိန့်**ပြော**လော့။ (၂၁၁)

(၃) ပညာမျက်စိ၊ သတိကိုယ်**ရံ**၊ မြန်နိ**ယံ**ဖြင့်၊ (၂၁၃)

(၄) ဗာလဟူသော၊ လူ့ငှက်**ပျော**ကား၊ နှုတ်**ပြော**မျှသာ၊ နှစ်မပါဘူး။ (၂၁၇)

(၅) ပညာမ**ကြီး**၊ ဗန္ဒတ်**ကျီး**သို့၊ နှုတ်သီးမစောင့်၊ စိတ်မဖြောင့်ဘူး၊ (၂၂၃)

(၆) စစ်မက်ပြိုင်ခင်း၊ လက်နက်ကျင်း၍၊ ချင်းချင်းသတ်**ကြ**၊ သွေးချောင်း**ကျ**၏။ (၂၃၄)

(၇) သာယာပျောင်း**ပျ**၊ ကျိုးကြောင်း**ပြ**၍၊ ခယထိုထို၊ ပြောပါဆိုလည်း၊ (၂၃၅)

(၈) အကြင်အ**ကြင်**၊ ပတ်ဝန်း**ကျင်**တိ၊ မြေပြင်ရေပြင်၊ နေဝင်နေထွက်၊ (၆၁၂)

(၉) တောင်ရှိမပြို၊ မယိမ်း**ယို**နှင့်၊ ဖ**ရို**ဖရဲ၊ မဟူပဲလျှင်၊ (၁၉၉)

(၁၀) တီနှင့်ကြိုးကြာ၊ မိုက်စွာတုံ**မြောက်**၊ တီတွတ်**မျောက်**သို့၊ (၃၇၂)

(၁၁) ကျင့်ဝတ်ခိုင်**ကျည်**၊ နှလုံး**ကြည်**၍၊ ဆောက်တည်မပျက်၊ (၃၉၉)

## မှတ်သားဖွယ်ရာ ဥပမာအလင်္ကာများ

အလင်္ကာဟူသည် တန်ဆာဆင်ခြင်းဟု အနက်ရသဖြင့် ကဗျာလင်္ကာ၏ အသက်သွေးကြောဖြစ်သည်ဟုဆိုရလျှင် မှန်ပါလိမ့်မည်။ အလင်္ကာနှင့်ကင်းပြီး ကဗျာလင်္ကာကောင်းတစ်ပုဒ် ဖြစ်မလာနိုင်ချေ။ ဤမဃဒေဝလင်္ကာသစ်ကြီး ဤမျှပြည့်စုံကောင်းမွန်ရခြင်းသည် ဆရာတော်ကြီး၏ ရသမြောက်အလင်္ကာများကြောင့်ဟု ဆိုနိုင်ပါသည်။

လင်္ကာကြီးထဲတွင် ရူပက၊ ဥပမာ၊ ဝက္ကဝုတ္တိ၊ အတိသယဝုတ္တိနှင့် မြည်သံစွဲစသော အလင်္ကာများစွာကို အပိုဒ်တိုင်း၌ပင် တွေ့ရပေသည်။ ယင်းတို့အထဲမှ ဆရာတော်ကြီး တင်ပြသော ဥပမာအလင်္ကာများသည် ထူးခြားပြီး ထိမိလှသည်။ ကဗျာနှင့် မကင်းသူများ၊ ကဗျာဖွဲ့ဆိုမှု၌ ဝါသနာထုံသူများအဖို့ နည်းယူဖွယ်ကောင်းလှသည်။

ဥပမာအလင်္ကာဟူသည် ဆိုလိုသောအဓိပ္ပာယ်ကို တစ်စုံတစ်ရာနှင့် ခိုင်းနှိုင်းယှဉ်တွဲပြီး ဖော်ထုတ်ပြသော အရူပစ္စည်းဖြစ်တစ်ခုဖြစ်သည်။ ကဗျာဖွဲ့ဆိုရာ၌ သဒ္ဒါလင်္ကာရရော၊ အတ္ထာလင်္ကာရပါ ပေါ်လွင်အောင် ရေးဖွဲ့တတ်သူ ဆရာတော်ကြီးသည် သူဆိုလိုချင်သည်ကို ကွက်ကွင်ကွင်းကွင်း ပေါ်လာအောင် အားထုတ်ပြီး ရေးဖွဲ့တတ်သူဖြစ်သည့်အတိုင်း သုတလည်းဖြစ်စေ၊ ရသလည်းဖြစ်စေသော ဥပမာအလင်္ကာများကို ထည့်သွင်းရေးဖွဲ့လေ့ရှိသည်။ ထိုဥပမာအလင်္ကာမြောက်အဖွဲ့များက သူ့စာတစ်စောင်လုံးအား ကြွတက်ဝင်းပြောင်လာအောင် ဖန်တီးပေးနိုင်ခဲ့သည်ဟု ဆိုရပေမည်။ ထိုထိုသော ဥပမာအလင်္ကာများစွာထဲက အချို့ကို ထုတ်နုတ်ဖော်ပြလိုပါသည်။

(၁) အောင်မှို့ပေါက်ထီး၊ ဆင်ပြောင်ကြီးထက်၊ တက်စီးကြွားကြွား၊ နတ်ယောက်ျားသို့၊ (၆၂)

(၂) ကျိုက်ကျိုက်ညီးညံ၊ ပဌင်သံနှင့်၊ နတ်သံမစဲ၊ နတ်တို့ပွဲသို့၊ (၇၁)

(၃) သုတ်သုတ်လျင်စွာ၊ သေမင်းလာ၍၊ အာဏာကြီးမား၊ ယူမည့်သားဟု၊ အပါးကြပ်ကြပ်၊ ရပ်လာလှည့်သို့၊ (၁၀၄)

(၄) ဂယောက်ဂယက်၊ လွန်နေ့ရက်ဖြင့်၊ မရှက်တတ်အား၊ သူရူးလားသို့၊(၁၀၆)

(၅) မကွာနှစ်ခြိုက်၊ လောဘတိုက်၍၊ စီးလိုက်အမြဲ၊ ပင်လယ်ထဲဝယ်၊ လှိုင်းဝဲပုတ်ရိုက်၊ ဘေးဆိုက်သား၊ ကျီးမိုက်ကာက၊ ငှက်ဖာလသို့၊ (၁၁၂)

(၆) ဤဘုံကာမဓာတ်၊ မပြတ်ယုတ်မာ၊ လူတို့ရွာကား၊ ရာဂုမတ္တက၊ စသည်အပြား၊ ရစ်ပါးရှူးမျိုး၊ နွားနှယ်ထိုးလျက်၊ လိုဆိုးယစ်မိုက်၊ အပျော်လိုက်၍၊ ကိုယ်၌ကုသိုလ်၊ ကောင်းမှုကိုလျှင်၊ မလိုစအား၊ သားမယားနှင့်၊ ပျော်ပါးလေ့ကျက်၊ ဆောင်းတွင်းကြက်သို့၊ (၁၁၂)

(၇) တွေ့ရာသင်္ချိုင်း၊ ရပ်မဆိုင်းဘဲ၊ ပိုင်းအုံဆတ်ဆတ်၊ လိုက်နေတတ်သည့်၊ သူသတ်ယောက်ျား၊ ရန်သူလားသို့၊ (၁၃၉)

(၈) အနိဋ္ဌဗိုလ်၊ ပါပဂြိုဟ်သို့၊ ဤကိုယ်တရား၊ နှိပ်စက်စား၏၊ (၁၄၃)

(၉) ဘဝဂ္ဂဟု၊ ဗာလစရိုက်၊ သေဘေးဆိုက်သည့်၊ လိပ်မိုက်ပမာ၊ (၁၅၂)

(၁၀) သတိမယှဉ်၊ သမ္ပဇဉ်မမှီး၊ မာနကြီးက၊ ခွေးမြီးပမာ၊ မည်စပါခဲ့၊ (၂၀၃)

## သံဝေဂယူစရာ နိဗ္ဗိန္ဒအဖွဲ့များ

မဃဒေဝမင်းကြီး၏ ဆံဖြူတစ်ချောင်းကိုမြင်၍ သံဝေဂကြီးစွာရပြီး မြတ်သောတောထွက်ခြင်း နိက္ခမပါရမီ ဖြည့်ကျင့်ပုံကို အသေးစိတ် ရေးဖွဲ့ထားသော လင်္ကာကြီးဖြစ်သည်နှင့်အညီ စာရှုသူတို့အား ဤခန္ဓာ၏ ဆိုးညစ်ယုတ်မာပုံအဖြစ်ကိုပြ၍ လူ့ဘဝဟူသည် အနှစ်ကင်းမဲ့ပုံကို သံဝေဂယူစေလို၍ လင်္ကာကြီးထဲတွင် သံဝေဂယူစရာ နိဗ္ဗိန္ဒအဖွဲ့များကိုလည်း တွေ့နိုင်ပါသည်။ ယင်းအဖွဲ့များမှာ ထိမိပြီး ဖတ်သူအား ရင်ထဲ ခိုက်ထိခံစားစေနိုင်သည်။ ဥပမာအချို့ကို ကောက်နုတ်ပြပါမည်။

(၁) မိထိလာကျော်ခြီး၊ ဤပြည်ကြီးကား၊ ကာဆီးပတ်ဝိုင်း၊ တံတိုင်းမြို့ရိုး၊ ပြအိုးရဲခို၊ ကျည်းလှျိုတံခါး၊ မြကြပ်ထား၍၊ ငါ့အားလုံအောင်၊ အသေထောင်သည့်၊ နှောင်အိမ်စင်စစ်၊ ထောင်ကြီးဖြစ်၏။ (၁၄၇)

(၂) တောဆင်ပြောင်ကို၊ သွေးဆောင်အောက်မား၊ ကျုံးလှောင်ထားသို့၊ ငါ့အားယုယ၊ ရံခံစုရုံး၊ သေမင်းကျုံး၌၊ သက်ဆုံးကျအောင်၊ ဖျော်ကြလှောင်လိမ့်၊ (၁၄၉)

(၃) စောလှနရိန်၊ ဘိမသိန်တို့၊ အချိန်ရောက်က၊ ထိတ်ကြောက်မည္သာ၊ သေမိန့်စာနှင့်၊ အာဏာထန်ပြင်း၊ ဆောင်အတင်းသည်။ ။ သေမင်းဖြုတ်ဖြုတ်ငင်တကား။ (၃၅၃)

(၄) သေခါသေချိန်၊ ပြက္ခဒိန်ဝေဖန်၊ နက်ဖြန်သဘက်၊ သေမည့်ရက်ကို၊ ချိန်းချက်မရှိ၊ ဘယ်သူသိဟု၊ ဗောဓိဉာဏ်မျိုး၊ မြင်ရိုးပြကတော့၊ မှန်ခလေ့ကြောင့်၊ (၄၁၆)

(၅) အပအတွင်း၊ ဆီးဆို့ကင်းသည့်၊ ဟင်းလင်းထုတ်ချောက်၊ ဤခြောက်ပေါက်ကို၊ ထက်အောက်ပိတ်ချုပ်၊ ချမင်းထုပ်သို့၊ ပိုက်ထုပ်ကိုယ်ကြပ်၊ အမြဲတပ်၍၊ မလပ်တံ့ဘိ၊ တည်နေရှိသား၊ သတိဟုဆို၊ တံခါးဗိုလ်ဖြင့်၊ ဤကိုယ်မြို့တွင်း၊ စောင့်မကင်းတည့်။ (၄၃၀)

# ၅။ အခြားမြန်မာစာ၊ မြန်မာမှုများ

ဆရာတော်ကြီး၏ ကဗျာဉာဏ်ရည်၊ ကဝိဂုဏ်ရည်တို့သည် ရေးမကုန် ပြော မဆုံးနိုင်အောင် များပြားပါဘိ။ ဆရာတော်ကြီးသည် ကျမ်းဂန်ပါဠိ နှင့်စပ်ကျွမ်းကျင်၍ မျှသာမက မြန်မာမှုတို့၌လည်း ကျေညက်နားလည်သည်။ လူ့သဘောကိုလည်း ထိုးထွင်း သိမြင်တတ်သည်။ လျင်မြန်သော ဉာဏ်ပဋိဘာန်နှင့်လည်း ပြည့်စုံသည်။ လောကီ လောကုတ်၊ မယုတ်စွယ်စုံ၊ မုံဝင်အာသောက်၊ ကဝိပါမောက်၊ ပြောင်ကြီးမြောက်၍၊ ပေါက်သားကြီးတစ်ဆူ ဖြစ်တော်မူသော မ-တစ်လုံးကြေ မကာရလောပ ပုဂ္ဂိုလ်ကျော်ကြီး ဖြစ်လေသည်။

ဆရာတော်ကြီး၏ ထူးကဲသာလွန်သော ပါရမီဉာဏ်တော်ကြီးကို ကြည်ညိုပူဇော် လိုရင်း စေတနာရင်းဖြင့် ကျမ်းတစ်စောင်ပေတစ်ဖွဲ့ ရေးသားရာတွင် ဉာဏ်မမီ၊ အတွေး မရောက်သဖြင့် ကျန်နေဦးမည့် ဂုဏ်ရည်များသည် အများအပြား ရှိနေပေဦးမည်။ လေ့လာရသမျှအထဲက စာရှုသူများ သိရှိအပ်သော မြန်မာစာ၊ မြန်မာမှုများကို ဖော်ပြ အပ်ပါသည်။

(၁) **ထီးမှုနန်းဟန်၊ မြို့ပြဖွဲ့စည်း တည်ထောင်မှုဆိုင်ရာ အစီအမံ၊ ထုံးတမ်း စဉ်လာများနှင့် မြန်မာမှု အစီအရင်များ။**

(၂) မင်း၊ အကြီးအကဲတို့၏ ကျင့်အပ်သော ရာဇနီတိများ၊

(၃) မင်းသားတို့ ကျင့်အပ်သော အဆုံးအမများ၊

(၄) မှူးမတ်၊ ပုဏ္ဏား၊ မိဖုရား၊ တရားသူကြီး၊ ရှေ့နေရှေ့ရပ်တို့ လိုက်နာရန် ကျင့်ဝတ်များ၊

(၅) အိမ်ရာထောင် ယောကျာ်း၊ မိန်းမများအတွက် ကျင့်ကြံဖွယ်ရာများ၊

(၆) သူတော်ကောင်း၊ ပညာရှိ၊ လူမိုက် ပညာမဲ့တို့နှင့် စပ်လျဉ်းသော ဖွင့်ဆိုချက်များ၊

(၇) မြန်မာမင်းတို့အုပ်ချုပ်ပုံ၊ တရားစီရင်ပုံနှင့် အမွေမှုဆိုင်ရာ မှုခင်းများ ဆုံးဖြတ်စီရင်ရာ၌ လိုက်နာဖွယ်ရာများ၊

(၈) မိဘနှင့် သားသမီး၊ ဆရာနှင့်တပည့်၊ လင်နှင့်မယား၊ သခင်နှင့် ကျေးကျွန်တို့ လိုက်နာဖွယ်ရာများ

(၉) ဘုရားဟောနိပါတ်တော်၊ ဇာတက၊ ရာဇဝင်၊ နီတိ၊ သျှတ္တရ၊ နက္ခတ္တ၊ သေနင်္ဂဗျူဟာ၊ အင်္ဂရတ်၊ ဂြိုဟ်စီးဂြိုဟ်နင်း၊ အတိတ်၊ နိမိတ်၊ စနည်း တဘောင်များဆိုင်ရာ သိမှတ်ဖွယ်ရာများ၊

(၁၀) လယ်လုပ်၊ ကုန်သွယ်ခြင်းဆိုင်ရာ စီးပွားရေး သဘောတရားများ

(၁၁) ဗြဟ္မာပြည်၊ နတ်ပြည်၊ ငရဲပြည်နှင့် အပါယ်ဘုံသားတို့၏ သုခ၊ ဒုက္ခများ၊

(၁၂) မြတ်ဗုဒ္ဓ၏ ပါရမီဆယ်ပါး ဖြည့်ဆည်းပုံနှင့် နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်းများနှင့် စပ်လျဉ်းသော လမ်းညွှန်ချက်များ၊

(၁၃) လူ့ဘဝတစ်သက်တာတွင် ပြုရမြဲဖြစ်သော နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး၊ ပညာရေး၊ ကျန်းမာရေး၊ ပေါင်းသင်းဆက်ဆံရေး၊ လူတစ်လုံး သူတစ်လုံးဖြစ်ရေး၊ ယဉ်ကျေးမှုဆိုင်ရာ လမ်းညွှန်အဆိုအမိန့်များ တို့ ဖြစ်ပါသည်။

# ၈။ မိန်းမများအပေါ် ဆရာတော်ကြီး၏အမြင်

ဆရာတော်ကြီးသည် ဤမဃဒေဝလင်္ကာသစ်ကြီးတွင် ရာဂတဏှာ၏ ဆိုးသွမ်း ယုတ်မာပုံများကို ဖော်ကျူးရင်း မိန်းမများအပေါ် တစ်ဖက်သတ်လိုက်စားကာ မိန်းမတို့ အလိုနောက်သို့ ကောက်ကောက်ပါတတ်သော ယောကျ်ားတို့အား ဆုံးမလို၍လည်း ကောင်း၊ မိန်းမများကိုယ်တိုင်ကလည်း မိမိတို့ကိုယ်ကို ထိန်းသိမ်းစောင့်ရှောက်နိုင်ရန် အလို့ငှာလည်းကောင်း၊ ဆရာတော်ကြီးသည် မိန်းမများ မကောင်းပုံ၊ ကောက်ကျစ်ပုံတို့ကို ကွက်ကွက်ကွင်းကွင်း ရေးဖွဲ့ထားပါသည်။ ဤသည်ကို ဤလင်္ကာသစ်ကြီးအား ဖတ်ရှု သူတို့အနက် အချို့သည် ဆရာတော်ကြီးအား အဆိုးမြင်လွန်းသည်၊ မိန်းမများအပေါ် နှိမ်လွန်းသည်ဟု အထင်ရောက်သွားနိုင်ပေသည်။

စင်စစ်မှာကား ဤသို့မဟုတ်ချေ။ ဆရာတော်ကြီးသည် လောကီ သဘာဝဃရာ ဝါသ သဘာဝကို လှစ်ပြ၍ လင်နှင့်မယားအကြား မေတ္တာလွှမ်းခြုံထားပြီး အေးချမ်း သာယာသော အိမ်ထောင်စုတစ်ခုကို တည်ဆောက်နိုင်ရေးအတွက် ဆင်ဆင်ခြင်ခြင်၊ ပြေပြေလည်လည် ဆက်ဆံပေါင်းသင်းနိုင်ကြစေရန် စေတနာထား ရေးဖွဲ့ထားခြင်းသာ ဖြစ်ပေသည်။ ဤသဘောကို လင်္ကာတစ်စောင်လုံး၌ ရေးဖွဲ့ထားသော မိန်းမဆိုး၊ မိန်းမယုတ်တို့အကြောင်းများနှင့် မိန်းမကောင်း မိန်းမမြတ်တို့အကြောင်းဆိုင်ရာ အရေး အဖွဲ့များက ဖော်ညွှန်းနေပေသည်။

မှန်ပေသည်။ ဆရာတော်ကြီးသည် ဤလင်္ကာသစ်ကြီးထဲ၌ မိန်းမယုတ်၊ မိန်းညံ့တို့ အကြောင်းကို စက်ဆုပ်ဖွယ်ရာ ရေးဖွဲ့ထားသလို မိန်းမကောင်း မိန်းမမြတ်တို့အကြောင်း ကိုလည်း ကြည်ညိုလေးစား မြတ်နိုးဖွယ်ရာ ရေးဖွဲ့ထားသည်ကို တွေ့မြင် ဖတ်ရှုနိုင် ပေသည်။ မိန်းမချည်းများသာမဟုတ်၊ ယောကျ်ားများနှင့်ပတ်သက်၍လည်း ယောကျ်ား

ကောင်း ယောက်ျားမြတ်တို့အကြောင်း၊ ယောက်ျားယုတ် ယောက်ျားညံ့တို့အကြောင်း တို့ကိုလည်း ရေးဖွဲ့ထားသည်ကို တွေ့နိုင်သည်။ ဤသည်ကိုကြည့်လျှင် မိန်းမနှင့် ယောက်ျားတို့ ဦးဆောင်သော ဤလူ့ဘုံတွင် ချမ်းမြေ့သော အိမ်ထောင်စုများ ပေါ်ပေါက် လာစေရန်ဟူသော ဆရာတော်ကြီး၏ စေတနာမှာ ပေါ်လွင်ထင်ရှားနေပေသည်။

ဆရာတော်ကြီး၏ ကောင်းမြတ်သော စေတနာနှင့် မိန်းမ၊ ယောက်ျားတို့ အကြောင်း ရေးဖွဲ့ထားပုံတို့မှ အချို့ကို သိသာရန် အောက်တွင် ဖော်ပြပါသည်။

(၁) ဤလျှင်မိန်းမ၊ ဣတ္ထိယတို့၊ ရူပသဒ္ဒ၊ ဂန္ဓရသာ၊ ဖောဋ္ဌဗ္ဗာဟု၊ ယုတ်မာ မပြတ်၊ ငါးဖြာဓာတ်ကား၊ ဥပဒ်များစွာ၊ ဘေးတကာ၏၊ မဟာသဟဲ၊ မှန်မလွဲရှင့်၊ (၂၉၄)

(၂) မိန်းမမည်ကာ၊ ကျင့်ယုတ်မာနှင့်၊ မေတ္တာဆက်ဆံ၊ သက်မနံ့ရာ၊ (၂၉၆)

(၃) အကြင်မိန်းမ၊ ဣတ္ထိယတို့၊ အဋ္ဌပတိ၊ ရှစ်လင်ရှိလည်း၊ လွန်ဘိပိုမို၊ ကိုးယောက်ကိုပင်၊ အလိုရှိမြဲ၊ လိုပြည့်ခဲ၏၊ လင်မွဲလင်နာ၊ လင်သူရာကြိုက်၊ လင်မိုက်လင်ဖျင်း၊ လင်ပျင်းလင်အို၊ အလိုမဖြည့်၊ မပြည့်ဆန္ဒ၊ ယိုတုံက လျှင်၊ မိန်းမဟူသည်၊ ဤရှစ်မည်ကြောင့်၊ မကြည်မသာ၊ ပြုတတ်စွာ၏၊ (၂၉၇)

(၄) ထိုဣတ္ထိယ၊ ဝဏ်တ္တကို၊ နတ်မှုပိုင်ပိုင်၊ မသိနိုင်ဘူး၊ တထိုင်တည်း၌၊ ဆယ်နည်းမက၊ ဖောက်ပြန်ကြ၏၊ မိန်းမဟူငြား၊ သဘောအားဖြင့်၊ ယောက်ျားတကာ၊ ဆက်ဆံရာကြောင့်၊ ပမာမယွင်း၊ လေနှင့်မြင်းသို့၊ စီးနင်းသူနောက်၊ ကောက်ကောက်ချည်းသာ၊ ဆောင်ရာပါရှင့်၊ (၂၉၉)

(၅) တောင်ကြီးမျိုး၍၊ ရွတ်ဆိုနှုတ်က၊ ကျိန်သမျှလည်း၊ မိန်းမသစ္စာ၊ မုသား သာတည့်၊ မာယာကာရီ၊ ပလီနှုတ်လျှမ်း၊ တွေ့ရာရမ်း၍၊ ဖုံးလွှမ်းကာဆို၊ လျှာမချိုဘူး၊ (၃၀၇)

(၆) ယောက်ျား၌သာ၊ မဟူရာဘူး၊ အမရာဒေဝိ၊ ဘေရိမမ္မ၊ ဒိန္နာ စသည့်၊ အပွကဟူ၊ နည်းငယ်မူကား၊ လူဝယ်ထိုသို့၊ မိန်းမတို့လည်း၊ မချို့ပညာ၊ ရှိတတ်စွာ၏၊ ရေးခါတမူ၊ တောမြိုင်ဌူတွင်၊ လူမဟုတ်သေး၊ အရေးလိမ္မာ၊ သိတတ်စွာသည့်၊ ပညာရှိက၊ သိမ်းစွန်မ၏၊ နည်းပြည့်စွန်ဆို၊ လင်သိမ်းဖို ကို၊ ဝန်လိုကမ္ဘာ၊ လိပ်ကြီးစွာနှင့်၊ မိဂါဓိပတော့၊ ခြင်္သေ့မင်းအား၊ ခစားရှိသော၊ မိတ်ဖွဲ့စေ၍၊ ရောက်ထွေရေးကြီး၊ သားသမီးတို့၊ သေနိုးလုမှန်၊ လူ့ဘေးရန် ကို၊ တွန်းလှန်ချမ်းသာ၊ ရဖူးစွာ၏၊ (၃၁၄)

(၇) လိမ္မာခွင့်သို့၊ ပညာရှိသား၊ ဓိတိတည်မတ်၊ မိန်းမမြတ်တို့၊ နတ်နှင့်မခြား၊ လင်ယောက်ျားကို၊ ပျော်ပါးမပြတ်၊ ရွှင်စေတတ်လျက်၊ လေးမြတ် သက်ထင်၊ မိမိလင်အား၊ လူတွင်စင်စစ်၊ မိတ်ကြီးဖြစ်၏၊ တဆစ်ထိုပြီး၊ မြတ်ဇာတိဖြင့်၊ ဗောဓိဆုပန်၊ ယောက်ျားမှန်တို့၊ ငါးတန်ပရိစ္စာဂ၊ စရိယ၌၊

တကွမချွတ်၊ တူကြည်ညွတ်၍၊ အမြတ်ဝသီ၊ ပါရမီကို၊ ကူညီအားသစ်၊ ဖြည့်ဖက်ဖြစ်၏၊ (၃၁၅)

(၈) ယခေါင်ကာလ၊ ရှေးမဆွဲ၌၊ ကိစ္စတသီး၊ အရေးကြီး၍၊ မပြီးနိုင်က၊ ကြံမရသော်၊ မိန်းမတို့သာ၊ တိုင်ပင်ရာဟု၊ ပညာရှိများ၊ အစဉ်ကြားလျက်၊ ထင်ရှားမိန့်မှာ၊ ဥဒါန်းလာ၏၊ သမ္မာမှန်မြတ်၊ ထိုမိနတ်တို့၊ မျိုးဇာတ်ဓမ္မတာ၊ ကျင့်မြတ်စွာကား၊ ယုတ်မာညစ်ကျူ၊ မကောင်းမှုကို၊ ပြုရအံ့ငှာ၊ အောင့်အည်းစွာ၏၊ (၃၁၅)

(၉) လူ့ရွာဌာန၊ ဤလောက၌၊ မိန်းမတို့သာ၊ ကျင့်ယုတ်မာ၍၊ မိစ္ဆာဆိုးဝါး၊ မဟုတ်ကြောင်းဘူး၊ ယောကျ်ားသည်လည်း၊ ပညာနည်းတို့၊ စောင့်စည်းမရှိ၊ မျိုးကုတ္တိသို့၊ မသိကျေးဇူး၊ သူ့ဂုဏ်ထူးကို၊ ထိမ်မြှုံးချေတတ်၊ ကျင့်မမြတ်တည့်၊ မှတ်လော့ထိုရော်၊ ရှေးခါသော်က၊ ခြောက်ဖော်မင်းသား၊ တောရပ်သွားတို့၊ မယားကိုသတ်၊ စားကုန်တတ်ရှင့် (၃၁၃)

(၁၀) မယားဟူသည်၊ သက်တူကျွမ်းဝင်၊ သဘောစင်က၊ လူတွင်မိတ်စစ်၊ ဆွေရင်းဖြစ်၏၊ အပြစ်တမူ၊ အမျက်ယူက၊ ရန်သူကြီးဖြစ်၊ သေမင်းစစ်၏၊ ချစ်သော်သက်နှန်း၊ မုန်းသော်သေမင်း၊ အတွင်းရန်သူ၊ သေကြောင်းမှု၍၊ ပြစ်ယူဒေါသ၊ ပြုတတ်ကြရှင့်၊ ဗောဓိယောကျ်ား၊ သူမြတ်များတို့၊ တရားမလစ်၊ ဆင်ခြင်ချစ်၏။ (၃၁၁)

# ၉။ ဆရာတော်ကြီး၏ ခိုင်ခံ့တည်ကြည်သော စိတ်ဓာတ်စွမ်းရည်

ဆရာတော်ကြီး၏ ငယ်နာမည်ကား "မောင်မာ"ဟု မိဘနှစ်ပါးက မှည့်ခေါ်ထားသည်မှာ ဆရာတော်ကြီး၏ ထက်သန် မာကျောသောစိတ်ဓာတ်ကို ဖော်ကျူးနေသော အနွတ္တအမည်အဖြစ် မှတ်ယူနိုင်ပါ၏။ မှန်၏။ ရှေးအခန်းများတွင် ဖော်ပြခဲ့သည့်အတိုင်း ဆရာတော်ကြီးသည် ဉာဏ်ပဋိဘာန် ကြီးမား နက်ရှိုင်းရုံမျှသာမဟုတ်သေး။ သူ၏ စိတ်ဓာတ်သည်လည်း လွန်စွာ စူးရှထက်မြက်လှပေသည်။ နဂိုက ဖြောင့်မတ် တည်ကြည်သော စိတ်ဓာတ်ရှိသူပီပီ မဟုတ်မမှန်၊ ကလိန်ဉာဏ်များနှင့် ပြုမူပြောဆိုလာသမျှကို အလွန် စက်ဆုပ်သူဖြစ်ပေသည်။ ထို့ကြောင့် အမှားတွေ့လျှင် ရေငုံနှုတ်ပိတ် မနေတတ်ဘဲ အမုန်းခံကာ ချက်ချင်းပင် တုံ့ပြန်ချေပတတ်သောသတ္တိထူးလည်း ရှိပေသည်။ ထို့ကြောင့် ထိုခေတ် ထိုကာလက သာသနာရေးဆိုင်ရာ ဝိဝါဒများရှိလာသောအခါ သာသနာပိုင် ဆရာတော်ကြီးများကပင် မန်လည်ဆရာတော်ကြီးအား တိုက်စစ်မှူးကြီးအဖြစ် အားထားကာ လိုအပ်သလို တုံ့ပြန်ရေးသားရန် ကိုယ်စားလှယ်လွှဲအပ်တော်မူခဲ့ကြသည်။

ထိုသဘောကို ရာမည‌ဒေသ၊ ပုသိမ်မြို့မှ ရှင်ပဒုမ၏ ဒသသီလခေါ် ဆယ်ပါးသီလကို လူတို့မကျင့်အပ်ကြောင်း ရေးသားတင်ပြချက်နှင့် စပ်လျဉ်းပြီး ပုသိမ်၊ ရန်ကုန်မြို့ကြီးများ၌ အငြင်းပွားလျက်ရှိရာ သက်ဆိုင်ရာ ဆရာတော်ကြီးများက ပြီးပြတ်အောင် ဖြေရှင်းနိုင်ခြင်းမရှိသဖြင့် ဒုတိယရွှေကျင် မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီးထံမှ အလုံးစုံ စေ့စပ်၍ တစ်ဝါဒတည်းဖြစ်အောင် ကျမ်းတစ်စောင်ကို စီရင် ရေးသားပေးပါမည့်အကြောင်း ဆရာတော်ကြီးထံ လျှောက်ထားလာချက်အရ အထင်အရှား သိနိုင်ပေသည်။

ထိုအခါ ဆရာတော်ကြီးကလည်း ဒသသီလခေါ် ဆယ်ပါးသီလကို လူတို့စောင့်ထိန်းအပ်ကြောင်း ကျမ်းဂန်၊ ပါဠိတော်မှလာရှိသည့်အတိုင်း အဋ္ဌကထာ၊ ဋီကာ၊ သမိုင်း၊ မော်ကွန်း စသည်တို့၏ အဆိုများနှင့်ရောနှောကာ "ဒသသီလ ဝိနိစ္ဆယ ဝဇိရဂ္ဂဒီပနီ" ကျမ်းကြီးကို စီရင်ရေးသားခဲ့လေသည်။

တစ်ဖန် ထိုဝိနိစ္ဆယစာတမ်းကြီးကို ပုသိမ်မြို့ ဦးပဒုမက လက်မခံဘဲ ပယ်ချကာ မိမိအဆိုသာလျှင် မှန်ကန်ကြောင်း တစ်ဖန် စာအုပ်ထုတ် ရေးသားလာပြန်သောကြောင့် သာသနာပိုင် သုဓမ္မာဆရာတော်ကြီးများက မန်လည်ဆရာတော်ကြီး၏ ရေးသားချက်ကို အတည်ပြုပြီး ဦးပဒုမ၏စာအုပ်ကို မီးဖုတ်ပစ်ရမည်ဟု အမိန့်ထုတ်ပြန်ခဲ့ကြသည်။ ယင်းအမိန့်အရ မန်လည်ဆရာတော်သည် "သူမတို့လေမှ၊ သူတို့လျှင် တကယ်မြည်တဲ့၊ မြို့မန်လည်ရွှေစည်ကြီးပါပဲ၊ တီးသမျှဖိမ့်ဖိမ့်တုန်" အစချီသော လေးချိုးကြီး ၄ ပုဒ်ကို ရေးလိုက်ပြန်သည်။

ထိုလေးချိုးကြီးများတွင် ဆရာတော်ကြီး၏ ပညာမာန်၊ မဟုတ်လျှင် မမှန်လျှင် မခံတတ်သောစိတ်နှင့် အမြော်အမြင်ကြီးမားပုံတို့ကို အထင်းသား မြင်တွေ့နိုင်ပါသည်။ ထိုလေးချိုးကြီးများပါ အောက်ပါအဖွဲ့များက သက်သေပြနေပေသည်။

(၁) သူမာလျှင်မာစိန်ချောင်းသာပ၊ သူပျောင်းလျှင် အရည်ဖြစ်နိုင်ငဲ့၊ မယုံလျှင် မအေနှင့်စစ်လာတော့၊ သနစ်ကို ကုန်မလင်းသော်လည်း–

(၂) မာန်မလုပ်ချင်ဘူး၊ မာန်လုပ်လျှင် လွယ်သည်သာပ၊ ငယ်မည်မှာ နငယ်သတ်ရုံပဲ၊ နေရပ်ကယ် မန်ရွှေလည်နှင့်၊ မာန်နှစ်မာန်မာန်စုံကွန့်နိုင်ငဲ့၊ ဖူးအညွန့် ခေါင်ကတင်–

(၃) ထို့တူသာ၊ ဆိုင်ဝံ့သူဆိုင်လာတော့၊ ပြိုင်လာလျှင် ကြာမနေးစေနှင့်၊ ရှုံးသူဟာ နှမပေးပါလို့၊ လိုသေးလျှင် ကိုယ်ပိုင်ယူမပ၊ နိုင်တဲ့သူယောက်ဖချည်းပါပဲ–

(၄) ပဒုမ၊ တုပကာနှင်မယောင်နှင့်၊ ဆင်ပြောင်ခြင်ကောင်ဝါးသော်လည်း၊ ယားရုံမျှပုံပမာ–

(၅) သို့အရာ မောင်မင်းလို အယူချာကြလျှင်၊ လူတကာပါယ်ရှာသို့ ရောက်သည့်ပြင်၊ သာသနာကွယ်ကာမှောက်မည်ကြောင့်၊ ထင်နောက်နောင် ဉာဏ်ပလီနှင့်၊ မော်ကြဲစည်ဖွင့်ကာလုပ်ပါတဲ့၊ တောင်ပန်နီမင်းစာအုပ်ကို၊ မီးဖုတ်ဖို့ကောင်း။

အလုံးစုံကို ခြုံငုံသုံးသပ်၍ ဆိုရသော်–

ကျေးဇူးရှင် မန်လည်ဆရာတော်ဘုရားကြီးသည် သမ္မာသမ္ဗုဒ္ဓဗောဓိဆုကြီး ပန်ဆင်ထားသူ ပုဂ္ဂိုလ်မြတ်ဖြစ်သည်နှင့်အညီ သူ၏မဃဒေဝလင်္ကာသစ်ကြီး၏ ပိုဒ်ရေ (၆၀၅) ပဏ္ဏနာအာသိသ ဒသနနိဂုံးတွင် ဖော်ပြထားသည့်–

"ဤခုနောင်လာ၊ သုတရှာသား၊ ပဏ္ဍာဂတ၊ သဒ္ဓနတို့၊ ဓမ္မသံဝေ၊ ရပစေနှင့်၊ ဉာဏ်ခြေနည်းမူ၊ မှတ်ယူစိမ့်ငှာ၊ ကရုဏာလည်း၊ ငါ၌အပြင်း၊ တိုက်တွန်းခြင်း

ကြောင့်၊ ယင်းအလင်္ကာ၊ ဤကျမ်းစာကို၊ နာနာနယ၊ နည်းစုံပြ၍၊ အစအဆုံး စီခဲ့ကုံးသည်။ ။ နတ်သုံးတိမ်တိုက် ပုလဲတည်း။" ဟူသော ရည်ရွယ်ချက်နှင့် အညီ ဤမဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးကို ရေးသားသီကုံးတော်မူခဲ့သည်။

ရေးသားသီကုံးရာ၌လည်း လွယ်လွယ်ကူကူ၊ ပေါ့ပေါ့ပါးပါး၊ အချိန်တိုကာလ အတွင်း ရေးခဲ့သည်ကား မဟုတ်ချေ။ ခက်ခက်ခဲခဲနှင့် နှစ်ပေါင်း (၃၁)မျှ အချိန်ယူကာ ကြိုးကြိုးစားစား စီကုံးခဲ့ရလေသည်။

ဆရာတော်ကြီး၏ မဃဒေဝလင်္ကာသစ်ကြီး၏ နိဂုံးသံပေါက်တွင်–

"မဃစိုးမင်း၊ တောထွက်ခြင်း၊ ဝမ်းတွင်းကြည်သဒ္ဒါ။ ပဌင်းခံ၍၊ ဆယ်ဝါစေ့၊ အောက်မေ့ရေးသဒ္ဒါ။ မဃစိုးဇာတ်၊ အဋ္ဌုပ္ပတ်၊ ထူးမြတ်ဤခြင်းရာ။ လင်္ကာအထူး၊ ဘွဲ့ကာကျူး၊ ကျေးဇူးဆပ်စိမ့်ငှာ"ဟူ၍ ပါရှိရာ ဆရာတော်သည် ဤလင်္ကာသစ်ကြီးကို ရဟန်းဝါ ဆယ်ဝါအရတွင် စတင်ရေးသားပြီး–

"ကြံစည်စိတ်က၊ ရေးစီစ၊ ကာလထိုအခါ။ ဘုရားကမ္မ၊ မှုကိစ္စ၊ ဖြစ်ထကြီးကျယ်စွာ။ ထိုကြောင့်လပ်လျား၊ ဖြတ်ကာထား၊ နှစ်များရှည်မြင့်ကြာ"ဟူသော စကားအရ ဆရာတော်သည် သာသနာရေးကိစ္စများကြောင့် မအားမလပ်သဖြင့် နှစ်များရှည်ကြာစွာ ရပ်ထားခဲ့ရသည်။

တစ်ဖန်–

"ဆဆဒွေးဇေ်၊ သက္ကရာဇ်၊ ရောက်လစ်ပြန်သောအခါ။ ရပြန်သတိ၊ အောက်မေ့မိ၊ ဆက်ဘိပြန်တစ်ခါ။ လောကဓမ္မ၊ ရာဇသုံးမျိုး၊ ပြည့်စုံဖြိုး၊ နည်းရိုးမှတ်စရာ။ ရေးဝေါဟာရ၊ ပေါရာဏနှင့်၊ ချိချမမှား၊ စပ်ခြောက်ပါး၊ ခွဲထားသတ်ပုံပါ။ မကြွင်းစေဘိ၊ စပ်ရိုးသိ၊ ကဝိလက္ခဏာ။"

ဟူသည့် သံပေါက်ပါ စကားအရ ဆရာတော်သည် ရေးလက်စ လင်္ကာတော်သစ်ကြီးကို မြန်မာသက္ကရာဇ် (၁၂၆၆) ခုနှစ်တွင် တစ်ဖန်ပြန်၍ ရေးသားစီရင်ခဲ့သည်။ ထို့ကြောင့် ဤလင်္ကာသစ်ကြီးကို ဆရာတော်ကြီးသည် ရဟန်း (၁၀)ဝါရ (၁၂၃၅) ခုနှစ်တွင် စရေးပြီး (၁၂၆၆) ခုနှစ်တွင် ဆက်လက်ရေးသားပြီးမှ အဆုံးကမ္ပတ် ရောက်ခဲ့ရသည်ကို ထောက်လျှင် (၃၁)နှစ်ကြာမျှ ပြုစုရေးသားခဲ့ရကြောင်း တွေ့ရှိရသည်။ ဤသို့ ဉာဏ်မီးတောက်စအရွယ်တွင် စတင်ရေးသားပြီး ဉာဏ်ပညာပြည့်ဖြိုးရင့်ကျက်ပြီးသော အရွယ်တွင်မှ နိဂုံးကမ္ပတ် အဆုံးသတ်ရေးသားရသောကြောင့်လည်း ဤကျမ်းကြီးသည် ဤမျှပြည့်စုံကောင်းမွန်ရခြင်း ဖြစ်ပေသည်။

ထို့ပြင် ဤကျမ်းလင်္ကာကြီးကို ရေးဖွဲ့ရာ၌လည်း "ရေးကဉာဏ်ဝန်၊ ဆရာမွန်တို့၊ နည်းညွှန်မှတ်ဖွယ်၊ မိန့်ခဲ့သွယ်တိုင်း၊ မကျယ်မကျဉ်း၊ လင်္ကာချဉ်းသည်"ဟု စပ်ဆိုခဲ့သည့်အတိုင်း–

"ကစတာယ၊ ပရမတ္ထ၊ သတ္တဇုဋ္ဌနာ၊ ချချီရာလည်း၊ မည်သာတတန်၊ ရွှေလောင်းပြန်ရှင့်၊ မှတ်ရန်တမူ၊ သတ်တူသံတူ၊ ကာရန်တူချ၊ လင်္ကာမည်ဆောင်၊ သော်တာ

ရောင်တည့်၊ ထိုနောင်တစ်ပါး၊ ခြား၍မှတ်ကြ၊ ကတထဖြင့်၊ ချသည်တစ်မည်၊ နေရောင်ခြည်ပြေး၊ တရေးညွန့်လန်း၊ ခေါ်မှန်းစဉ်ဆက်၊ သက်သက်ဝဏ္ဏ၊ ကေဒ္ဒယာ၊ အကြားပါလတ်၊ သတ်မဲ့အက္ခရာ၊ ချတုံ့ပါသော်၊ တွင်ခေါ်မြဲသိပ်၊ ဖျောက်ဆိပ်လလည်၊ တစ်သွယ်မည်မှတ်၊ မသတ်နည်းငြား၊ အသတ်များတုံ၊ စာညွန့်ဟုံတည့်၊ မှတ်ပုံအဆုံး၊ ခုနစ်လုံးချ၊ ဟူသမျှကား၊ နာမပညတ်၊ ခိုင်ညွတ် ခက်ဖြာ၊ နဝါချဘိ၊ မဏိဆံကျင်၊ ထိုပြင်တစ်ဆစ်၊ ဆဲ့တစ်ချမှာ၊ အာသာဝတီ၊ ဆယ့်ငါးပြီဖူ၊ မှတ်ယူမည်ရှိ၊ မဏိဥပြည်း၊ တစ်နည်းထိုမှ၊ ဆဲ့ကိုးချမှာ၊ ဇော်တစ် ခိုင်လုံး၊ ချထုံးတစ်လီ၊ ပဋိကား၊ တွင်ညီမည်မှတ်၊ မပြတ်ကေသာ၊ ပဏ္ဏာတိံသ၊ နာမမည်ပြု၊ ဇမ္ဗူ့သပြေ၊ ထိုထက်ထွေ၍၊ ချစေလင်္ကာ၊ ထုံးမလာတည့်၊ နည်းနာ လက်ရှိ၊ အရိုးသိလော့၊ ကဝိကဏ္ဍ၊ ပါသခေါ်ညွန်း၊ နန်းစဉ်တွန်းသည်။ ။ မော်ကွန်းရွှေပွင့် တင်ထိုးတည်း"ဟူသော ဖော်ပြချက်နှင့်အညီ ချိုပုံချပုံနည်းမျိုးစုံဖြင့် ရေးသီဖွဲ့ဆိုခဲ့သော ကျမ်းတစ်ဆူဖြစ်သည်မှာ ပေါ်လွင်နေပေသည်။

မန်လည်ဆရာတော်ဘုရားကြီး၏ အမည်သည်လည်းကောင်း၊ သူကိုယ်တိုင် ရေးသား စီရင်တော်မူသော မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးနှင့်တကွ (၇၀) မျှသော ကျမ်းအဆူဆူတို့သည်လည်းကောင်း၊ မြန်မာသမိုင်း၊ မြန်မာစာပေဂန္ထဝင်တွင် ထာဝစဉ် မော်ကွန်းထိုးလျက် ခေတ်အဆက်ဆက်တည်တံ့နေမည်သာဖြစ်ပြီး ဆရာတော်ကြီး လမ်းညွှန်မိန့်ကြား ရေးသားခဲ့သည့် မဃဒေဝလင်္ကာသစ်ကြီးပါ လောကီ လောကုတ္တရာ ဆိုင်ရာ နီတိများသည်လည်း မြန်မာတို့ နှလုံးသားတွင် ကျောက်သားပေါ်ထွင်းထုထား သည့်ပမာ ထာဝရ သက်ဝင်ကိန်းအောင်းနေတော့မည်မှာ အမှန်ပင် ဖြစ်ပါတော့သည်။

# ၁၀။ မိဘနှင့် ဆရာ

မြန်မာမှုတွင် မိဘနှင့် ဆရာတို့သည် မြင့်မြတ်သူများ ဖြစ်ကြ၏။ ပေးဆပ်၍ မကုန်နိုင်သော ကျေးဇူးရှင်ကြီးများလည်း ဖြစ်ကြ၏။ မြန်မာမှုအရ နှစ်ပေါင်းရာထောင် ချီပြီး ဘုရားနှင့် တစ်ဂိုဏ်းတည်းထားကာ လေးမြတ်ကော်ရော် ပူဇော်ကန်တော့ခဲ့ရသော ကျေးဇူးရှင်သူမြတ်များ ဖြစ်ကြ၏။

ဤသို့ မိဘနှင့် ဆရာများကို ကျေးဇူးရှင်ပုဂ္ဂိုလ်သူမြတ်များအဖြစ် နှစ်ပေါင်း ထောင်ချီကာ မြန်မာမှုအစဉ်အလာတွင် နေရာပေးခြင်း ပြုခဲ့ရသည်မှာလည်း ထိုပုဂ္ဂိုလ် တို့၏ တုမနိုင်းသာသည့် ဂုဏ်ဒြပ်များကြောင့်ပင် ဖြစ်၏။

မိဘဟူသည် သားသမီးများကို မွေးဖွားရုံလောက်နှင့် မပြီးသေး။ ဘဝခရီးလမ်း မဆုံးမချင်း ဆောင်ဖွယ်၊ ရှောင်ဖွယ်များနှင့်တကွ လူ့အသိ၊ လူ့အလိမ္မာများကို ရရှိစေ ပြီး ဘဝခရီးလမ်းတွင် ချောချောမွေ့မွေ့ လျှောက်လှမ်းသွားနိုင်ရေးအတွက်လည်း ကြောင့်ကြစိုက်ကာ ပြုစုပျိုးထောင်ပေးရပေဦးမည်။ ဆရာဟူသည်လည်း ထိုနည်းအတူပင်။ မိမိတပည့်ကို စာတတ်ရုံ၊ စာမေးပွဲအောင်ရုံ သင်ပေးနိုင်ကာမျှဖြင့် တာဝန်သည် မပြီးဆုံး သေးချေ။ ဘဝတစ်သက်တာတွင် တတ်သိနားလည်အပ်သောအတတ်ပညာ၊ အသိပညာ များနှင့်အတူ အနာဂတ် လူ့အဖွဲ့အစည်းထဲတွင် အသုံးဝင် အားထားရမည့် အနာဂတ် သားကောင်းရတနာလေးအဖြစ် ပုံသွင်းဖော်ဆောင်ပေးရန်အတွက် အဓိကတာဝန်ရှိသူ ဖြစ်၏။

ထို့ကြောင့် သံသရာအရေးကိုသာမဟုတ်၊ လောကီရေးကိုလည်း အထူးလုံ့လစိုက် တော်မူသော မြတ်ဗုဒ္ဓသည် သိင်္ဂါလောဝါဒသုတ်တွင် မိဘဝတ္တရား (၅)ပါး၊ ဆရာ ဝတ္တရား (၅)ပါးတို့ကို ထည့်သွင်းဟောကြားလမ်းညွှန်ခဲ့၏။

မှန်၏။ မိဘဆရာတို့၏တာဝန်နှင့် ဝတ္တရားများကား ဖေ့ာ်ပြခဲ့ကြပြီ၍ မကုန်နိုင်အောင် များပြားလှပါဘိ။ မိဘဟူသည် မည်သို့သော ပုဂ္ဂိုလ်မျိုး ဖြစ်သည်။ သားသမီးများအပေါ် မည်သို့သဘောထားရမည်။ သားသမီးများ ရိုသေလေးစားလာအောင် မည်သို့နေထိုင် ပြုမူရမည်။ အခါအားလျော်စွာ မည်သို့ဆုံးမသွန်သင်လမ်းပြရမည် စသည့် မိမိတို့၏ တာဝန်ဝတ္တရားများကို သိထားရန် လိုပေ၏။

ထို့အတူ အာစရိယအမည်ခံ ဆရာတို့သည်လည်း တပည့်တို့အပေါ် မည်သို့ သဘောထားရမည်။ တတ်သိ နားလည်အပ်သောပညာကို မည်သို့သင်ပေးမည်။ အနာဂတ် အတွက် အားထားရမည့် ထူးချွန်ပြောင်မြောက်သူများဖြစ်အောင် မည်သို့အားထုတ်မည်။ မိမိတို့ကို တပည့်တို့ ချစ်ကြောက်ရိုသေအောင် မည်သို့ကျင့်ကြံနေထိုင်ရမည်ဟူသော တာဝန်ဝတ္တရားများကို ကြိုတင်သိနားလည်ထားရန် လိုအပ်ပါ၏။ သို့မှသာ သားသမီး ရှိသူတိုင်း မိဘကောင်းများဖြစ်လာပြီး ပညာသင်ဆရာတိုင်းသည်လည်း ဆရာကောင်း များ ဖြစ်လာနိုင်ပါ၏။

မိဘကောင်း၊ ဆရာကောင်းဖြစ်ရေးအတွက် ကျေးဇူးရှင် မန်လည်ဆရာတော်ကြီး သည် သူ၏ မဃဒေဝလင်္ကာသစ်ကြီးတွင် မှတ်သားလိုက်နာရန် နီတိများဖြင့် လမ်းညွှန် ဖော်ပြထား၏။ ယင်းတို့အထဲမှ ကောင်းနိုးရာ နီတိအချို့ကို ကောက်နုတ်ပြီး ဤမိဘ ဆရာအပိုင်းတွင် စုစည်းဖော်ပြလိုက်ရပေသည်။

## ၁။ မိဘတို့မှာ ကျင့်ကောင်းရာကို

မိဘတို့မှာ၊ ကျင့်ကောင်းရာကို၊ ကောင်းစွာမမှား၊ ကျင့်သောအားဖြင့်၊ ပုဏ္ဏား ရာမ၊ ဗြဟ္မဏာလျှင်၊ ကုမ္ဘဝတီ၊ ဒဏ္ဍာကီ၏၊ ပူရိပြည်လုံး၊ လက်နက်ဖုံးလည်း၊ မဆုံး မပျက်၊ ခြားခဲ့ကွက်၏၊ တစ်ချက်ထိုမျှ၊ အလိနသတ္တု၊ ငယ်နုရွယ်ဦး၊ မင်းယဉ်ကျေးလည်း၊ ဘီလူးမစား၊ ဘစကားကို၊ ထောင်နားမချ၊ နာတတ်လှ၍၊ ရာမလောင်းတော်၊ ခြောက် သောင်းကျော်အောင်၊ နန်းပေါ်စံစား၊ သက်ရှည်လျား၏။ (၁၇၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဒဏ္ဍာကီမင်း၏ ကုမ္ဘဝတီတစ်ပြည်လုံး သဲမိုး၊ ညွှန်မိုးရွာသောအခါ အဘကို လုပ်ကျွေး၍ အဘ၏စကားကို နားထောင်သူ ရာမပုဏ္ဏားသည် မသေမပျောက်ဘဲ ကျန်ရစ်ခဲ့၏။ ထို့အတူ မင်းသား အလိနသတ္တုသည် ဘီလူးစားခြင်းမှ လွတ်မြောက်ခဲ့၏။ အဘစကားအတိုင်း လိုက်နာသူ အလောင်းတော် ရာမမင်းသားသည်လည်း အနှစ်ခြောက် သောင်းကျော်အောင် ထီးနန်းစည်းစိမ်ကို ခံစားရ၏။ မိဘတို့အပေါ် ကောင်းစွာကျင့်၍ စကားနားထောင်ခြင်းသည် အကျိုးများစွာ ပေးနိုင်၏။

## ၂။ နှုတ်လျှာရမ်းကား မပြစ်မှားနှင့်

မာတာပိတ၊ မိဘဆရာ၊ ရတနာသုံးပါး၊ သူမြတ်များအား၊ တရားမဲ့စွာ၊ ရံတစ်ခါမျှ၊ နှုတ်လျှာရမ်းကား၊ မပြစ်မှားနှင့်၊ (၁၉၈)

## ဆိုလိုရင်း အဓိပ္ပာယ်

မိခင် ဖခင်နှင့် ဆရာသမား၊ ရတနာသုံးပါးအပါအဝင် ကြီးမြတ်သူတို့အား တရားမဲ့စွာ မကျင့်ကြံရာ။ တစ်ရံတစ်ခါသော်မျှပင် မရိုမသေ မလေးစားသော စိတ်ဖြင့် ပါးစပ်နှုတ်လျှာ ကြမ်းတမ်းရမ်းကားစွာ မပြောမိပါစေနှင့်။ မပြစ်မှားပါနှင့်။

## ၃။ ဆရာမှတ်၍ စံတည်လေ့လော့

ဝမ်းမှာစွဲထ၊ ဆုံးမသင်နိုး၊ နည်းယူခိုးလျက်၊ ကောင်းဆိုးနှစ်ဖြာ၊ မြင်တိုင်းမှာလျှင်၊ ဆရာမှတ်၍၊ စံတည်လေ့လော့၊ (၂၁၃)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိအား ဆုံးမသွန်သင်သမျှကို နည်းယူမှတ်သားရာ၏။ ကောင်းသည် ဆိုးသည် မဟူ မြင်မြင်သမျှသောအရာတို့ကို သွန်သင်ဆုံးမသူ ဆရာအဖြစ် မှတ်ယူပြီး လေ့လာ ဆည်းပူးပါလော့။

## ၄။ သားကိုချစ်ရ ငယ်စဉ်မျှသာ

သားကိုချစ်ရ၊ ငယ်စဉ်မျှသာ၊ ငယ်ကမှာသား၊ ကြီးသော်ကျားတည့်၊ မမှားပုံသွေး၊ မှန်ချင့်တွေးလော့၊ အရေးတိမ်နက်၊ သိခဲခက်၏၊ ဘထက်သားကြီး၊ မီးထက်ငြမ်းမြင့်၊ အရှင့်ထက်ကျွန်၊ မလွန်စေရ၊ (၂၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

သားကို ငယ်စဉ်ကာလ ကလေးဘဝ၌သာလျှင် ချစ်ဖွယ်ကောင်းလှ၏။ ထိုမှ လွန်၍ ကြီးပြင်းလာသောအခါ အသားစားကျားသဖွယ် လူကို ဒုက္ခပေးတတ်၏။ သားသမီးတို့အရေးကိစ္စနှင့် ပတ်သက်ပြီး သိနိုင်ရန် ခဲယဉ်းလှ၏။ ငယ်စဉ် ကလေး ဘဝ၌သာ ကိုယ့်သားဟု ပိုင်ပိုင်နိုင်နိုင် ပြောဆိုနိုင်သော်လည်း ကြီးပြင်းလာသောအခါ မိဘတို့အလိုအတိုင်းဖြစ်ရန် မလွယ်လှချေ။ ထို့ကြောင့် လောက၌ အဘထက် သားကြီး၊ မီးထက်ငြမ်းမြင့်၊ သခင်ထက် ကျွန်ကကဲလွန်ခြင်းများ မရှိစေသင့်ပေ။

## ၅။ ဆရာတို့ထံ ရိုကျိုးနှံ၍ နည်းခံတိုးဝင်

လောကဓမ္မတာ၊ ဤလူ့ရွာ၌၊ လိမ္မာမြင်ရှိ၊ အသိပညာ၊ ဟူသည်မှာကား၊ ဆရာ တို့ထံ၊ ရိုကျိုးနှံ၍၊ နည်းခံတိုးဝင်၊ မသင်မမေး၊ အရေးမထား၊ မတတ်ငြားဘူး၊ (၂၃၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလောကတွင် လိမ္မာယဉ်ကျေးစေရန် တတ်မြောက်မြင်သိအပ်သော ပညာတို့သည် များစွာရှိကုန်၏။ ထိုထိုသောပညာတို့ကို မည်သူ့ကိုမျှလည်းမမေး၊ မည်သူ့ထံမှလည်း မသင်ယူဘဲနှင့် တတ်မြောက်မည်မဟုတ်ချေ။ နည်းလမ်းညွှန်ပြ၊ သွန်သင်လမ်းပြနိုင်သူ ဆရာ့ထံ သွားရောက်ပြီး ကျိုးနွံ နှိမ့်ချစွာ သင်ယူလေ့လာကြပါလော့။

## ၆။ ကျိုးလိုစိတ်က ဆုံးမတတ်သူ

ရှေးရှုမေတ္တာ၊ ကရုဏာနှင့်၊ နာနာကျင်ကျင်၊ အပြစ်မြင်တိုင်း၊ ဝမ်းတွင်မသို၊ ဟုတ်တိုင်းဆို၍၊ ကျိုးလိုစိတ်က၊ ဆုံးမတတ်သူ၊ ဆရာဟူလော့၊ (၂၃၆)

## ဆိုလိုရင်း အဓိပ္ပာယ်

အာစရိယဂုဏ်နှင့် ပြည့်စုံသော ဆရာသည် တပည့်ဖြစ်သူအား လျစ်လျူမှုမထားဘဲ အပြစ်တွေ့သည့်အခါတိုင်း ဆုံးမပဲ့ပြင်ပေးတတ်၏။ မေတ္တာ ကရုဏာကြီးစွာဖြင့် ဝမ်းထဲတွင် မထားဘဲ ဟုတ်မှန်တိုင်း ပြောဆိုတတ်၏။ တပည့်ဖြစ်သူ၏ အကျိုးကိုသာ ရှေးရှုပြီး မိမိအား တပည့်ကမုန်းလျှင် မုန်းပါစေ၊ အမုန်းခံ အနစ်နာခံကာ အပြစ်ဒဏ်ပေးသည့်အနေနှင့် ရိုက်နှက်ဆုံးမတတ်ပေ၏။

## ၇။ မိဘကျေးဇူး ဆပ်၍မကုန်

လူ့ဘုံဌာန၊ ဤလောကဝ၌၊ ဘကိုလက်ျာ၊ မိမှာလက်ဝဲ၊ အမြဲဆောင်ရွက်၊ ပခုံးထက်သို့၊ တင်လျက်လုပ်ကျွေး၊ မပြတ်မွေးလည်း၊ ကျေးဇူးဂုဏ်စိုင်၊ မကုန်နိုင်ဘူး၊ (၂၄၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် ကိုယ့်ကိုမွေးပေးသော မိဘနှစ်ပါး၏ ကျေးဇူးကားကြီးမားလှစွာ၏။ ထိုကျေးဇူးကို ဆပ်ရန်အလို့ငှာ အဘကို လက်ျာဘက်ပခုံး၊ အမိကိုလက်ဝဲဘက်ပခုံး၊ ပခုံးနှစ်ဖက်စလုံးပေါ်တင်၍ လုပ်ကျွေးပါသော်လည်း ထိုကျေးဇူးသည် မကျေနိုင်၊ မကုန်နိုင်ရာချေ။

## ၈။ ကြီးမားဂုဏ်အင် ကျေးဇူးရှင်

ခွေးနှင့်တမျှ၊ လူ့ဗာလတို့၊ မိဘနှစ်ပါး၊ ကြီးမားဂုဏ်အင်၊ ကျေးဇူးရှင်ကို၊ ပြင်ပြင်မရှု၊ မပြုမမွေး၊ မလုပ်ကျွေးဘူး၊ ဆဲရေးရေရွတ်၊ နှုတ်ပေါက်လွတ်နှင့် ပုတ်ခတ်ခိုက်ထိ၊ (၂၄၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ခွေးလောက်မိုက်မဲလှသော လူ့ဗာလတို့သည် ကြီးမားလှသည့် မိဘနှစ်ပါး၏ ကျေးဇူးဂုဏ်ကို မသိကြချေ။ သူတို့သည် မိဘတို့အား ကျွေးမွေးပြုစုခြင်း မပြုကြကုန်။ အဆင်ခြင်မရှိ၊ နှုတ်သရမ်းနှင့် မိဘတို့ကို ပုတ်ခတ်ဆဲရေးတတ်ကြကုန်၏။

## ၉။ ဆရာ မိဘ ဩဝါဒဖြင့်

ဆရာမိဘ၊ ဩဝါဒဖြင့်၊ ဆုံးမစကား၊ မလိုက်ငြားဘဲ၊ မြင်ကြားသုတ၊ မရနည်းနာ၊ ပညာမျက်စိ၊ မြော်မရှိက၊ မိမိအတတ်၊ ကိုယ့်ကိုယ်သတ်၏၊ (၂၄၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဆရာသမား မိဘတို့၏ ဆုံးမစကားကို မလိုက်နာသူသည် အကြားအမြင်၊ ဗဟုသုတမရနိုင်သဖြင့် အမြော်အမြင် ပညာမရှိကြကုန်။ ထိုသူတို့သည် မိမိကိုယ်ကို မိမိကိုယ်တိုင်ပြန်သတ်နေသူ ဖြစ်၏။

## ၁၀။ ကြီးလှဂုဏ်အင် မွေးမိခင်

နေ့ညမကွာ၊ နှစ်တစ်ရာတိုင်၊ ရှည်ကြာလေးမြင့်၊ လုပ်ကျွေးလင့်၍၊ မိခင့်မွေး ကျိုး၊ ဆပ်လှည့်ကြိုးလည်း၊ နို့ဖိုးတစ်ဝက်၊ တစ်လုံးတွက်မျှ၊ မကြေစွသား၊ ကြီးလှဂုဏ်အင်၊ မွေးမိခင်၊ (၂၄၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မိခင်၏ကျေးဇူးဂုဏ်အင်သည် ကြီးမားလှပါဘိသည်။ မိခင်အား နှစ်တစ်ရာတိုင် တိုင် ကြာရှည်လေးမြင့်စွာ လုပ်ကျွေးပြုစုပါသော်လည်း နို့တစ်လုံးဖိုး တစ်ဝက်မျှပင် မကျေနိုင်ရာ။

## ၁၁။ ဘေးကြီးရောက်မှ မိမယ်တ

လူဟူသမျှ၊ လူ့ဗာလတို့၊ မိဘဆရာ၊ ဆုံးမပါလည်း၊ တမာသို့ခါး၊ နားဥမသာ၊ မလိုက်နာဘဲ၊ လိုရာမြှောက်ငြား၊ သူ့စကားသာ၊ ပျားသို့ချိုပြီး၊ နားမငြီးဘူး၊ ဘေးကြီး ရောက်မှ၊ မိမယ်တ၍၊ ထိုဗာလဆိုး၊ လူမိုက်မျိုးတို့၊ ကိုးရာမထင်၊ မိုးမမြင်ခဲ့၊ (၂၄၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်တို့သည် မိဘဆရာတို့၏ ဆုံးမစကားများကို တမာလိုခါးသဖြင့် နားမဝင် သဘောမကျကြချေ။ မိမိအကြိုက် မြှောက်ပင့်ပြောဆိုသော စကားကိုသာ ပျားသကာ လို ချိုပြီး သဘောကျနှစ်သက်ကြကုန်၏။ ထိုသူတို့သည် ဘေးအန္တရာယ်ဆိုးနှင့် ကြုံတွေ့

ကြရသည့်အခါမှ အမ်ကို တမ်းတ သတိရကြပြီး အခြားအားကိုးစရာမရှိသဖြင့် ဒုက္ခရောက်ကြကုန်၏။

## ၁၂။ မိဘကျေးဇူး မသိသူ

ပညာမယှဉ်၊ အကတည္၊ လူပါပိယ၊ ဟူသမျှကား၊ မိဘကိုလျက်၊ ကျေးဇူးဖျက်၍၊ အပျက်ကိုသာ၊ ပြုတတ်စွာခဲ့၊ (၂၅၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာဉာဏ်မရှိ၊ သူတပါးကျေးဇူးကို မသိတတ်သူ လူယုတ်မာတို့ကား မိမိကို မွေးသော မိဘနှစ်ပါးကိုပင် ကျေးဇူးမသိ၊ မပြုစု မစောင့်ရှောက်။ ပျက်စီးခြင်းကို ပြုတတ်ကြကုန်၏။

## ၁၃။ ဆရာကိုပယ် ကိုယ်ဝယ်လုံ့စူး

ဆရာကိုပယ်၊ ကိုယ်ဝယ်လုံ့စူး၊ အထူးမျက်မှောက်၊ မန္တန်ပျောက်နှင့်၊ အုတ်ကျောက်ခဲပြို၊ မြေခွဲမျို၍၊ ဤကိုယ်ဒိဋ္ဌ၊ ဒုက္ခဖြစ်ကြောင်း၊ ထုံးဟောင်းထင်စွာ၊ ကျမ်း၌လာ၏၊ (၂၅၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ဆရာကိုမလေးစား၊ ဆရာကိုပယ်ပြီး မထားသင့်ချေ။ ဆရာကို ပစ်ပယ်မိသဖြင့် အာခေါင်တွင် လုံ့စူးပြီး သေရ၏။ ရွတ်မြဲမန္တန်မေ့ပျောက်ကာ မြေမျိုခြင်းကို ခံရ၏။ ဤသို့ မုချပျက်စီးရပုံကို ရှေးဟောင်းကျမ်းများတွင် ဖော်ပြထား၏။

## ၁၄။ မိဘစကား နားထောင်ငြား

မိဘစကား၊ နားထောင်ငြားက၊ သံပြားကျောက်စောင်း၊ ကြိုသော်ပျောင်းဟု၊ သူဟောင်းရှေးလွန်၊ သို့မိန့်ညွန်၏၊ (၂၆၂)

## ဆိုလိုရင်း အဓိပ္ပာယ်

မိဘစကားကို မြေဝယ်မကျ နားထောင်သင့်လှ၏။ မိဘ၏စကားကို လိုက်နာ၍ မာကျောလှသော သံပြား၊ ကျောက်ခဲများကို မီးနှင့်ကျိုပါကလည်း ထိုသံပြား၊ ကျောက်ခဲတို့သည် ပျော့ပျောင်းလာနိုင်၏ဟု ရှေးလူကြီးတို့က မိန့်ဆိုခဲ့ကြ၏။

## ၁၅။ ဆရာမိဘ ဆုံးမစကား

တရားမမြော်၊ မသူတော်ကို၊ ပေါင်းဖော်သမျှ၊ ဒုက္ခညီးညီး၊ လောင်သည့်မီးသို့၊ ပျက်စီးတတ်စွာ၊ မချမ်းသာဘူး၊ ဆရာမိဘ၊ ဆုံးမစကား၊ မလိုက်ငြားလည်း၊ ပျက်ပြားဆင်းရဲ၊ ဖြစ်မြဲကေန်၊ မသွေလှန်တည့်၊ (၂၆၂)

## ဆိုလိုရင်း အဓိပ္ပာယ်

တရားမရှိသော မသူတော် လူမိုက်များကို မပေါင်းဖော်ပါနှင့်။ ပေါင်းဖော်မိသူသည် အလျှံပြောင်ပြောင်ညီးညီး လောင်နေသည့် မီးကြီးကဲ့သို့ ဖျက်ဆီးခြင်းကို ခံရမည်သာ ဖြစ်၏။ ထိုသူတို့အား မိဘဆရာတို့သည်လည်း မကယ်နိုင်ကြချေ။ ပျက်စီးဆုံးရှုံးရမည်သာ ဖြစ်ချေ၏။

## ၁၆။ လူကြီးမိဘ၊ ဆရာစသား

လောကဋ္ဌမှာ၊ လေးစွာကျောက်ထီး၊ ထိုကျောက်ထီးထက်၊ လူကြီးမိဘ၊ ဆရာစသား၊ ထိုစကားထက်၊ ဘုရားနှုတ်နက်၊ ဓမ္မစက်အစစ်၊ လေးဆုံးဖြစ်၏၊ (၂၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် ကျောက်သားကျောက်ထီးသည် လေးလံလှ၏။ ထိုကျောက်ထီးထက် မိဘတို့၏ ဆုံးမစကားသည် လေးလံလှ၏။ တစ်ဖန် လူကြီးမိဘတို့၏ စကားထက် မြတ်စွာဘုရား၏ နှုတ်မြွက်စကားသည် ပို၍ လေးနက်၏။

## ၁၇။ မိဘကိုပင် ဥစ္စာမြင်မှ

ဤလောကဋ္ဌ၊ မိဘကိုပင်၊ ဥစ္စာမြင်မှ၊ ခင်မင်မြတ်လေး၊ သားတို့မွေး၏၊ ပဲရွေးမရှိ၊ ဘမိတို့အား၊ သမီးသားလည်း၊ ထံပါးနီးရပ်၊ မကပ်လိုလျှင်၊ ရှောင်ကြကွင်း၏၊ (၂၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလူ့လောကဋ္ဌ လူများစွာတို့သည် မိဘအရင်းခေါက်ခေါက်ကိုပင် ဥစ္စာပစ္စည်းရှိမှ ကျွေးမွေးစောင့်ရှောက်တတ်ကြ၏။ မရှိပါက မည်သည့်သားသမီးကမျှ အနားသို့ပင် မကပ်ကြချေ။

## ၁၈။ သား၏ရန်သူ မိဘများ

သားကိုငယ်ခါ၊ ကျွန်မှာဝယ်သစ်၊ တပည့်ဖြစ်က၊ အပ်စဟူသည်၊ မျက်ချည်မျက်သာ၊ မပေးရာတည့်၊ ပေးပါတုံက၊ မိဘသခင်၊ ဆရာရှင်တို့၊ ပဲ့ပြင်ပြုပြင်၊ သွန်သင်နောက်ကို၊ မရလိုဘူး၊ ထိုထိုမျိုးဇာတ်၊ ယုတ်လတ်မြတ်တို့၊ အတတ်ပညာ၊ အလိမ္မာကို၊ ငယ်ခါကပင်၊ မသင်စေငြား၊ မိဘများကား၊ သား၏ရန်သူ၊ မည်သောဟူရှင့်၊ (၃၁၆)

## ဆိုလိုရင်း အဓိပ္ပာယ်

သားကို ငယ်စဉ်ကလည်းကောင်း၊ ကျွန်ကိုဝယ်ယူစကာလတွင်လည်းကောင်း၊ တပည့်ကို ကျောင်းအပ်စဉ်အချိန်ကလည်းကောင်း မျက်နှာသာမပေးဘဲ ထားရာ၏။

ပေးမိပါက ၎င်းတို့ကို သွန်သင်ဆုံးမရန် မလွယ်ကူချေ။ လူတို့တွင် အယုတ်၊ အလတ်၊ အမြတ်မရွေး အတတ်ပညာကို ငယ်စဉ်ကပင် စတင်သင်ကြားရာ၏။ အကယ်၍ မသင်ကြားခဲ့ရလျှင် မိဘများသည် ရန်သူအစစ်ပင် ဖြစ်တော့၏။

## ၁၉။ မိဘမည်ငြား ဤနှစ်ပါးတို့

မိဘမည်ငြား၊ ဤနှစ်ပါးတို့၊ ရှေ့ထားအပ်စွ၊ ဘာဝတ္တကြောင့်၊ ပြုဗ္ဗဒိသာ၊ မျက်နှာရှေးမှတ်၊ ဆရာမြတ်ကား၊ မပြတ်ကာလ၊ ပူဇော်ရကြောင့်၊ ဒက္ခိဏာခေါ်၊ (၃၂၀)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိကိုမွေးသော မိဘနှစ်ပါးသည် ဖြစ်ရိုးဖြစ်စဉ် အချင်းအရာများကြောင့် အရပ်လေးမျက်နှာ၏ အရှေ့အရပ်အဖြစ် မှတ်ယူအပ်၏။ အာစရိယ ဆရာမြတ်ကား အစဉ်အမြဲ ပူဇော်ဂုဏ်ပြုရန် သင့်သဖြင့် တောင်အရပ်အဖြစ် မှတ်ယူအပ်၏။ ထို့ကြောင့် အရှေ့အရပ်နှင့်တူသော မိဘနှစ်ပါး၊ တောင်အရပ်နှင့်တူသော မြတ်ဆရာတို့ကို အစဉ်အမြဲ လေးစားရိုသေ ပူဇော်ကန်တော့သင့်လှ၏။

## ၂၀။ ဆုံးမသောအား ဆဲဆိုငြားလည်း

ယောကျာ်းတစ်ဆူ၊ သက်ကြီးလူနှင့်၊ မြတ်သူတို့က၊ ဆုံးမသောအား၊ ဆဲဆိုငြားလည်း၊ မမှားပြစ်ဆာ၊ မယူရာဘူး၊ (၃၉၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ယောကျာ်းတကာတွင် မိမိထက် အသက်ကြီးသူ၊ ဂုဏ်ကြီးသူ၊ မြင့်မြတ်သူ ပုဂ္ဂိုလ်တို့အား ရိုသေလေးစားရာ၏။ ထိုပုဂ္ဂိုလ်တို့၏ ဆိုဆုံးမမှုကို လိုလားစွာ နားထောင်မှတ်သားရာ၏။ သူတို့၏ ဆုံးမစကားသည် ကြမ်းတမ်းခက်ထန်၍ ဆဲရေးတိုင်းထွာသည် ဖြစ်စေကာမူ အမှားဟု ယူဆကာ အပြစ်မတင်၊ စိတ်မဆိုးသင့်ပေ။ မိမိအကျိုးကိုလို၍ ဆုံးမခြင်းသာဖြစ်သည်ဟုသာ မေတ္တာမပျက်ဘဲ မှတ်ယူနှလုံးသွင်းရာသည်။

# ၁၁။ ပညာရှိ

ဤလူ့လောက၌ ပညာရှိဟူသော ပုဂ္ဂိုလ်တို့သည် လူ့အဖွဲ့အစည်းတစ်ခု၊ သို့မဟုတ် နိုင်ငံတစ်နိုင်ငံ၏ အသည်းနှလုံး၊ ဦးနှောက်အဖြစ် တင်စားမှတ်ယူခဲ့ကြ၏။ လေးစားရိုသေအပ်သော ပုဂ္ဂိုလ်များအဖြစ် မြတ်နိုးကော်ရော်ခဲ့ကြ၏။ မြန်မာတို့အရိုးအစဉ်အရ လေးလေးစားစား လိုက်နာကျင့်သုံးခဲ့ကြသည့် လောကနီတိကျမ်းနှင့် မင်္ဂလသုတ်လာ "ပညာရှိထံ နည်းနာခံ၊ ပညာရှိကို မှီဝဲဆည်းကပ်"ဟူသော လမ်းညွှန်ချက်များနှင့်အညီ ပညာရှိထံမှ လောကီ လောကုတ္တရာဆိုင်ရာ သိမှတ်ဖွယ်ရာ ပညာများကို လေ့လာဆည်းပူးသင်ယူခဲ့ကြသည်။ ထို့ကြောင့် ပညာရှိဟူသော ဝေါဟာရအမည်သညာနှင့် ပညာရှိပုဂ္ဂိုလ်တို့သည် မြန်မာတို့၏ နှလုံးသည်းပွတ်ထဲတွင် နှစ်ပေါင်း ရာထောင်ချီကာ စွဲနေကိန်းအောင်းနေခဲ့သည်မှာ ယနေ့တိုင်ပင် ဖြစ်သည်။

ပညာရှိဟူသော ဝေါဟာရကို ကြားဖူးနေရုံမျှနှင့် ပညာရှိပို့၏ သွင်ပြင် လက္ခဏာ၊ သဘောသဘာဝ၊ အမူအကျင့်နှင့် နှလုံးသားအလှတို့ကို သိမြင်နားလည်နိုင်ဦးမည် မဟုတ်သေးချေ။ သူတို့သည် မည်သို့သော ပုဂ္ဂိုလ်များဖြစ်သည်၊ မည်သို့သော အပြုအမူ၊ အပြောအဆို၊ အကျင့်အကြံများ ရှိကြသည်ကို သိရှိသဘောပေါက်ပြီး ပညာရှိဟူသည် အဘယ်ကဲ့သို့သော ပုဂ္ဂိုလ်ဖြစ်သည်ကိုပါ သိရှိနားလည်ထားပါမှ ကျွန်ုပ်တို့သည် ပညာရှိထံ နည်းနာခံ၍ လူကောင်း လူတော်တစ်ယောက်ဖြစ်အောင် ကြံဆောင်ကြိုးပမ်းနိုင်ကြမည် ဖြစ်လေသည်။

ဤကဲ့သို့ ပညာရှိသဘောနှင့် ပညာရှိဟူသည် မည်သို့ဖြစ်သည်ကို နားလည်ရိပ်စားမိ၍ ပညာရှိတို့၏ ပြောဆို မိန့်ကြားပြသ,သမျှကို အလေးထား မှတ်သားနာယူနိုင်ကြစေရန် ကျေးဇူးရှင် မန်လည်ဆရာတော်ကြီး၏ မဃဒေဝလင်္ကာသစ်ကြီးထဲမှ

ပညာရှိဆိုင်ရာ လမ်းညွှန်နီတိ၊ အဆိုအမိန့်အချို့ကို အောက်တွင် ဆက်လက်ဖော်ပြထားပါသည်။ မိမိတို့၏ ကိုယ်ပိုင် အတွေ့အကြုံ၊ အသိအမြင်များနှင့် နှိုင်းချိန်စဉ်းစားကာ မှတ်သားနာယူနိုင်ကြပေသည်။

## ၁။ ပညာရှိ

ဖြောင့်စင်းပလော၊ လူ့သဘောကား၊ နက်ကျောမွေးတောင်၊ ကျီးရာထောင်တွင်၊ တစ်ကောင်အဖြူ၊ ရှာမှုရဖို့၊ ခဲ၏သို့ရှင့်၊ လူတို့၌မှာ၊ ပညာရှိဟူ၊ တော်ဖြောင့်သူကို၊ ရှာမှုထို့ထက်၊ ခက်ခဲမြို့၏။ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ကျီးနက်ပေါင်း ရာထောင်ပေါင်းများစွာထဲတွင် ကျီးဖြူတစ်ကောင်ကို ရှာဖွေတွေ့ရှိရန် ခက်ခဲလှ၏။ များစွာသော လူတို့အထဲတွင် ဖြောင့်မတ်တော်မှန်သူ ပညာရှိကို ရှာဖွေတွေ့ရှိရန်မှာ ထိုထက်ပင် ခက်ခဲလှချေ၏။ လူတစ်ဦးတစ်ယောက်၏ အတွင်းသန္တာန်ထဲရှိ ရိုးသားဖြောင့်စင်းသော သဘောကို သိနိုင်ရန်မှာလည်း ထို့အတူပင် ခဲယဉ်းလှ၏။ တော်မှန်ဖြောင့်မတ်သူ၊ သူတော်ကောင်းပညာရှိကို တွေ့အောင်ရှာဖွေ ချဉ်းကပ်၍ ဆက်ဆံပေါင်းသင်းပါလော့။

## ၂။ ပညာရှိနှင့် နီးနောတိုင်ပင်

အရာရာ၊ ချင့်စာနာပြီး၊ မချာမချာ၊ ရှိပညာနှင့်၊ ရေးရာစိုင်းပြင်း၊ တိုင်ပင်ခြင်းကို၊ မပျင်းလေ့လာ၊ ပြုအပ်စွာရှင့်။ (၁၉၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ကိစ္စများမြောင်လှသော ဤလူ့ဘဝတွင် လူတို့သည် အမှုကိစ္စ အကြောင်းအရာအမျိုးမျိုးနှင့် နေ့စဉ် တွေ့ကြုံကြရမြဲဖြစ်၏။ ထိုထိုသော အကြောင်းကိစ္စတို့ကို စဉ်းစားချင့်ချိန်စာနာ ထောက်ထားပြီး မကြာခဏဆိုသလို ပညာရှိသူတို့နှင့် တွေ့ဆုံကာတိုင်ပင်နီးနောခြင်း၊ အကြံဉာဏ်ရယူခြင်းတို့ဖြင့် ရင်ဆိုင်ဖြေရှင်းအပ်၏။ ဤကဲ့သို့စဉ်းစားဝေဖန်ခြင်း၊ ပညာရှိနှင့် တိုင်ပင်ဆွေးနွေးခြင်းတို့ကို မပျင်းမရိ၊ လုံ့လထုတ်၍ ပြုအပ်လှ၏။

## ၃။ အများသုခ ချမ်းသာရ

ပညာရှိမှ၊ မြင်သိရေးရာ၊ အဖြာဖြာ၌၊ လိမ္မာသောအား၊ တော်ဖြောင့်သား၍၊ အများသုခ၊ ချမ်းသာရ၏။ (၁၉၅)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကဌ် မြင်စရာ၊ သိစရာ ဗဟုသုတအဖြာဖြာတို့သည် လေ့လာလိုက်စား၍ မကုန်နိုင်အောင် များလှစွာ၏။ ထိုထိုသော အကြားအမြင် ဗဟုသုတများကို ပညာရှိသူများသာလျှင် ပညာဉာဏ်ဖြင့် လေ့လာမှတ်သားတတ်ပွန် လိမ္မာကြကုန်၏။ ထိုသို့တတ်ပွန် လိမ္မာသည်နှင့်အညီ ပညာရှိတို့သည် ဖြောင့်မတ်မှန်ကန် ရိုးသားသူများအဖြစ် ပတ်ဝန်းကျင်ရှိ လူသားများ၏အကျိုးကို ဆောင်နိုင်ကြသဖြင့် လူအများတို့သည်လည်း ချမ်းသာသုခကို ခံစားကြရကုန်၏။

## ၄။ ဉာဏ်ဖြင့် ချင့်ချိန်စဉ်းစားနိုင်မှပညာရှိ

ငါသာတတ်သိ၊ ပညာရှိဟု၊ မိမိကိုယ်သာ၊ မမှတ်ရာဘူး၊ ဌာနာဌာန၊ ဉာဏ်ချင့်ဆလော့၊ ကိစ္စနှစ်ပါး၊ အရာအားဖြင့်၊ ယောကျာ်းမပြီး၊ မိန်းမပြီး၏၊ သမီးနှင့်သား၊ မိဘများက၊ မယားနှင့်လင်၊ အရှင်နှင့်ကျွန်၊ ဆောင်ရန်ဝန်ကို၊ မလွန်စေနှင့်။ (၂၀၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လောကဌ် ဖြေရှင်းရန် ကိစ္စများသည် များလှပေသည်။ ထိုကိစ္စများကို ရင်ဆိုင်ဖြေရှင်းရာဌ် ယောကျာ်းဆောင်ရွက်၍ မပြီးနိုင်သည့်ကိစ္စများကို မိန်းမက ဆောင်ရွက်မှသာ ပြီးနိုင်၏။ ထို့အတူ မိဘ၊ သားသမီး၊ လင်မယားတို့သည်လည်း တတ်နိုင်သည့်အစွမ်း ကိုယ်စီရှိကြ၏။ ကိုယ့်တာဝန်ကို ကိုယ်ကျေပွန်ဖို့သာ လို၏။ အရေးကြီးသည်မှာ နေရာဌာနအလိုက် ဉာဏ်ဖြင့် ချင့်ချိန်လုပ်ကိုင်တတ်ရန် ဖြစ်၏။ သို့မှသာ ထိုသူအား ပညာရှိဟု ဆိုနိုင်မည်ဖြစ်၏။

## ၅။ ဂုဏ်ဆိပြန့်ပွား ကျေးဇူးများ

ဉာဏနှိုင်းရှဲ့၊ ကျိုးမဲ့ကိုရှောင်၊ ကျိုးရှိဆောင်လျက်၊ မြတ်အောင်သိလွယ်၊ နီးနွှယ်ပြသ၊ ဆုံးမဆိုမှု၊ မရှုအမျက်၊ နှစ်သက်တတ်ဘိ၊ ကျင့်နည်းသိသည့်၊ ပဏ္ဍိဉာဏ်၊ မေဓာဝီကား၊ ဂုဏ်ဆိပြန့်ပွား၊ ကျေးဇူးများ၏။ (၂၂၀)

## ဆိုလိုရင်း အဓိပ္ပာယ်

အရာရာကို ဉာဏ်ဖြင့် နှိုင်းယှဉ် စဉ်းစားပြီး အကျိုးမရှိသည်ကို ရှောင်ကြဉ်၊ အကျိုးရှိသည်ကိုသာ လုပ်ဆောင်တတ်သော ဆိုဆုံးမမှုများကို သိရှိနားလည်၍ အမျက်ထွက်ခြင်းမရှိ၊ နှစ်သက်လက်ခံတတ်သော၊ အကျိုးရှိအောင် ကျင့်ကြံနေထိုင်တတ်သော ပညာရှိတို့မှာ ထိတွေ့ဆက်ဆံရသူများအဖို့ ဂုဏ်သိက္ခာရှိပြီး အကျိုးကျေးဇူးများလှ၏။

## ၆။ ရန်သူပညာရှိ

လောကလူတွင်၊ ရန်သူမှန်စွာ၊ ဖြစ်စေကာမူ၊ ပညာရှိက၊ မြတ်တုံ့စွ၏၊ ဗာလအစစ်၊ မိတ်ပင်ဖြစ်လည်း၊ အပြစ်သာပြု၊ ကျိုးမဟုတ်ဘူး။ (၂၃၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် မိမိနှင့် ပေါင်းသင်းဆက်ဆံနေရသူများတွင် မိမိ၏ ရန်သူပင်ဖြစ်စေကာမူ ထိုသူသည် ပညာရှိသူဖြစ်ပါက မြင့်မြတ်ကောင်းမွန်လှစွာ၏။ အကယ်၍ ယင်းတို့အထဲတွင် တစ်ဦးသောသူသည် မိတ်ဆွေပင်ဖြစ်သော်လည်း လူ့ဗာလ၊ လူမိုက်ဖြစ်နေပါလျှင် မိမိအတွက်အကျိုးမရှိ၊ အပြစ်သာရှိနိုင်သဖြင့် ထိုမိတ်ဆွေ လူမိုက်ကို ရှောင်ရှားရာ၏။

## ၇။ နှစ်ဝအကျိုး မြင်မြော်သိမှ ပညာရှိ

ဟိတာဟိတ၊ နှစ်ဝကောင်းဆိုး၊ သူ့အကျိုးနှင့်၊ ကိုယ်ကျိုးမြော်သိ၊ ပညာရှိမှ၊ ကဝိတစ်ဆူ၊ အိုဘယ့်လူဟု၊ ကြည်ဖြူမငြီး၊ အံ့မပြီးအောင်၊ ဂုဏ်ဝင်းပြောင်လျက်၊ တောင်ထိပ်မီးလား၊ လွှန်ထင်ရှား၏၊ (၂၃၉)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ပါးအကျိုးနှင့် မိမိအကျိုး မျှတညီညွတ်စွာ မြင်သိလုပ်ဆောင်နိုင်သော ဉာဏ်ပညာသည် လူသားတို့အတွက် အရေးတကြီး လိုအပ်၏။ ထိုအသိ၊ ဉာဏ်ပညာရှိမှသာလျှင် ထိုသူကို ပညာရှိကဝိတစ်ဆူအဖြစ် အများက ကြည်ညိုလေးစားမြှောက်စားကြမည်ဖြစ်၍ ထိုသူ၏ ဂုဏ်သတင်းသည်လည်း တောင်ထိပ်ရှိ မီးကြီးပမာ ကြီးမားဝင်းပြောင်လျက် ထင်ရှား ကျော်ကြားမည်သာ ဖြစ်၏။

## ၈။ ပညာရှိတို့ရောက်ရာ တိုင်းပြည်ရွာ

ပညာရှိသူ၊ လူတို့ရောက်ရာ၊ တိုင်းပြည်ရွာကား၊ များစွာအိုင်ထုံး၊ ကန်လုံးမောက်လျှမ်း၊ ဗူးခရမ်းနှင့်၊ ပဲနှမ်းညွန့်ရှင်၊ ကောက်ပင်မြက်သစ်၊ ပွားကြောင်းဖြစ်သား၊ ခုနစ်နှစ်လီ၊ ရက်ညီသွန်းဖြိုး၊ ရွာသည့်မိုးသို့၊ လူမျိုးတကာ၊ ရချမ်းသာ၏၊ (၂၃၉)

## ဆိုလိုရင်း အဓိပ္ပာယ်

မြစ်ချောင်းအင်းအိုင်များ ပြည့်လျှမ်းအောင် ခုနစ်ရက် ခုနစ်လီရွာသွန်းသော မိုးကြီးသည်၊ ဗူး၊ ခရမ်း၊ ပဲနှင့် ကောက်ပင်များကို ကြီးထွားရှင်သန်စေသကဲ့သို့ ထို့အတူ ပညာရှိတို့ရောက်ရှိရာအရပ်၊ တိုင်းပြည်မြို့ရွာတို့သည် ထိုပညာရှိကို အမှီရ၍ ကြီးပွားချမ်းသာရမည်မှာ ဧကန်ဖြစ်၏။

## ၉။ ကျိုးနက်ဥတ္တူ အတွင်းဖြူ

ပညာရှိရှင်၊ သူတော်စင်မူ၊ ရုပ်သွင်ရူပ၊ မြင်မလှလည်း၊ ပြင်ကညိုလျက်၊ လွန်နှစ်သက်ဖွယ်၊ ကျိုးနက်ဥတ္တူ၊ အတွင်းဖြူ၏၊ (၂၄၀)

### ဆိုလိုရင်း အဓိပ္ပာယ်

ပညာရှိ သူတော်ကောင်းသည် ရုပ်ရည်ရူပကာ အသွင်အပြင်အားဖြင့် မလှမပသော်လည်း အတွင်းစိတ်ဓာတ်ကောင်းသဖြင့် အပြင်ကနက်ပြီး အတွင်းကဖြူသော ကျိုးဥသဖွယ် အများ၏ လေးစားနှစ်သက်ခြင်းကို ခံကြရ၏။

## ၁၀။ မြင်းမိုရ်ပြိုလည်း ထိုသူမပိ

ဤလူတို့ရွာ၊ မပျက်ရာသား၊ သစ္စာမဏ္ဍိုင်၊ ချိန်ကြိုးခိုင်က၊ ရွှေစိုင်မြင်းမိုရ်၊ ယုဂန္ဓိုရ်တို့၊ လဲပြိုဘိလည်း၊ မပိထိုသူ၊ တည်လိမ့်ဟူလိမ့်၊ (၂၄၀)

### ဆိုလိုရင်း အဓိပ္ပာယ်

ဤလူ့လောကတွင် ပညာရှိသူတော်ကောင်းတို့သည် သစ္စာ၌ တည်မြဲကြ၏။ **သစ္စာမဏ္ဍိုင်ကြီးကို** ခိုင်မြဲစွာ စောင့်ထိန်းထားသဖြင့် ထိုသူတို့သည် မြင်းမိုရ်တောင်၊ ယုဂန္ဓိုရ်တောင်တို့ မြေပေါ်လဲပြိုခဲ့သော်လည်း သစ္စာတန်ခိုးကြောင့် ဖိခြင်းမခံရဘဲ နဂိုပကတိအတိုင်း ရပ်တည်နေနိုင်ကြမည် ဖြစ်၏။

## ၁၁။ ပညာရှိထံ နည်းနာခံ

အယူသမ္မာ၊ တော်ဖြောင့်စွာလျှင်၊ ပညာရှိပေါင်း၊ သူမြတ်လောင်းတို့၊ လမ်းကြောင်းကျင့်နည်း၊ နိဿရည်းကို၊ ဆည်းဆည်းပူးပူး၊ ဘုရားဖူးသို့၊ ကြားဖူးနား၀၊ များအပ်စွရှင့်။ (၂၄၂)

### ဆိုလိုရင်း အဓိပ္ပာယ်

မြင့်မြတ်တည်ကြည်သော ပညာရှိ သူတော်ကောင်းတို့သည် ဖြောင့်မတ်မှန်ကန်သော အယူဝါဒများ ရှိကြကုန်၏။ ထိုပညာရှိ သူတော်ကောင်းတို့၏ ကျင့်စဉ်နည်းလမ်းကောင်း၊ နည်းလမ်းမှန်များကို ဘုရားဖူးသွားသောသူကဲ့သို့ ထိုသူတို့ထံ သွားရောက်၍ လေ့လာဆည်းပူးကာ အကြားအမြင် ဗဟုသုတများအောင် အားထုတ်ရာ၏။

## ၁၂။ တရားမြင်သိ ပညာရှိ

တရားမြင်သိ၊ ပညာရှိနှင့်၊ ကြိုက်ဘိကြုံတွေ့၊ တစ်နေ့တစ်ရက်၊ တစ်နံနက်မျှ၊ ပေါင်းဖက်ရက၊ ဒေါသမစွန်း၊ ကျေးဇူးထွန်း၏၊ ကျယ်ဝန်းသိမြင်၊ ပညာရှင်မှ၊ လူတွင်တစ်ယောက်၊ တစ်ခေါ်လောက်၏။ (၂၄၂)

**ပဏ္ဍုမြားငမောက်စာပေ**

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် ပညာရှိသူတော်ကောင်းတို့နှင့် တွေ့ကြုံပေါင်းသင်းရခြင်းသည် အလွန်ရခဲလှ၏။ အကယ်၍ ပညာရှိနှင့် တစ်နေ့တစ်ရက် သို့မဟုတ် တစ်နံနက်မျှလောက် တွေ့ကြုံပေါင်းဖက်ရမည်ဆိုလျှင် ထိုသူအတွက် အကျိုးများလှ၏။ ပစ္စုပ္ပန်၊ သံသရာနှစ်ဖြာနှင့် စပ်လျဉ်း၍ ကျယ်ဝန်းနံ့စပ်စွာ သိမြင်နိုင်သော ပညာရှိမှသာလျှင် လူ့လောကတွင် ထိပ်တန်းစားလူတစ်ယောက် ဖြစ်နိုင်ပါ၏။

## ၁၃။ ပညာရှိ လက္ခဏာ

ကရုဏာညာဉ်၊ မယှဉ်သောသူ၊ လူမိုက်ဟူ၏၊ ယှဉ်မူဉာဏ်ရှိ၊ ပဏ္ဍိမှတ်ရာ၊ လက္ခဏာတည့်။ (၂၆၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတစ်ဖက်သားအပေါ် သနားကြင်နာစိတ်မရှိ၊ ရက်စက်ကြမ်းကြုတ်သောသူကို လူမိုက်ဟု လောကတွင် ဆိုကြ၏။ ထိုသို့မဟုတ်မူ၍ မေတ္တာ ကရုဏာစိတ်နှင့်ယှဉ်ပြီး နေထိုင်ပြုမူတတ်သူကို ပညာရှိဟု ဆိုကြ၏။ မေတ္တာ၊ ကရုဏာတရားသည် ပဏ္ဍိတ်ခေါ် ပညာရှိတို့၏ သွင်ပြင်လက္ခဏာဖြစ်၏။

## ၁၄။ ပညာရှိတို့၏ သဘော

နက်နဲဉာဏ်ရှိ၊ မျိုးဇာတိနှင့်၊ ပဏ္ဍိအပေါင်း၊ သူတော်ကောင်းကား၊ အကောင်းပြုရဲ၊ မကောင်းခဲ၏၊ နှစ်ကွဲတွင်သော်၊ မသူတော်မူ၊ မကျော်မစော၊ ရေ့နှယ်ကော၏။ (၂၈၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ပဏ္ဍိခေါ် ပညာရှိသူတော်ကောင်းတို့သည် နက်နဲသော ဉာဏ်ပညာရှိကြ၏။ မြင့်မြတ်သော မျိုးရိုးဇာတိလည်း ရှိကြကုန်၏။ ထိုပညာရှိတို့သည် ကောင်းမှုကုသိုလ်ကို ရဲရဲရင့်ရင့်၊ ရက်ရက်ရောရော ပြုတတ်ကြသလို မကောင်းမှုဟူသမျှကို မပြုကြချေ။ ပညာရှိ၊ လူမိုက်ဟူသော နှစ်မျိုးနှစ်စားတွင် လူမိုက်သည် မထင်မရှား၊ မကျော်စောဘဲ ရှိကုန်၏။

## ၁၅။ ပဏ္ဍိပုဂ္ဂိုလ် မြတ်ထိုထို

တရားပါဠိ၊ လာတိုင်းရှိသား၊ ပဏ္ဍိပုဂ္ဂိုလ်၊ မြတ်ထိုထိုတို့၊ ကိုယ်ကိုနှိမ့်ချ၊ ခမ္မေနဖြင့်၊ ခနဉစ္စာ၊ ရအောင်ရှာ၍၊ ချမ်းသာလည်းခံ၊ အသင့်စံလျက်၊ ကောင်းကြံကောင်းပြု၊ ကောင်းမှုရေးရှု၊ ပေးကြလှူ၏၊ (၂၈၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ပဏ္ဍိတဟုခေါ်ဆိုအပ်သော ပညာရှိသူမြတ်တို့သည် ကိုယ်ကိုနှိမ့်ချတတ်ကြ၏။ တရားသဖြင့် ဥစ္စာစီးပွားရှာကြ၏။ ဥစ္စာစီးပွားရသောအခါ ချမ်းသာမှုကို ခံစား စံစား လျက် ကောင်းမှုများ ရရှိနိုင်ရန် ကောင်းသော စိတ်ဓာတ်အကြံဖြင့် အလှူဒါနများ ပြုလုပ်ကြ၏။ ဤသို့လျှင် ကျမ်းဂန်ပါဠိ၊ တရားဒေသနာတော်များက မိန့်ဆိုထား၏။

## ၁၆။ ပညာရှိ သတိဖြစ်ခဲ

ပညာရှိလည်း၊ သတိဖြစ်ခဲ၊ ဘုန်းကံစမ့်ု၊ ချွတ်လွဲယွင်းဖောက်၊ ပျက်ချိန်ရောက်က၊ ဉာဏ်ပျောက်ကုန်ကင်း၊ လင်းတမင်းလျက်၊ ညွတ်ကွင်းတိုးမိ၊ မောဟဖိသော်၊ အသိ မှောက်မှား၊ ပျက်တတ်ငြား၏၊ (၃၀၂)

## ဆိုလိုရင်း အဓိပ္ပာယ်

သာမန်လူတို့ကို မဆိုထားနှင့်၊ ပညာရှိသည်ပင်လျှင် ဘုန်းကံနည်းပါး၍ ပျက်စီးချိန် ရောက်လာလျှင် သတိကင်းလွတ်ကာ လွဲချော်ချွတ်ယွင်း ဖြစ်ရချေ၏။ လင်းတငှက်မင်း သည် မသိခြင်းဟူသော မောဟဖိစီးပြီး အသိကင်းလွတ် မှောက်မှားခဲ့သဖြင့် မုဆိုး ထောင်ထားသော ညွတ်ကွင်းထဲမိကာ ပျက်စီးရ၏။ ထို့ကြောင့် သတိတရားကို လက်ကိုင် ထားကာ အရာရာကို ပြုလုပ်အပ်လှ၏။

## ၁၇။ ဝါဒသမ္ဘာ တည်နိုင်စွာ

ပညာရှိပေါင်း၊ သူတော်ကောင်းနှင့်၊ အကြောင်းသင့်မှု၊ ပေါင်းမိကြ၍၊ သဒ္ဓမ္မသဝန၊ ကြားနာရမှ၊ ဝါဒသမ္ဘာ၊ တည်နိုင်စွာရှင့်၊ (၃၂၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာရှိ သူတော်ကောင်းတို့နှင့် ပေါင်းဖော်ဆက်ဆံခွင့် ကြုံသောအခါ ထိုပညာရှိ အား မှီ၍ သူတော်ကောင်းတရားကို ကြားနာရ၏။ ထိုသူသည် အယူဝါဒ၌ မှန်ကန် ခိုင်မာသောအကျိုးကို ရနိုင်၏။

## ၁၈။ များလှုမိုလ်လေး ကြားတိုင်းမွှေး

ပညာရှိသူ၊ လူတို့ခံတွင်း၊ ရောက်လျှင်းနှုတ်က၊ မြွက်သမျှကား၊ များလှုမိုလ်လေး၊ ကြားတိုင်းမွှေး၏၊ ချိုအေးသာယာ၊ နားတန်ဆာဖြင့်၊ နာသာဖွယ်ချည်း၊ ဖြစ်သတည်းတည့်၊ (၃၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာရှိဟို့၏ နှုတ်ခံတွင်းမှ ထွက်ပေါ်လာသော နှုတ်မြွက်စကားများသည် ကြားရ သူ လူအပေါင်းတို့၏ နားထဲတွင် ပန်းရနံ့များ သင်းပျံ့မွှေးကြိုင်နေဘိသည့်အလား

အမြဲထာဝရ ချိုအေးသာယာနာပျော်ဖွယ်ချည်းသာ ဖြစ်၏။ ထို့ကြောင့် ပညာရှိတို့ ပြောသော စကားကို နာသ‌ောင်မှတ်သားရာ၏။

## ၁၉။ ကဝိလက္ခဏာ ပြည့်စုံရာ၏

ရှေးကသူဟောင်း၊ သူမြတ်လောင်းတို့၊ ကျင့်ကောင်းဥပဒေ၊ လွဲသွေမကြိုက်၊ ဂတိလိုက်၍၊ အမိုက်သုံးလျက်၊ ထုံးမစွက်လင့်၊ ထက်မြက်ဉာဏ်ဝါ၊ ငါစွမ်းစွာဟု၊ ထင်ရာထင်တိုင်း၊ တောဆင်ရိုင်းသို့၊ ချင့်နှိုင်းမရှိ၊ နှုတ်ခိုက်ထိလျက်၊ ပစိပုတ်ခတ်၊ သူယုတ်မြတ်ကို၊ ကုတ်ကတ်ဆန်းပြား၊ တင်လိုအားဖြင့်၊ စကားစီးရာ၊ မပြောရာဘူး၊ နှုတ်လျှာပေါက်လွှတ်၊ ပြောဆိုတတ်က၊ ပရိသတ်ဝယ်၊ ထိုလူကျယ်ကို၊ ပွဲလယ်မသွင်း၊ လွှဲပယ်လျှင်းလိမ့်၊ ဖြည့်ညင်းသာယာ၊ နှုတ်ချိုလျှာဖြင့်၊ စဉ်လာတန္တိ၊ ဝေါဟာရရှိတိုင်း၊ ကဝိလက္ခဏာ၊ ပြည့်စုံရာ၏။ (၃၉၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအထက်ကျော် ကာရိကရှိခဲ့သော သူတော်ကောင်း သူမြတ်လောင်းတို့၏ ကျင့်ကြံသုံးစွဲခဲ့သော ထုံးတမ်းစဉ်လာ ဥပဒေစည်းကမ်းများကို ပစ်ပယ်ပြီး ဂတိလိုက်စားကာ သူတစ်ထူးအပေါ်တွင် မိုက်မိုက်ရိုင်းရိုင်း၊ စကားတင်စီး၍ ပုတ်ခတ်ပြီး မပြောဆိုရာ။ ကိုယ့်ကိုယ်ကို တတ်လှပြီဟု အထင်တစ်လုံးနှင့် စည်းလွတ်ဝါးလွတ် ပြောဆိုတတ်သူသည် ပရိသတ်များအလယ်၌ လူရာမသွင်း၊ ပစ်ပယ်ခြင်းကို ခံရမည် ဖြစ်၏။ ထို့ကြောင့် ပညာရှိကဝိပုဂ္ဂိုလ်တို့၏ ပြောဆိုသည့် အစဉ်အလာအတိုင်း ရည်မွန်ပြေပြစ်စွာ ပြောဆိုခြင်းဖြင့် ပညာရှိတို့၏ အသွင်လက္ခဏာများနှင့် ပြည့်စုံလာအောင် ကြိုးစားပါလော့။

## ၂၀။ ပြောနေရုံမျှနှင့် အကျိုးမပြီးနိုင်

သုတပညာ၊ ရှိတုံပါလည်း၊ ပြောကာ ဟောကာ၊ ကျမ်းလာအသင့်၊ မကျင့်တုံဘိ၊ ကျိုးမရှိဘူး၊ ပဏ္ဍိကိစ္စ၊ မပြီးစွရှင့်၊ ရှေးကမန္တ၊ ရှင်တို့ပြုသား၊ ပေါင်းစုထင်ရှား၊ ကျမ်းဂန်များနှင့်၊ ဘုရားအလောင်း၊ မင်းကောင်းတကာ၊ အာဒါသမုခ၊ ဝိဓူရကာ၊ မတ်လှမဟော်၊ ပညာကျော်တို့၊ ရှမျှော်ပညိန်၊ ဝရဇိန်ကို၊ လွှတ်ချိန်သော့အား၊ ပညာအားဖြင့်၊ ပိုင်းခြားသတ်မှတ်၊ စီရင်တတ်သို့၊ ဆုံးဖြတ်နိုင်မှ၊ ဓမ္မဂုတ္တ၊ ဓမ္မဋ္ဌဟု၊ တရားသူကြီး၊ လူ့ခွဲချီး၏။ (၃၉၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ဗဟုသုတ၊ ပညာနှင့် ပြည့်စုံသူအချို့သည် နီတိစဉ်လာ စာပေကျမ်းဂန်တို့မှ လာရှိသည့်အတိုင်း ကျင့်ကြံပြုမူခြင်းမရှိလျှင် မည်သည့်အကျိုးမျှ မရနိုင်ချေ။ ပညာရှိတို့ ပြုဖွယ်ကိစ္စသည်လည်း ပြီးစီးနိုင်မည် မဟုတ်ပါ။ ရှေးက ကျမ်းဂန်လာ ဘုရားလောင်း အာဒါသမုခ၊ မဟောသဓာ စသည်တို့သည် ဝရဇိန်သွားကဲ့သို့ ထက်မြက်သော ပညာဖြင့်

ပိုင်းခြားဝေဖန်ကာ အမှုကိစ္စများကို စီရင်ဆုံးဖြတ်လေ့ရှိကုန်၏။ ဤသို့ စီရင်ဆုံးဖြတ်နိုင်မှ သာလျှင် တရားသူကြီးတို့ အလယ်တွင် တရားနှင့်အညီ စီရင်ဆုံးဖြတ်တတ်သော တရားသူကြီးအဖြစ် လူအများက ချီးကျူးပူဇော်ကြမည် ဖြစ်၏။

## ၂၁။ ပညာရှိတို့၏ အသက်

ပညာရှိသူ၊ လူဟူသည်ကား၊ အကျင့်အားဖြင့်၊ တရားကိစ္စ၊ မရှိကြဘဲ၊ ပျော်ကြ မြူးကြ၊ ယစ်မူးကြလျက်၊ လောကရေးရာ၊ အားထုတ်ကာလျှင်၊ ရှည်ကြာနေ့ည၊ လွန်သမျှကို၊ ကာလအမြတ်၊ မရေမှတ်ဘူး၊ ကျင့်ဝတ်ခိုင်ကျည်၊ နှလုံးကြည်၍၊ ဆောက်တည်မပျက်၊ ထိုသည့်ရက်မှ၊ အသက်ရှင်မြတ်၊ ရေတွက်မှတ်၏။ (၃၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့ဘဝတွင် တန်ဖိုးရှိရှိနေတတ်ရန် လိုအပ်ပါ၏။ လူအချို့မှာ တရားသည် မတရားသည်ကို ဂရုမပြုဘဲ သောက်စားမူးယစ် အပျော်လိုက်ကာ တန်ဖိုးရှိသော နေ့ရက်များကို ကုန်လွန်စေခဲ့ကြ၏။ ထို့ကြောင့် ထိုသူတို့၏ အသက်ရှင်ခြင်းကို မြင့်မြတ်သော အသက်ရှင်ခြင်းဟု မခေါ်ဆိုနိုင်ချေ။ ပညာရှိသူမြတ်တို့ကား ထိုသို့မဟုတ်ကြချေ။ သူတို့သည် ခိုင်ကြည်ဖြောင့်မတ်သော နှလုံးဖြင့် ကျင့်ဝတ်သိက္ခာများကို နေ့ရှိသရွေ့ ဆောက်တည် ကျင့်သုံး၍ နေကြကုန်၏။ ထို့ကြောင့် ထိုပညာရှိတို့၏ အသက်ရှင်ခြင်း သည် မြင့်မြတ်သော အသက်ရှင်ခြင်းဟု ခေါ်ဆိုနိုင်ပါ၏။

# ၁၂။ ဉာဏ်ပညာ

ပညာဟူသည် မှားသည် မှန်သည်ကိုလည်းကောင်း၊ အကျိုးရှိသည် အကျိုးမဲ့သည်ကိုလည်းကောင်း ခွဲခြမ်းစိတ်ဖြာ၍ ကြည့်တတ်၊ မြင်တတ်၊ စဉ်းစားတတ်၊ ခံယူတတ်သော သဘောကို ဆိုပါ၏။ ဉာဏ်ပညာဟူသည်မှာ ထိုသို့ ကြည့်မြင်၊ စဉ်းစားခံယူတတ်အောင် ပို့ဆောင်ပေးနိုင်သည့် စိတ်စွမ်းရည်တစ်မျိုး ဖြစ်၏။ ထိုစိတ်စွမ်းရည်ကား လူ့ဘောင်လောကကြီးအတွင်းရှိ လူသားအားလုံးအတွက် အလင်းရောင် မီးရှူးတန်ဆောင်ကြီး ဖြစ်၏။ လူ့လောကကြီးတစ်ခုလုံး ပျက်စီးယိုယွင်းသွားခြင်းမရှိအောင် ခိုင်မာတောင့်တင်းစွာ ကာရံထားသည့် တံတိုင်းကြီးလည်း ဖြစ်၏။ ခေတ်သစ်၊ စနစ်သစ်၊ လောကသစ်ကြီးတစ်ခုဆီသို့ အပြီးတိုင် တွန်းပို့ပေးနိုင်သည့် ရောမ အင်အားကြီးလည်း ဖြစ်၏။

ထိုမျှမကသေး။ ထိုစွမ်းအင်သည် လူတစ်ဦးစိတ်၏ အတွင်းသန္တာန်၌ ကိန်းအောင်းနေရာယူပြီး ထိုလူသား၏ဘဝ ပြည့်စုံကြွယ်ဝစေကာ ပစ္စုပ္ပန်၊ သံသရာနှစ်ဖြာသောအကျိုးရှိရာ ပန်းတိုင်ဆီ အရောက်ပို့ဆောင်ပေးမည့် ယာဉ်လည်း ဖြစ်ပေ၏။ အရာရာတွင် ပညာကို ဆောင်ပါက အောင်နိုင်ပြီးစီးရမည်သာ ဖြစ်၏။ အဆုံးစွန်ဆိုရပါမူ နိဗ္ဗာန်ရောက်ကြောင်း တရားများဖြစ်ကြသည့် သီလ၊ သမာဓိ၊ ပညာဟူသော သိက္ခာသုံးရပ်တွင် ပညာသည် ဦးစီးဦးဆောင်ဖြစ်၏။

ထို့ကြောင့် လူ့ဘဝသို့ရောက်လာရသူတိုင်းသည် ပညာကိုသာလျှင် အဓိကထား၍ အပတ်တကုတ် သင်ယူကြရမည် ဖြစ်၏။ ပညာဉာဏ်သည် ဝရဇိန်လက်နက်ထက် ပိုမိုအစွမ်းထက်၏။ လိုရာကိစ္စများကို ဖြတ်တောက် လိုရာပြီးနိုင်သော ဆောက်သဖွယ် အသုံးပြု၍ အောင်မြင်အောင် ဆောင်ရွက်နိုင်၏။ မြတ်ဗုဒ္ဓကပင်လျှင် "ပညာဖြင့် မပြီးနိုင်သော အရေးကိစ္စသည် ဤလောကတွင်မရှိ"ဟု ဟောတော်မူခဲ့၏။

သို့သော် လူညံ့လူဖျင်းတို့သည် အသိခေါက်ခက်၊ အဝင်နက်ကာ ပညာကို မလေ့လာမလိုက်စား၊ ဉာဏ်ကို အသုံးမချဘဲ မာန်၊ ဟန်၊ ခြေ၊ လက်တို့ကိုသာ အဖော်ပြုပြီး ဘဝခရီးတွင် လျှောက်လှမ်းနေကြ၏။ သူတို့သည် ပင့်မှန်းဆင်းရဲကြ၏။ လူတောသူတောထဲသို့ မတိုးနိုင်၊ မျက်နှာငယ်ကြ၏။ ဘဝအောက်တန်းကျကြ၏။ ပညာဉာဏ်ညံ့သဖြင့် ကံလည်းညံ့ကြ၏။ ကံမွဲဉာဏ်မွဲဘဝနှင့် နိဂုံးချုပ်ကြရ၏။ ဉာဏ်ပညာကား အဖိုးထိုက်လှသော ဇောတိရသပတ္တမြားကြီးပမာ လိုရာသုံးနိုင်သဖြင့် ဉာဏ်ပညာ ထက်မြက်ရှင်သန်နေစေရန် အားထုတ်သင့်လှတော့၏။

ယင်းသဘောကို ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် သူ၏မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးထဲတွင် လိုက်နာရန် နီတိများအဖြစ် ထည့်သွင်းရေးဖွဲ့ထား၏။ ယင်းတို့အထဲမှ သင့်နိုးရာရာ အဆိုအမိန့်အချို့ကို အောက်တွင် ဆက်၍ ဖော်ပြထားရာ အကျိုးစီးပွား လိုလားသူတို့သည် လေ့လာဖတ်ရှုမှတ်သားနိုင်ကြပါစေဟု ဆန္ဒပြုလိုက်ရပါ၏။

## ၁။ ပညာဉာဏ်ဖြင့် နှိုင်းယှဉ်ချင့်

ပညာဉာဏ်ဖြင့်၊ နှိုင်းယှဉ်ချင့်၍၊ အသင့်မမှီး၊ အကြံကြီးသော်၊ မှုကြီးရောက်မြဲ၊ မချွတ်လွဲဘူး၊ လွှဲ၍မရ၊ ဝဋ္ဋကိစ္စတည့်၊ လောဘအလို၊ ကြီးတိုင်းပိုခဲ့၊ (၁၅၈)

## ဆိုလိုရင်း အဓိပ္ပာယ်

အရေးကိစ္စဟူသမျှကို ပညာဉာဏ်ဖြင့် ချင့်ချိန်နှိုင်းဆကာ ဆောင်ရွက်ရာ၏။ ထိုသို့မဟုတ်ဘဲ အကြံကြီးစွာဖြင့် ဉာဏ်မမှီးဘဲ ဆောင်ရွက်ပါက အမှုအခင်းကြီးများနှင့် ကြုံတွေ့တတ်ကြ၏။ ရှောင်လွှဲ၍ မရနိုင်ချေ။ လောဘအလိုဆန္ဒကြီးလေလေ၊ မှုခင်းပြဿနာများလေလေ ဖြစ်၏။

## ၂။ ထင်ရှားပညာဖြစ်သည်သာ

စေ့ချဉ်းကပ်နည်း၊ ယှဉ်နှောနှီး၍၊ ကြီးမြတ်သူအား၊ မပြတ်ရိုသေ၊ မထေမပြု၊ ဗဟုသုလည်း၊ စုလော့ရရာ၊ ရတိုင်းရှာရှင့်၊ နည်းနာတရား၊ ကြားမြင်များမှ၊ ထင်ရှားပညာ၊ ဖြစ်သည်သာတည့်၊ (၁၉၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ကြီးမြတ်သူ ပညာရှိပုဂ္ဂိုလ်များထံ ချဉ်းကပ်၍ သိမှတ်ဖွယ်ရာပညာများကို လေ့လာသင်ယူရာ၏။ ထိုပုဂ္ဂိုလ်တို့အား မထေမဲ့မြင် မလေးမစားမပြုဘဲ ရိုသေစွာ မေးမြန်းသင်ယူပြီး အကြားအမြင် ဗဟုသုတများကို ရသမျှ စုဆောင်းမှတ်သားပါလော့။ သို့မှသာလျှင် ဘဝအတွက် အရေးကြီးသော ဗဟုသုတ အကြားအမြင်များနှင့် ပြည့်ဝလာပြီး မိမိတို့၏ ဉာဏ်ပညာသည်လည်း ထက်မြက်ထင်ရှားလာမည် ဖြစ်၏။

## ၃။ ဉာဏ်သွားမပေ ထက်မြက်စေ

ဥပါယ်တမျဉ်၊ သမ္မဇဉ်ဖြင့်၊ ဉာဏ်ယှဉ်ကြီးစွာ၊ ကြံစည်ရာ၏၊ ပညာရှေ့ထား၊ လုံ့လအားဖြင့်၊ ဉာဏ်သွားမပေ၊ ထက်မြက်စေလော့၊ (၁၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

အကြံအစည်တစ်ခုကို ပြုလုပ်မည်ဆိုလျှင် သတိနှင့်ယှဉ်ပြီး ပြုလုပ်ရာ၏။ ဥပါယ်တမျဉ်၊ ပရိယာယ်ကိုလည်းသုံးပြီး ကြံစည်ရာ၏။ အရာရာကို ပြောဆို၊ ပြုမူကြံစည်သောအခါ မပေါ့မလျော့ဘဲ ပညာဉာဏ်ကို ရှေ့ထားကာ ကြိုးစားသော လုံ့လဝီရိယတို့ဖြင့် ဆောင်ရွက်ပါလော့။

## ၄။ မိမိအတတ် ကိုယ့်ကိုသတ်

ပညာမြင်ကြား၊ ရှိပါငြားလည်း၊ တရားအလွတ်၊ စကားတတ်လျက်၊ ယုတ်မြတ်ပုဂ္ဂိုလ်၊ လူထိုထိုအား၊ အလိုမိုက်ဆိုး၊ မာနကိုး၍၊ လွှမ်းမိုးနှုတ်လျှာ၊ ပြောတတ်စွာမူ၊ ထိုပညာရှိ မိမိအတတ်၊ ကိုယ့်ကိုသတ်၏၊ (၁၉၉)

## ဆိုလိုရင်းအဓိပ္ပာယ်

အချို့သောသူတို့သည် ပညာ၊ ဗဟုသုတ ရှိသော်လည်း စကားကို တရားလက်လွတ် ပြောပြီး ယုတ်မြတ်ပုဂ္ဂိုလ် လူထိုထိုအား မာနလွှမ်းမိုးကာ ဆက်ဆံတတ်ကြ၏။ ထိုသို့ မာနတံခွန်ထူပြီ၊ နှုတ်လျှာကြမ်းတမ်းစွာ ပြောဆိုတတ်သော ပညာရှိသည် မကြီးပွားဘဲ မိမိအတတ် မိမိအား ပြန်သတ်ကာ အကျိုးမဲ့ဖြစ်တတ်၏။

## ၆။ ပညာပြည့်ဝ နှလုံးလှ

ပညာပြည့်ဝ၊ နှလုံးလှသော်၊ ကိစ္စကြီးငယ်၊ ဆောက်သဖွယ်လျှင်၊ ကျဉ်းကျယ်ထွင်းဖောက်၊ ဖြတ်တောက်လိုရာ၊ ပြီးနိုင်စွာ၏၊ ပညာမသုံး၊ နှလုံးမပျောင်း၊ လက်ရုံးကောင်းကား၊ တစ်ကြောင်းမျှသာ၊ စူးပမာသို့၊ လိုရာကိစ္စ၊ များမကျတည့်၊ (၂၀၀)

## ဆိုလိုရင်း အဓိပ္ပာယ်

စိတ်နှလုံးဖြူစင် ဖြောင့်မတ်ပြီး ပညာရှိသူများသည် အရေးကိစ္စကြီးငယ်တို့နှင့် ကြုံဆုံလာသောအခါ ဆောက်သည့်သစ်သားကို လိုရာပုံစံများဖြင့် ထွင်းဖောက်ဖြတ်တောက်နိုင်သကဲ့သို့ လိုအပ်သလို ပြီးမြောက်စွာ ဖြေရှင်းနိုင်၏။ အကယ်၍ စိတ်ထား မဖြောင့်မတ်၊ ပညာမသုံးသူတို့အဖို့ကား အရေးကိစ္စကြီးငယ်များကို တစ်ကြောင်းတည်းကိုသာ ဖောက်ထွင်းနိုင်သည့် စူးကဲ့သို့ အောင်မြင်စွာ မဖြေရှင်းနိုင်ဘဲ ရှိတတ်ကြ၏။

## ၇။ ပညာသမ္မဇဉ် ဉာဏ်နှင့်ယှဉ်

ပညာပသမ္ဗဇဉ်၊ ဉာဏ်မယှဉ်ဘဲ၊ ဥယျာဉ်သည်မိုက်၊ စရိုက်မကောင်း၊ မျောက်အပေါင်းတို့၊ ရေလောင်းခိုင်းမှား၊ ကျိုးပျက်ပြား၏၊ တရားအမြစ်၊ စစ်သောတဖူ၊ အရင်းယူက၊ ခိုင်းသူအမိုက်၊ ကဲ့ရဲ့တိုက်၏၊ (၂၀၁)

## ဆိုလိုရင်း အဓိပ္ပာယ်

အရေးအရာကိစ္စများကို ဆောင်ရွက်သောအခါ ဉာဏ်နှင့်ယှဉ်ပြီး စဉ်းစားဝေဖန်ကာ လုပ်ဆောင်သင့်ကြ၏။ ထိုသို့မဟုတ်လျှင် မိုက်မဲသောဥယျာဉ်မှူးက မျောက်များကို ရေလောင်းခိုင်းမိ၍ ဥယျာဉ်တစ်ခုလုံး ပျက်စီးရသကဲ့သို့ အကျိုးစီးပွား ပျက်တတ်၏။ ဤသို့ ဥယျာဉ်ကြီး ပျက်စီးရခြင်း၏ အကြောင်းရင်းကို ရှာဖွေသော် မျောက်များကို ရေလောင်းခိုင်းသော ဥယျာဉ်မှူးမိုက်သာလျှင် အဓိကအပြစ်ရှိ၍ သူ့ကိုသာ ကဲ့ရဲ့ ရှုတ်ချသင့်လှ၏။

## ၇။ အရာရာ၌ ပညာရှေးရှိ သမာဓိနှင့်

သမ္မာမဲ့ကြား၊ တရားကျင့်ဝတ်၊ မင်းတို့ချွတ်က၊ ငတ်မွတ်ရေစာ၊ ရောဂါလက်နက်၊ သုံးချက်ဘေးကြီး၊ ဖိစီးပြည်ရွာ၊ ရောက်တတ်စွာ၏၊ အခါအခါ၊ အရာရာ၌၊ ပညာရှေးရှိ၊ သမာဓိနှင့်၊ သတိထိန်းကျောင်း၊ မှန်လမ်းကြောင်းနှင့်၊ မစောင်းမစွေရစ်စေနှင့်။ (၂၀၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့အဖွဲ့အစည်းတစ်ခု၊ သို့မဟုတ် နိုင်ငံတစ်နိုင်ငံကို အုပ်ချုပ်စီမံနေသော အကြီးအကဲဖြစ်သူက ဖြောင့်မတ်မှန်ကန်မှုမရှိ၊ တရားကျင့်ဝတ်ပျက်ယွင်းသောအခါ ငတ်မွတ်ခြင်း၊ ရောဂါကျရောက်ခြင်း၊ ဗုံးလက်နက်များကြောင့် သေကြေပျက်စီးရခြင်းဟူသော ကပ်ဘေးကြီးသုံးမျိုး ကျရောက်ကာ ပြည်သူအများ ဆင်းရဲဒုက္ခ ရောက်ရ၏။ ထို့ကြောင့် လူအများကို စီမံအုပ်ချုပ်နေရသူ၊ မင်းအကြီးအကဲတို့သည် အရာရာတွင် ပညာ၊ သမာဓိ၊ သတိတို့ကို လက်ကိုင်ထားကာ အမှန်လမ်းပေါ်မှ မတိမ်းမစောင်းသွားစေရန် မိမိကိုယ်ကို ထိန်းကျောင်းနေသင့်လှ၏။

## ၈။ စောင့်ဘိပညာ မလစ်ရာ

မစွေမစောင်း၊ မှန်လမ်းကြောင်းဖြင့်၊ ထိန်းကျောင်းသတိ၊ စောင်းကြိုးညှိသို့၊ စောင့်ဘိပညာ၊ မလစ်ရာဘူး၊ မင်းမှာကပ်နေ၊ လူမွေယောက်ျား၊ မင်းစေများတို့၊ လျှပ်ဝါးသမ္ဘု၊ ပေါက်လွတ်ပြုက၊ ပြည်သူ့မီးပွား၊ ဟူတုံကြား၏၊ (၂၀၂)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိတို့ဆောင်ရွက်ဖွယ် ကိစ္စကြီးငယ်များကို ဆောင်ရွက်ရာတွင် လမ်းမှန်ပေါ်မှ တိမ်းစောင်းလွဲချော်သွားခြင်း မရှိစေရန် သတိနှင့် ပညာကို စောင်းကြိုးညှိသကဲ့သို့ ညှိမျှစေကာ အားထုတ်ကြရာ၏။ သတိပညာချို့ယွင်း၍ မေ့ကျန်လစ်ဟင်းခြင်းမရှိစေရန် ကြိုးစားသင့်၏။ အဘယ်ကြောင့်ဆိုသော် ပြည်သူ့အရေးကိစ္စများကို ဆောင်ရွက်နေကြရသည့် ပုဂ္ဂိုလ်များက လျှပ်ပေါ်လော်လီကာ မတရားမှုပြုလုပ်နေပါက ပြည်ရေးပြည်ရာ ကိစ္စများတွင် အဆင်မပြေ၊ မငြိမ်မသက်မှုများ ဖြစ်လာနိုင်သောကြောင့် ဖြစ်၏။ ယင်းတို့အားလည်း ပြည်သူများ၏ စိတ်နှလုံးကို လောင်မြိုက်စေပြီး ပျက်စီးအောင် ဖန်တီးပေးနိုင်သည့် ပြည်သူ့မီးပွားဟု ခေါ်ဆိုထိုက်လှ၏။

## ၉။ လက်ကိုင်ဝရဇိန် ဉာဏ်ဖြင့်ချိန်

မုန်းသော်မနိုင်၊ ချစ်သော်ပိုင်၏၊ လက်ကိုင်ဝရဇိန်၊ ဉာဏ်ဖြင့်ချိန်လျက်၊ ပူရှိန်ညီးညီး၊ မီးမှလတ်လတ်၊ သေစေတတ်ဟု၊ မမှတ်စရာ၊ ချမ်းမြေ့စွာသည့်၊ သီတာရေလည်း၊ အသည်းတုန်အေး၊ မနေ့းဆတ်ဆတ်၊ သေစေတတ်၏၊ (၂၀၂)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတစ်ဖက်သားအား မုန်းတီးနေသမျှ ထိုသူအား ကိုယ့်ဘက်ညွတ်တိမ်းလာအောင် စွမ်းဆောင်နိုင်မည်မဟုတ်ချေ။ သူ့အား မေတ္တာထားခြင်းဖြင့်သာ အောင်နိုင်ရာ၏။ ထို့ကြောင့် ဝရဇိန်လက်နက်ပမာ စွမ်းအားထက်လှသော ပညာဉာဏ်ကို အသုံးပြုကာ ချင့်ချိန်ဝေဖန်ပြီး လုပ်ဆောင်သင့်၏။ ပူပြင်းတောက်လောင်နေသော မီးကသာလျှင် လူကို သေစေတတ်သည်မဟုတ်။ အသည်းတုန်အောင် အေးမြသော ရေသည်လည်း လူကို သေစေတတ်ကြောင်း သတိပြုသင့်ကြ၏။

## ၁၀။ စာနာဉာဏ်ရှု ဆင်ခြင်ပြု

ပဋိဃာတ၊ မျက်ဒေါသဖြင့်၊ ပြင်းပြလွန်ကြမ်း၊ မီးနှင့်ယမ်းသို့၊ ပရမ်းပတာ၊ မဖြစ်ရာဘူး၊ စာနာဉာဏ်ရှု၊ ဆင်ခြင်ပြုလော့၊ နှုတ်မှုနှင့်သာ၊ ပြီးသင့်ရာကို၊ လက်ပါခဲ့ဗြား၊ ရန်ကြီးပွား၏၊ (၂၀၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ယမ်းပုံထက်သို့ မီးကျသည့်ပမာ ပြင်းထန်ကြမ်းတမ်းသော အမျက်ဒေါသဖြင့် မိမိကိုယ်ကို အထိန်းအကွပ်မရှိ၊ ပရမ်းပတာမဖြစ်စေသင့်ချေ။ အရာရာကို ပညာဉာဏ်ဖြင့် ထိန်းချုပ်၍ ဆင်ဆင်ခြင်ခြင် ပြုသင့်ကြ၏။ နှုတ်စကားမှုနှင့် ပြီးစီးနိုင်သောအရာကို နှုတ်ဖြင့်သာ ပြီးငြိမ်းစေရာ၏။ အကယ်၍ လက်ပါပါခဲ့မှုကား အမျိုက်ကစ ပြာသာဒ်မီးလောင်ဆိုသကဲ့သို့ ရန်သည်ပို၍ ကြီးထွားလာတတ်၏။

## ၁၁။ လူ့အတတ်ကား နတ်မျှမသာ

ဉာဏပယောဂ၊ ကိစ္စဟူလတ်၊ လူ့အတတ်ကား၊ နတ်မျှမသာ၊ လူ့ပညာမျိုး၊ နတ်တန်ခိုးထက်၊ တိုး၍ခဲကတ်၊ ကြံစည်တတ်၏၊ (၂၀၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဉာဏ်ပညာကို အကြောင်းပြု၍ လုပ်ဆောင်ရသော လူ့ကိစ္စများတွင် လူတို့၏ အတတ်ပညာကား နတ်တို့၏ ပညာဉာဏ်၊ အတတ်ပညာကပင် မသာဘဲ စွမ်းအား ထက်လှ၏။ လူတို့၏အတတ်ပညာမှာ နတ်တို့၏ တန်ခိုးအာနုဘော်ထက်ပင် ကဲလွန်၍ လူတို့၏ အကြံအစည်မှာလည်း ပို၍ပင် ခက်ခဲနက်နဲလှပေ၏။

## ၁၂။ သင်ပညာထက် စိန္တာမယဉာဏ်ပို၍ လွန်ကဲ

ကိုယ်ပြုလက်ပြု၊ နှုတ်မှုအရာ၊ သင်ပညာထက်၊ စိန္တာမယ၊ ထိုဉာဏက၊ ဆဆ ကဲမြတ်၊ လွန်သတတ်တည့်။ (၂၀၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဆရာထံချဉ်းကပ်၍ သင်ယူတတ်မြောက်အပ်သော လက်မှုပညာ၊ နှုတ်မှုပညာ များထက် ကိုယ်တိုင် ထိုးထွင်းကြံစည်အားထုတ်၍ရသော စိန္တာမယဉာဏ်ပညာသည် အဆအရာလွန်ကဲ၍ မြင့်မြတ်လှပေ၏။

## ၁၃။ လက္ခဏာနှစ်ပါး ပိုင်းခြားရှုမြော်

မီးကားပူထွေ၊ ရေကားအေးလွန်၊ ပြစ်စွန်းနှစ်ဖို့၊ မီးရေတို့တွင်၊ မီးသို့ချည်းဟူ၊ ရေတူချမ်းသာ၊ မကျင့်ရာဘူး၊ လက္ခဏာနှစ်ပါး၊ ပိုင်းခြားရှုမြော်၊ မီးလွန်သော်ခြစ်၊ ရေလွန်ပျစ်၍၊ စွန့်ပစ်လွန်မှု၊ ညီမျှပြုလျက်၊ (၂၁၁)

## ဆိုလိုရင်း အဓိပ္ပာယ်

မီးသည် ပူလွန်း၏။ ရေသည် အေးလွန်း၏။ ပူလွန်း အေးလွန်သော အစွန်းများ ရှိခြင်းကြောင့် အပြစ်ရှိကုန်၏။ မီးကဲ့သို့ချည်းလည်း မကျင့်၊ ရေနှင့်လည်း မတူစေဘဲ ပူခြင်း၊ အေးခြင်းဟူသော သဘောလက္ခဏာနှစ်ခုအပေါ် ပိုင်းခြားရှုမြော်၍ ညီမျှစွာ ကျင့်ရာ၏။ အကြောင်းမူကား မီးဓာတ်လွန်ကဲလျှင် မာကျောကြွပ်ဆတ်ပြီး ရေဓာတ် လွန်ကဲပါက ပျစ်ခဲစေးထန်းနေတတ်သောကြောင့်ပင်တည်း။

## ၁၄။ ပျိုစဉ်တကျော အိုမိစ္ဆာ

ထိုရွှေ့များစွာ၊ သတ္တဝါကား၊ ခန္ဓာရင့်တိုင်း၊ စိတ်ရန့်ရိုင်း၏၊ ပိတ်ထိုင်းမောဟ၊ မိုက်တွင်းကျ၍၊ အန္ဓပုထုဇ်၊ ဉာဏ်မယုဉ်ဘူး၊ ပျိုစဉ်တကျော၊ အိုမိစ္ဆာနှင့်၊ ပညာကင်းဘိ၊ သတိကင်းပ၊ ဉာဏ်ကန်းစွကြောင့်၊ သတ္တဝါအလေ့၊ မငြိုးငွေ့တည့်၊ (၂၁၃)

ပဌ္ဌာမြားမောက်စာပေ

## ဆိုလိုရင်း အဓိပ္ပာယ်

လူသတ္တဝါများစွာတို့သည် အသက်ခန္ဓာကြီးရင့်လာသောအခါ စိတ်ဓာတ်ကြမ်းတမ်း ရန့်ရိုင်းလေ့ရှိကုန်၏။ မသိခြင်း မောဟတရား ပိတ်ဆို့ကာဆီးမှုကြောင့် မိုက်မဲတွေဝေကြပြီး အန္ဓပုထုဇဉ်ပီပီ ပညာဉာဏ်ဖြင့် နှိုင်းယှဉ် စဉ်းစားခြင်းမပြုကြချေ။ ပညာမရှိ၊ သတိတရားကင်းကာ ဆင်ခြင်ဉာဏ်ကို မသုံးသောကြောင့် လူ့ ့ တို့သည် ပျို့ရွယ်စဉ်ကာလ၌ တပ်မက်စွဲလမ်းမှု တဏှာအာရုံများကို လိုက်စားပြီး အိုသောအခါ၌လည်း အယူမှား၊ အကျင့်မှား မိစ္ဆာတရား၌သာ မွေ့လျော်နေတတ်ကြသည်။ သူတို့သည် ကာမဘုံသား သတ္တဝါများ၏ အလေ့စရိုက်အတိုင်း ကာမဂုဏ်အာရုံများအပေါ် မည်သည့်အခါမျှ ငြီးငွေ့ခြင်းမရှိကြချေ။

## ၁၅။ လိမ္မာတတ်ပွန် ပုစွန်ကြံထက်

ခြင်္သေ့သော်လည်း၊ ကြံစည်နည်းက၊ လက်သည်းခွံမျှ၊ ကိုယ်ကာယနှင့်၊ ဗလနည်းပါး၊ အားမဲ့စွာလျက်၊ ဖားတစ်လက်ကြောင့်၊ အသက်သေဆုံး၊ ပျက်စီးရှုံး၏၊ အိုင်လုံးကုန်အောင်၊ ငါးများမြောင်ကို၊ ဗျိုင်းဆောင်လှည့်ဖြား၊ ချိုကာစားသော်၊ ငါးများထက်လွန်၊ လိမ္မာပွန်သည့်၊ ပုစွန်ကြံထက်၊ ပညာနက်၍၊ အသက်မသေ၊ ကိုယ်မကြေဘဲ၊ ဆောင်စေလိုတိုင်း၊ ကျွန့်နှင့်ခိုင်းလျက်၊ ဗျိုင်းမိုက်လည်ပင်း၊ စင်းစေလတ်လတ်၊ ပြတ်အောင်ဖြတ်၏၊ (၂၁၄)

## ဆိုလိုရင်း အဓိပ္ပာယ်

အားမာန်ကြီးလှသော ခြင်္သေ့ကြီးဖြစ်လျက်နှင့် လက်သည်းခွံမျှသာရှိသော ဖားကလေးတစ်ကောင်၏လက်ချက်ဖြင့် သေဆုံးပျက်စီးရ၏။ ခြင်္သေ့ကြီးသည် ခန္ဓာကိုယ်သာကြီးသော်လည်း ပညာဉာဏ်မရှိ၊ ဖားကလေးသည် ခွန်အားဗလ သေးငယ်သော်လည်း ဉာဏ်ပညာရှိသောကြောင့် ဖြစ်၏။ ထိုနည်းတူစွာ အိုင်တစ်ခုလုံး ကုန်အောင် ငါးများကို လှည့်ဖြား၍ ကိုက်ချီစားခဲ့သော ဗျိုင်းကို ပညာဉာဏ်ရှိသော ပုစွန်လုံးက နောက်ဆုံးတွင် ဗျိုင်း၏ လည်ပင်းကို ဖြတ်ကာ အနိုင်ယူခဲ့၏။ အရာရာတွင် ခဲရာခဲဆစ် ကြံစည်တတ်သော ဉာဏ်ပညာသည်သာ ပဓာနဖြစ်တော့၏။

## ၁၆။ ဉာဏ်မဲ့စွာဖြင့် သမုဒ္ဒရာရေတွင်း ပြေးဝင်ဆင်း

ယုန်ငယ်သဘော၊ မြေပြိုသောဟု၊ ပြောသံကြားရ၊ ယုံကြီးယုံ၍၊ လုံးစုံသားပေါင်း၊ ခြေလေးချောင်းတို့၊ သောင်းသောင်းကြွက်ညာ၊ ဉာဏ်မဲ့စွာဖြင့်၊ သမုဒ္ဒရာရေတွင်း၊ ပြေးဝင်ဆင်းရှင့်၊ (၂၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ယုန်ငယ်ကလေးတစ်ကောင်က မြေကြီးပြိုပြီဟု ပြောသောအသံကို ကြားရသော အခါ စဉ်းစားဆင်ခြင်ဉာဏ်ပညာ ကင်းမဲ့သော ခြေလေးချောင်းသတ္တဝါအပေါင်းတို့သည် အကယ်ပင် ကမ္ဘာမြေကြီး ပြိုလေပြီဟု အကြွင်းမဲ့ ယုံကြည်ကြသောကြောင့် အသက်ဘေးမှ လွတ်မြောက်ရန် ကြောက်အားလန့်အားဖြင့် ပင်လယ်သမုဒ္ဒရာတွင်းသို့ ပြေးဆင်းကြကုန် သောကြောင့် သေဆုံးပျက်စီးကြကုန်၏။ ထို့ကြောင့် အရာရာကို မိမိ၏ကိုယ်ပိုင်ဉာဏ် ပညာဖြင့် ဝေဖန်သုံးသပ်ကာ ယုံသင့်မှ ယုံကြရာ၏။

## ၁၇။ ရေးရာမထား မပေါ့မှားလင့်

လူယုံသတ်က၊ သေတတ်စွရှင့်၊ မုချမှန်စွာ၊ နည်းငယ်စွာဟု၊ ရေးရာမထား၊ မပေါ့မှားလင့်၊ သားနှင့်ကျေးကျွန်၊ စည်းစိမ်လွန်က၊ မာန်ဝှန်တတ်ဖွာ၊ အတောင်မှာငှက်၊ အတက်ရှည်ငြား၊ ကြက်အလားတည့်၊ (၂၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် လူယုံသတ်က အသက်သေဟူသော စကားရှိ၏။ ထိုစကား သည် မှန်လှ၏။ မည်သည့်နေရာ၌မဆို အနည်းငယ်မျှသာတည်း၊ အရေးမကြီးပါ သဘောမထား၊ ပေါ့ပေါ့ဆဆ မပြုသင့်ချေ။ သားသမီး၊ ကျေးကျွန်ဖြစ်စေကာမူ ဖြစ်သင့် သည်ထက် လွန်ကဲသော ဥစ္စာစည်းစိမ်ကို ရလာလျှင် မာန်မာနတက်ကြွထောင်လွှားတတ် ကြ၏။ အတောင်ရှိသောငှက်၊ အတက်ရှိသောကြက်တို့သည်လည်း ထိုနည်းတူပင် ဖြစ်ကြကုန်၏။

## ၁၈။ နှိုင်းရှဲ့ကောင်းဆိုး အမှုမျိုး

မိမိကိုယ်ကို၊ ကြီးပွားလိုက၊ အတိုမပြု၊ အရှည်ရှုလော့၊ ဒီဃာဝုမည်၊ လောင်း ဇာနည်သို့၊ ခိုင်ကျည်ဖွာဘိ၊ သမာဓိနှင့်၊ သတိသမ္ပဇဉ်၊ ယှဉ်စေရှေးဦး၊ လွန်မကျူးနှင့်၊ ကျေးဇူးရှိမဲ့၊ နှိုင်းရှဲ့ကောင်းဆိုး၊ မှုအမျိုးကား၊ ရိုးရိုးဆိုတန်၊ မဆိုတန်နှင့်၊ မှန်တိုင်း မကောင်း၊ ချက်ဖယောင်းသို့၊ ပျော့တိုင်းမရာ၊ ကျောက်ပမာလည်း၊ မာတိုင်းမသင့်၊ အခွင့်မဆိုင်၊ ရေးမပိုင်က၊ အနိုင်ဘယ်ခါ၊ မကျင့်ရာဘူး၊ (၂၂၁)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိကိုယ်ကို ကြီးပွားတိုးတက်လိုသော် အတိုမပြု၊ အရှည်ကို ရှုကြည့်ပြီး အမြင် ကျယ်ကျယ်ဖြင့် ရွက်ဆောင် အားထုတ်ကြရမည်ဖြစ်၏။ အလောင်းတော် ဒီဃာဝု မင်းသားကဲ့သို့ ရှေးအလားအလာကို ကြည့်မြင်ပြီး သမာဓိ၊ သတိတို့နှင့်ယှဉ်ကာ ဆောင် ရွက်ပါလော့။ လွန်ကျူးခြင်းမရှိစေနှင့်။ အမှုကိစ္စတိုင်းတွင် ကျေးဇူးရှိ မရှိ၊ ကောင်းသည် ဆိုးသည်ကို ဉာဏ်ဖြင့် ဆင်ခြင်ကာ ပြုသင့် မသင့်၊ ဆိုသင့် မဆိုသင့်ကို မိမိဘာသာ

ဆုံးဖြတ်ကျင့်ဆောင်ရာ၏။ လောကတွင် မှန်တိုင်းလည်းမကောင်း၊ ပျော့ပျောင်းသိမ်မွေ့တိုင်းလည်း မသင့်၊ မာတိုင်းလည်း အကျိုးမရှိ။ အကြောင်းအပေါင်းမသင့်၊ အခွင့်မဆိုင် အရေးမပိုင်လျှင် ဘယ်သောအခါမှ တစ်ဖက်လူကို အရေးယူ အနိုင်ကျင့်ခြင်း မပြုပါလေနှင့်။

## ၁၉။ ဉာဏ်ကင်းသူအား မတည်ကြား

လူဖြစ်တစ်ခါ၊ ရှေးကြမ္မာဖြင့်၊ ဇာတာတက်တုန်း၊ ချိန်သင့်ဆုံး၍၊ ဘုန်းကျက်သရေ၊ တက်သည့်ရေသို့၊ ခြွေရွေပရိဝါ၊ ရတနာနှင့်၊ ဥစ္စာကျွန်သင်း၊ ပြည့်စုံခြင်းကား၊ ဉာဏ်ကင်းသူအား မတည်ကြားဘူး၊ (၂၂၃)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့သည် အတိတ်က ရှေးကုသိုလ်တို့ကို အကြောင်းပြု၍ ဆင်းရဲခြင်း၊ ချမ်းသာခြင်းတို့ကို ခံစားကြရမြဲ ဖြစ်ကုန်၏။ အချို့လူတို့သည် ကံဇာတာတက်တုန်း အချိန်တွင် အခြံအရံ၊ ရွှေငွေဥစ္စာ၊ ကျေးကျွန်သင်းပင်းများစွာနှင့် အဆင့်အတန်းမြင့်မြင့် နေကြရ၏။ သို့သော် ထိုစည်းစိမ်၊ ထိုဥစ္စာတို့သည် ဉာဏ်ပညာကင်းမဲ့သူတို့အဖို့ ခေတ္တခဏသာ ခံစား စံစားနိုင်ကြပြီး ရေရှည်တည်တံ့ခိုင်မြဲခြင်းမရှိချေ။ ရာထူးဂုဏ်သိန်၊ ဥစ္စာဓနတို့သည် ပညာဉာဏ်ရှိသူတို့အတွက်သာလျှင် ဖြစ်ကုန်၏။

## ၂၀။ ပေါက်ပန်းပမာ မှတ်တို့ရာ

မရှိပညာ၊ ဤလူ့ရွာဌ်၊ ကျမ်းစာနိတိ၊ တတ်မသိက၊ မျက်စိစုံကန်း၊ လူဖြစ်ဆန်းမျှ၊ ပေါက်ပန်းပမာ၊ မှတ်တို့ရာ၏၊ (၂၃၀)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့ဘဝသို့ ရောက်လာသူတို့သည် တတ်မြောက်နားလည်အပ်သော ကျမ်းဂန်စာပေ၊ လမ်းညွှန်နီတိများ သင်ယူတတ်မြောက်ခြင်းမရှိသဖြင့် ထိုသူတို့သည် ပညာမဲ့ဘဝသို့ ရောက်နေကြကုန်၏။ သူတို့သည် မျက်စိရှိလျက် ကန်းနေသူကဲ့သို့ အသိအမြင်၊ ဗဟုသုတများ ချို့တဲ့၍ ရခဲသော လူ့ဘဝခရီးတွင် စမ်းတဝါးဝါး လျှောက်လှမ်းနေကြရ၏။ ထို့ကြောင့် ထိုသူတို့သည် လူဖြစ်ရရုံသာရကြပြီး အဆင်းသာရှိ၍ အနံ့ကင်းသည့် ပေါက်ပန်းကဲ့သို့ တန်ဖိုးမဲ့ ဖြစ်ကြရကုန်၏။

## ၂၁။ သိဉာဏ်ဝမ်းတွင်း သက်သက်ကင်း

ငယ်ကအားမာန်၊ ကြီးသော်ဟန်နှင့်၊ သိဉာဏ်ဝမ်းတွင်း၊ သက်သက်ကင်းလျက်၊ ဟင်းလင်းဟာလာ၊ အူမျှသာဖြင့်၊ ပညာသတိ၊ မရှိသသူ၊ အပြစ်ထူ၏၊ (၂၃၆)

## ဆိုလိုရင်း အဓိပ္ပာယ်

အသိအလိမ္မာ ဉာဏ်ပညာကင်းမဲ့သူတို့သည် ငယ်ရွယ်စဉ်က အားနှင့်မာန်ကို အရင်းတည်ကာ နေခဲ့ကြပြီး ကြီးပြင်းလာသောအခါ ဟိတ်တစ်လုံး၊ ဟန်တစ်လုံးနှင့်သာ နေခဲ့ကြရ၏။ ထိုသူတို့သည် ဝမ်းတွင်း၌ အနှများမှတစ်ပါး ဘာမှမရှိကြချေ။ ထိုသူတို့သည် ပညာဉာဏ်နှင့် သတိတရားကင်းမဲ့နေသူများဖြစ်ကြရာ အကျိုးမရှိ၊ အပြစ်သာများကြကုန်၏။

## ၂၂။ သဒ္ဓါပညာ ထိုဥစ္စာ

သဒ္ဓါပညာ၊ ထိုဥစ္စာနှင့်၊ မကွာလက်ရှိ၊ တည်ဘိထိုသူ၊ ကျွန်းဇမ္ဗူထက်၊ ဗိုလ်လူအံ့ချီး၊ တောင်ထိပ်မီးသို့၊ ဝေးနီးနံ့ပြား၊ ကျော်ထင်ရှားလျက်၊ ခြောက်ပါးနတ်ရွာ၊ လမ်းပွင့်သာလိမ့်၊ နှစ်ဖြာထင်ရှား၊ ဤတရားကို၊ မှတ်သားပိုက်ထုပ်၊ ဝမ်းဝယ်မြှုပ်လော့၊ (၂၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

သဒ္ဓါ၊ ပညာဟူသော ဥစ္စာနှင့် ပြည့်စုံသောသူသည် တောင်ထိပ်ဖျားရှိ မီးကဲ့သို့ မြင်သာ ထင်ရှား၊ လူသိများပြီး သေလွန်ပြီးသောအခါ၌လည်း နတ်ပြည်နတ်ရွာသို့ လားရပေအံ့။ ထို့ကြောင့် သဒ္ဓါ၊ သတိတရားနှစ်ပါးကို ကိုယ်နှင့်မကွာရှိနေအောင် ကြိုးစားပါလော့။

## ၂၃။ ဓနပညာ မဲ့တုံပါသော်

ဓနပညာ၊ မဲ့တုံပါသော်၊ ဥစ္စာမရှိ၊ ကတိမတည်၊ လူမမည်ဘဲ၊ လူရည်မသွင်း၊ ပွဲလယ်ခွင်သို့၊ မဝင်အပ၊ သုံးမကျဘူး၊ မယားတမူ၊ အောင့်အည်းစုလျက်၊ ညဲညှုယောက်ယက်၊ ဆံရှုပ်ရှက်နှင့်၊ ခေါင်းရွက်ဖွေရှာ၊ မူးဝေပြာ၏၊ လင်မှာသော်ကား၊ တလျားလျားသာ၊ သောက်စားပျော်ပါး၊ ယောင်ဝါးဝါးနှင့်၊ စီးပွားကိစ္စ၊ မလုံ့လဘဲ၊ တစ်ဘဝလုံး၊ သက်ဆုံးအဖျင်း၊ ချမ်းသာကင်း၏။ (၂၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ဥစ္စာနှင့်ပညာ မရှိသောသူသည် ကတိမတည်တတ်ချေ။ လူတစ်ယောက်အဖြစ် စာရင်းသွင်းမခံရဘဲ အသုံးမကျ ဖြစ်ရ၏။ ထိုသူတို့သည် မယားဖြစ်သူက ခေါင်းရွက်ဗျတ်ထိုးအလုပ်ဖြင့် မအားမလပ်အောင် ဖြစ်နေသော်လည်း ဥစ္စာ၊ ပညာမဲ့သောလင်ဖြစ်သူက ရပ်လျားရပ်လျားနှင့် ပျော်ပျော်ပါးပါး သောက်စား၍သာ နေ၏။ ထိုသူသည် မယား၏ငြူစူခြင်းကို ခံရကာ တစ်ဘဝလုံး ဆင်းရဲခြင်းသို့ ရောက်ရမည်သာ ဖြစ်၏။

## ၂၄။ ပညာမဖက် ကြက်နယ်ယက်

ပညာမဖက်၊ ကြက်နယ်ယက်၍၊ နေ့ရက်ကုန်ကာ၊ ပြုတုံပါလည်း၊ အရာမထင်၊ အသက်ရှင်ရုံ၊ နေဝင်နေထွက်၊ လုပ်လက်ရှုရှု၊ ဝမ်းမဝတည့်။ (၂၉၀)

### ဆိုလိုရင်း အဓိပ္ပာယ်

လောကဥ္စ အသိ၊ ပညာကင်းမဲ့သူများသည် စားဝတ်နေရေးအတွက် နေထွက်မှ နေဝင်သည့်တိုင် ကြက်များအစာကိုယက်ပြီး ရှာစားရသကဲ့သို့ ပင်ပန်းစွာ ရှာဖွေစားသောက်ကြရ၏။ သို့သော်လည်း အကျိုးတစ်စုံတစ်ရာမထင်ဘဲ အသက်ရှင်ရုံမျှသာ နေရပြီး တစ်သက်ပတ်လုံး လက်လှုပ်ခြေလှုပ်ကာ ကြိုးပမ်းရှာဖွေသော်လည်း ထိုသူတို့သည် ဝမ်းမဝ၊ ခါးမလှသည့်ဘဝဖြင့်သာ အဆုံးသတ်ကြရကုန်၏။ ပညာမဲ့သူတို့၏ အဖြစ်ကား ဆိုးဝါးလှချေ၏တကား။

## ၂၅။ ကံတည်းကုန်လျှင် ဉာဏ်ကုန်တတ်မြဲ

လူထုံးစံကား၊ ကံလည်းတစ်ခု၊ ဉာဏ်တစ်ခုတည့်၊ ရှေးပြုအဟုန်၊ ကံတည်းကုန်လျှင်၊ ဉာဏ်ကုန်တတ်မြဲ၊ အမြင်လွဲရှင့်၊ မှီဝဲမိတ်ကောင်း၊ သူမြတ်လောင်းနှင့်၊ ပေါင်း၍တဆစ်၊ ဉာဏ်ထူးဖြစ်က၊ ကံသစ်ပွားမှု၊ အကြောင်းပြု၏၊ (၃၀၂)

### ဆိုလိုရင်း အဓိပ္ပာယ်

လူတို့တွင် အယုတ်အားဖြင့် ကံနှင့်ဉာဏ်သည် ရှိရစမြဲဖြစ်၏။ ထိုနှစ်ခုအနက် ရှေးကပြုခဲ့သော ကံသည် ကုန်ခဲ့ပါလျှင် ဉာဏ်သည်လည်း ကုန်၍ ကံမဲ့ ဉာဏ်မဲ့ဖြစ်တတ်ချေ၏။ ထို့ကြောင့် ကံသစ်ပွားကြောင်း အကျင့်ကောင်းဖြစ်သည့် ဉာဏ်ပညာတိုးပွားစေရန် မိတ်ကောင်း၊ ပညာရှိ သူတော်ကောင်းတို့နှင့် မှီဝဲပေါင်းဖော်ကာ သင်ယူလေ့လာသင့်ကြ၏။ သို့မှသာ ကံရှိ၊ ဉာဏ်ရှိသူတစ်ယောက် ဖြစ်လာနိုင်ပါ၏။

## ၂၆။ ပညာမြော်မြင် မရှိကျင်က

ဉာဏစက္ခု၊ မျှော်ရှုအပ်စွာ၊ အရာရာကို၊ လိမ္မာနက်ကိ၊ ရှာကြံသိလော့၊ လောကီအလိုက်၊ လူ့ဥ္စရေးရာ၊ ပညာမြော်မြင်၊ မရှိကျင်က၊ အကြင်ပုဂ္ဂိုလ်၊ စည်းစိမ်တို၏။ (၃၁၆)

### ဆိုလိုရင်း အဓိပ္ပာယ်

အရာရာကို ပညာမျက်စိဖြင့် ရှာဖွေကြံစည်ပါလော့။ လူ့လောကတွင် ပညာအမြော်အမြင်မရှိပါက သူ၏ရရှိခံစားနေရသော စည်းစိမ်ဥစ္စာသည် တာရှည်မခံ၊ လျင်မြန်စွာ ဆုံးရှုံးသွားတတ်၏။

# ၁၃။ လုံ့လ ဝီရိယ

လူသည် ထူးကဲမြင့်မြတ်သော သတ္တဝါဖြစ်၏။ ရခဲလှသော လူ့ဘဝတွင် မိမိကိုယ်ကို မြင့်မားတိုးတက်အောင် ကြံဆောင်နိုင်သော အခွင့်အလမ်းများစွာရှိ၏။ ထိုအခွင့်အလမ်းများကို လက်ဝယ်ပိုင်ပိုင် ခံစားရရှိနိုင်အောင်လည်း စွမ်းအားများသည် မိမိနှင့်အတူ မွေးကတည်းကပင် တစ်ပါတည်း ပါလာပြီးသား ဖြစ်၏။ ယင်းစွမ်းအားများကို တန်ဖိုးသိသိ၊ စွမ်းအားရှိရှိ အသုံးချနိုင်သူများအတွက် ဘဝသည် ချမ်းသာ၏။ ကြီးပွားတိုးတက်၏။ တင့်တယ်လှပ၏။ သာယာအေးချမ်း၏။ လူတန်းစေ့နေနိုင် ထိုင်နိုင်၊ စားနိုင် သောက်နိုင်၏။

ထိုစွမ်းအားများကား အခြားမဟုတ်။ လုံ့လဝီရိယ၊ ဆန္ဒ၊ စိတ်ဓာတ်နှင့် ပညာတို့ဖြစ်၏။ ထိုတရားလေးပါးကို မြတ်ဗုဒ္ဓက အဓိပတိလေးပါးအဖြစ် ပဋ္ဌာန်းဒေသနာတော်ကြီးတွင် ဟောကြားညွှန်ပြထား၏။

ယင်းလေးပါးအနက် ဝီရိယဓိပတိခေါ် ကြိုးစားအားထုတ်မှု လုံ့လဝီရိယသည် လူတိုင်း ကျင့်သုံးနိုင်သော စွမ်းအားဖြစ်၏။ မြင်းမိုရ်ထက်မက ထုထည်ကြီးမားလှ၏။ ခိုင်ခံ့တောင့်တင်းလှ၏။ လက်တွေ့အကျိုးကို ပေးနိုင်၏။ ယနေ့ ဘဝ၏ အထွတ်အထိပ်ရောက်နေသူ အားလုံးသည် ဤလုံ့လဝီရိယကို အခြေခံအားပြုပြီးမှသာ အထက်သို့တက်လှမ်းလာခဲ့သူချည်း ဖြစ်ကြ၏။

လုံ့လဝီရိယသည် ဤမျှ တန်ခိုးအင်အားကြီးလှ၏။

မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးကို ပြုစုရေးသားခဲ့သူ မန်လည်ဆရာတော်ကြီးသည် လုံ့လဝီရိယ၏ စွမ်းပကားကို ကောင်းစွာ သဘောပေါက် နားလည်ထားသူဖြစ်သည့်အလျောက် သူ၏ လင်္ကာသစ်ကြီးထဲတွင် လုံ့လဝီရိယ၏သဘောကို

နှိုက်နှိုက်ချွတ်ချွတ် လေ့လာတင်ပြထားပြီး လုံ့လဝီရိယကြောင့် မြင့်မားတိုးတက်ပုံများကိုလည်းကောင်း၊ လုံ့လဝီရိယနံ့နည်းအားပျော့သဖြင့် ဘဝတွင် အောက်တန်းကျလျက် ဆင်းရဲပင်ပန်းစွာ နေရပုံတို့ကိုလည်းကောင်း သမိုင်း၊ ရာဇဝင်၊ ဇာတက၊ နိပါတ်တော်များကို အထောက်အထားပြု၍ နှောင်းလူတို့အား ထုတ်ဖော်ညွှန်ပြ ဆုံးမခဲ့၏။

ထိုထိုသော လုံ့လဝီရိယဆိုင်ရာ လမ်းညွှန်မှုထဲမှ စာဖတ်သူများ ဖတ်ရှု၊ မှတ်သားနာယူနိုင်ကြစေရန် လမ်းညွှန်အချို့ကို အောက်တွင် စုစည်းဖော်ပြထားပါသည်။

ထိုလမ်းညွှန်ချက်များကို မှတ်သားနာယူခြင်းဖြင့်–

(၁) လုံ့လဝီရိယသည် အရာရာတွင် မရှိမဖြစ်အရေးကြီးကြောင်း၊

(၂) လုံ့လဝီရိယသည် ဉာဏ်ပညာဖြင့် တွဲပြီး အသုံးပြုလျှင် ပို၍ အင်အားကြီးကြောင်း၊

(၃) ဉာဏ်နှင့် မယှဉ်သော လုံ့လဝီရိယသည် မည်သည့်အကျိုးကိုမျှ မပေးစွမ်းနိုင်သည်သာမက တစ်ခါတစ်ရံ ဆိုးကျိုးကိုပါ ပေးတတ်ကြောင်း၊

(၄) မည်သို့ဖြစ်စေ လုံ့လဝီရိယကို ဘယ်အခါမှ မလျှော့အပ်ကြောင်း စသည့် အနှစ်သဘောကို သိရှိခံယူနိုင်ကြမည်ဟု ယုံကြည်ပါသည်။

## ၁။ စိတ်ရည်အဲခိုး ကြံကာကြိုး

သခ်ပုဏ္ဏား၊ မင်းသားဇနက်၊ ပင်လယ်လျက်ကို၊ လက်ပစ်ယက်ကူး၊ တထူးထို့ပြင်၊ ရှဥ့်ငယ်စဥ်လျက်၊ နစ်ကျင်သားငယ်၊ ရေပင်လယ်ကို၊ ကျယ်၏မမှတ်၊ မြီးဖျားဆွတ်၍၊ မချွတ်ခုသည်၊ ခမ်းစိမ့်မည်ဟု၊ စိတ်ရည်အဲခိုး၊ ကြံကာကြိုး၏၊ မြတ်မျိုးခလေ့၊ ပြကတေ့ဖြင့်၊ မရွေ့စမြဲ၊ ဆောက်တည်ကဲလျက်၊ ဝမ်းထဲသိုထား၊ သိတရားကြောင့်၊ တစ်ပါးပုဂ္ဂိုလ်၊ ဟောမဆိုလည်း၊ ကိုယ့်ကိုယ်ကိုလျှင်၊ ကိုယ်သွန်သင်၍၊ သက်ရှင်ရုံမျှ၊ မဟူရအောင်၊ ကာယချင်းရာ၊ ဆင်ခြင်ကာလျှင်၊ ပညာနှိုက်နဲ့၊ စက်နှယ်ခွဲ၏။ (၁၆၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ပင်လယ်ထဲ၌ ခရီးသွားရင်း သင်္ဘောပျက်၍ သခ်ပုဏ္ဏား၊ ဇနကမင်းသားတို့သည် မလျှော့သော ခွဲလုံ့လဖြင့် အပြောကျယ်လှသည့် ပင်လယ်ရေပြင်ထက်တွင် ကမ်းစပ်ကိုရည်၍ လက်ပစ်ကူးကြ၏။ ထို့အတူ ရှဥ့်မကြီးသည် ရေထဲနစ်သွားသည့် သားငယ်ကို ဆယ်ယူရန် ပင်လယ်ရေကိုအမြီးဖျားနှင့်ဆွတ်၍ ပက်လေသည်။ သူတို့သည် ကိုယ့်ကိုယ်ကို အားကိုးသော အသိတရားကြောင့် လုံ့လပညာတို့ကို အရင်းခံကာ ကြိုးစားအားထုတ်ကြ၏။

## ၂။ အားထုတ်လွန်က ပြန့်တတ်စွ

အားထုတ်လွန်က၊ ပြန့်တတ်စွရှင့်၊ ဝီရိယဆိုး၊ ညကိုနိုးမူ၊ သူခိုးဖြစ်တတ်၊ ဟူတံ့လတ်၏၊ မပြတ်စိတ်က၊ သတိမလော့။ (၁၉၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ကြိုးစားအားထုတ်မှုဟူသည် အရာခပ်သိမ်းကို ပြီးစေနိုင်သည်ဆိုသော်လည်း အတိုင်းအဆ အကန့်အသတ်ရှိရ၏။ ဝီရိယလွန်ကဲပါက ညဘက်တွင် မအိပ်နိုင်ဘဲ နိုးနေသဖြင့် မကောင်းသော စိတ်အကြံများဝင်လာကာ သူခိုးဖြစ်တတ်၏။ ထို့ကြောင့် လုံ့လဝီရိယကို သတိကပ်၍ အသုံးချပါလော့။

## ၃။ မချွတ်မှန်လှ ဉာဏ်လုံ့လဖြင့်

မချွတ်မှန်လှ၊ ဉာဏ်လုံ့လဖြင့်၊ သိကြားနှုတ်ထွက်၊ ဟူတုံလျက်လည်း၊ တိမ်းပျက်သွေယွင်း၊ ချွတ်ရလျှင်းခဲ့၊ လူချင်းမဟူ၊ နတ်ကိုမျှလည်း၊ ဖမ်းယူမလွတ်၊ လုံ့ဖြင့်သတ်၏။ (၂၀၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ဉာဏ်နှင့် လုံ့လဝီရိယတို့သည် အားကိုးလောက်သော လက်နက်များဖြစ်ကုန်၏။ စူဠကလိင်္ဂဇာတ်အရ သိကြားမင်းကသာလျှင် စစ်ရှုံးမည်ဟု နှုတ်ထွက် မိန့်မြွက်ထားသော်လည်း ဉာဏ်၊ လုံ့လတို့ကို အရင်းတည်ကာ ရှုပ်ရှုပ်ချွံချွံ ပြန်လည်တိုက်ခိုက်သဖြင့် လူထက် တန်ခိုးကြီးသောနတ်ကိုပင် ဖမ်းယူ၍ သတ်နိုင်ကြ၏။ ဉာဏ်နှင့် ဝီရိယကား သိကြားမင်း၏ နှုတ်ထွက်စကားကိုပင် လွဲမှားပျက်ယွင်းအောင် ပြုနိုင်ပါပေ၏။

## ၄။ လုံ့လအားသန် တစ်ထောင်ခံက

မိမိဌာန၊ ဝိသယဥ္စ၊ လုံ့လအားသန်၊ တစ်ထောင်ခံက၊ အရံတစ်သောင်း၊ အောင်ခဲကောင်းဟု၊ သူကောင်းရှေးက၊ မိန့်ကြစကား၊ အစဉ်ကြား၏။ (၂၀၅)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိတို့၏အားသည် မိမိတို့အတွင်း၌သာ တည်ရှိနေ၏။ အရေအတွက်များခြင်း၊ နည်းခြင်းသည် ပဓာနမဟုတ်။ ထက်သန် အားကောင်းသော လုံ့လဝီရိယသာလျှင် အဓိကဖြစ်၏။ မိမိတို့၏ အတွင်းစစ်သည် အင်အားသည် တစ်ထောင်မျှသာ ရှိစေကာမူ အပြင်မှ ဝန်းရံလာသော အင်အားတစ်သောင်းကို အလေးပြုရန် မလိုချေ။ ဝီရိယစွဲသန်သန်ဖြင့် တွန်းလှန်ချေမှုန်းမည်ဆိုပါက တစ်သောင်းသော ဗိုလ်ခြေတို့သည် ညက်ညက်ကြေသွားကြမည်သာ ဖြစ်၏။ ဤသို့လျှင် ပညာရှိသူကောင်းတို့သည် အစဉ်အဆက် ဆိုခဲ့ကြကုန်၏။

## ၅။ ကြိုးစွာလုံ့လ ဝါယာမ

လောကထုံးစံ၊ လောကခံကား၊ မကြံလည်းဖြစ်၊ ကြံလည်းနစ်၏၊ စင်စစ်မှတ်သား၊ မယုံကြားနှင့်၊ ယောကျ်ားတကာ၊ အားထုတ်ရာသည့်၊ ကြိုးစွာလုံ့လ၊ ဝါယာမမှု၊ မချကောင်းစေ၊ မလွတ်စေနှင့်၊ (၂၁၂)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် လောကဓံတရားရှစ်ပါး၏ မင်းမူခြယ်လှယ်မှုကြောင့် မိမိသဘော အတိုင်း ဖြစ်လာသည်ကား မရှိချေ။ မကြံစည်ဘဲ ဖြစ်လာတတ်သကဲ့သို့ ကြံစည်အားထုတ် ပါလျက်လည်း မဖြစ်ဘဲ နစ်မွန်းပျက်စီးသွားတတ်၏။ ကေန်ဖြစ်ရမည်ဟု မမှတ်ယူသင့် ပေ။ ကြိုးစားအားထုတ်ခြင်း၊ လုံ့လသာလျှင် အားထားရာရှိသဖြင့် လုံ့လဝီရိယကို ဘယ်သောအခါမှ မခွဲမခွာ မလွှတ်သွားအောင် ထိန်းသိမ်းထားပါလော့။

## ၆။ လုံ့လမမူ နတ်မကူ

ဤလောက၌၊ လုံ့လမမူ၊ နတ်မကူဘူး၊ လူလည်းလုံ့လ၊ နတ်လည်းမ၏၊ (၂၁၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလောက၌ လုံ့လဝီရိယမစိုက်ထုတ်ဘဲ ရနိုင် ဖြစ်နိုင်သည့်အရာကား မရှိချေ။ မိမိဘုန်းကံအစွမ်းကြောင့် ရနိုင်သောအရာသည်ပင် မိမိကိုယ်တိုင် လုံ့လမထုတ်သော ကြောင့် နတ်များပင် မ,စနိုင်ခြင်းမရှိချေ။ လူက ကြိုးစားအားထုတ်မှသာလျှင် နတ်များက လည်း ကူညီစောင်မမည် ဖြစ်၏။

## ၇။ သိဟကျင့်သုံး ခြသေ့်ထုံး

ကေသရာမျိုး၊ တောလုံးစိုးတို့၊ လွှမ်းမိုးခုန်လွှား၊ တဟုန်အားဖြင့်၊ ပေါက်သား ဆင်ပြောင်၊ ယုန်ငယ်ကောင်ဟု၊ မရှောင်ကြိုးပမ်း၊ အားကုန်ဖမ်းသို့၊ ကိုယ်အမ်းချချ၊ ရေးကိစ္စ၌၊ သိဟကျင့်သုံး၊ ခြသေ့်ထုံးကို၊ နှလုံးသွင်းကာ၊ အားထုတ်ရာ၏။ (၂၁၃)

## ဆိုလိုရင်း အဓိပ္ပာယ်

တောသုံးထောင်ကို အစိုးရသော ကေသရာဇာ ခြသေ့်မင်းသည် အစာအလို့ငှာ သတ္တဝါများကို ဖမ်းဆီးရာ၌ ယုန်ငယ်ကလေးတစ်ကောင်ပင် ဖြစ်သော်လည်း ပမာမပြုဘဲ အထူးဂရုစိုက်ကာ ရှိသမျှအင်အား အကုန်ထုတ်၍ ဖမ်းဆီးသတ်ဖြတ်လေ့ရှိ၏။ ဤသည် မှာ ကေသရာဇာခြသေ့်တို့၏ ကျင့်ထုံးဓလေ့ပင် ဖြစ်၏။ ထိုခြသေ့်ကျင့်ထုံးကို နှလုံးသွင်း မှတ်ယူ၍ အရေးကိစ္စ ကြုံလာသောအခါ ကြိုးပမ်းအားထုတ်ရာ၏။

## ၈။ လုံ့လဘယ်ခါ မချရာ

ပညာမျက်စိ၊ သတိကိုယ်ရံ၊ မြဲနိယံဖြင့်၊ အကြံမချ၊ လုံ့လဘယ်ခါ၊ မချရာဘူး၊ ကြီးစွာခွန်အား၊ ကိုယ်ကားတောင့်နယ်၊ အစွယ်ငင်းငင်း၊ မာန်ပြင်းမုန်ဝေ၊ တောနေ ပေါက်ထီး၊ မာတင်ကြီးလျက်၊ ချည်းနီးချို့တဲ့၊ ဉာဏ်မဟဲ့ကြောင့်၊ ခေါင်းမဲ့တုံးတုံး၊ ပုစွန်လုံးမှ၊ ရှုံးခဲ့ညွန်တွင်း၊ နစ်သေလျှင်း၏။ (၂၁၃)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကရှိ လူသားဟူသမျှသည် လုံ့လဝီရိယကို ဘယ်အခါမျှမချဘဲ ပညာ၊ သတိတို့ မြဲစေကာ ကြိုးစားအားထုတ်ရာ၏။ ဥပမာသော်ကား ခွန်အားဗလ ကြီးမားလှသော ဆင်ပြောင်ကြီးသည် ဉာဏ်မရှိသောကြောင့် သေးငယ်သော ပုစွန်လုံးကလေး တစ်ကောင်ကိုပင် ရှုံးကာ ရွှံ့ညွန်ထဲ၌ သေခဲ့ရဖူး၏။

## ၉။ ကြိုးကမြွေဖြစ် လည်ရစ်ဖွဲ့ထွေ

ကြမ္မာမကောင်း၊ လူအပေါင်းကား၊ အကြောင်းမလှ၊ အားထုတ်ကြတိုင်း၊ ရှေးက ဘေးကြီး၊ ပက်ပါဆီး၍၊ ပျက်စီးဖို့သာ တွေ့တတ်စွာခဲ့၊ ကြမ္မာဝဋ်ဆိုး၊ မကောင်းကျိုးဖြင့်၊ ကြိုးကမြွေဖြစ်၊ လည်ရစ်ဖွဲ့ထွေ၊ လိုလိုသေ၏။ (၂၃၁)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိ၏အကြံအစည် ပြီးမြောက်ရန်အတွက် မည်မျှပင် ကြံစည်အားထုတ်ပါသော်လည်း ကံမကောင်းသူများအဖို့ကား ရှေ့က ဘေးအန္တရာယ်များ ကာဆီးခြင်းခံရကာ ပျက်စီးတတ်ကြ၏။ မိမိ၏ကံကုသိုလ်မကောင်း၍ ဝဋ်ကြွေးကြမ္မာရှိခဲ့လျှင် ထိုသူအား ကြိုးက မြွေဖြစ်ပြီး လည်ပင်းတွင်ရစ်ကာ အလိုလိုနေရင်း သေရ၏။

## ၁၀။ သစ္စံ ဓမ္မ ဝိရိယနှင့်

သစ္စံ ဓမ္မ၊ ဝိရိယနှင့်၊ စာဂဟူသည်၊ ရန်သူအောင်ကြောင်း၊ ကျင့်ကောင်းလေးပါး၊ တရားမလစ်၊ မင်းမှုရစ်လော့၊ (၂၂၂)

## ဆိုလိုရင်း အဓိပ္ပာယ်

မှန်ကန်ခြင်း၊ တရားနှင့်အညီကျင့်ခြင်း၊ ကြိုးစားအားထုတ်ခြင်းနှင့် စွန့်ကြဲပေးကမ်းခြင်းဟူသော အကျင့်ကောင်းလေးပါးသည် ရန်အောင်ကြောင်း တရားများဖြစ်၏။ ထိုတရားများကို မလစ်ဟင်းအောင် သတိပြု စောင့်ထိန်းပါလော့။

## ၁၁။ ကံဖျင်းလူမိုက် ကံမလိုက်က

ကံဖျင်းလူမိုက်၊ ကံမလိုက်က၊ တစ်ခိုက်မဟုတ်၊ အားထုတ်ရာရာ၊ လုပ်ပါသမျှ၊ ထိခိုက်ရ၍၊ ဓာတ်ကလည်းခိုက်၊ နတ်အတိုက်နှင့်၊ အကြိုက်သင့်ကြုံ၊ ကျားနှင့်ဆုံသို့၊ မှတ်ကျုံ့မုချ၊ သိထိုက်စွ၏၊ (၂၄၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ကံဖျင်းကံညံ့သော လူမိုက်တို့သည် တစ်ကြိမ်တစ်ခါသာမဟုတ်၊ ကြိုးစားအားထုတ်မှုတိုင်းမှာပင် ထိခိုက်ကျဆုံးမှုများနှင့် တွေ့ကြုံကြရ၏။ ကံမကောင်းခြင်းကို

အကြောင်းပြု၍ အတွင်းဓာတ်လည်းခိုက်၊ နတ်ကလည်းတိုက်နှင့် ကြုံရပြန်သဖြင့် ထိုလူမိုက်သည် တောထဲ၌ ကျားနှင့်တွေ့ဆုံလိုက်ရသူကဲ့သို့ ဒုက္ခရောက်ရလေတော့၏။

## ၁၂။ ကမ္မဝီရိယ မယုံကြဘူး

အန္ဓဗာလ၊ လူထိုမျှတို့၊ ကမ္မဝီရိယ၊ မယုံကြဘူး၊ သိဝမဟေ၊ ပရမေသွရာ၊ ဗြဟ္မာဗိဿနိုး၊ ကမ္ဘာစိုးနှင့်၊ တန်ခိုးကြီးမား၊ နတ်ဘုရားတို့၊ ပေးစားဖန်ဆင်း၊ ဖြစ်တုံလျှင်းဟု၊ ချွတ်ယွင်းသမှု၊ အမှားရှုသည်။ (၂၄၅)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်တို့သည် ကံနှင့် ဝီရိယကို မယုံကြည်ကြချေ။ ကံနှင့် ဝီရိယအစား သိဝ၊ မဟေ ဿရ၊ ပရမေသွာ၊ ဗြဟ္မာ၊ ဗိဿနိုး စသည့်နတ်များကိုသာ ယုံကြည် အားကိုးကြ၏။ ထိုသူတို့သည် မိမိတို့ ကြုံဆုံနေရသမျှသည် ထိုပုဂ္ဂိုလ်များက ဖန်ဆင်း၍ ဖြစ်လာကြသည်ဟု မှားယွင်းစွာ ယုံကြည်ကြ၏။

## ၁၃။ ကံကိုချည်းသာ မကိုးရာ

လုံ့လမထူ၊ ဉာဏ်မကူဘဲ၊ အယူတစ်ချောင်း၊ ကံတစ်ကြောင်းမျှ၊ မကောင်းလည်းကံ၊ ကောင်းလည်းကံဟု၊ ကံကိုချည်းသာ၊ မကိုးရာဘူး၊ (၂၄၅)

## ဆိုလိုရင်း အဓိပ္ပာယ်

လူအချို့သည် ကံကိုချည်းသာ အားကိုးလွန်းကြသည်။ မကောင်းကျိုး၊ ကောင်းကျိုး မှန်သမျှသည် ကံကြောင့်ဖြစ်ရသည်ဟု ယုံကြည်ကြသည်။ မိမိတို့၏ လုံ့လဝီရိယနှင့် ဉာဏ်ပညာကို အားကိုးရမှန်း မသိသဖြင့် မည်သည့်အလုပ်ကိုမျှ လုံ့လဝီရိယ၊ ပညာဉာဏ်တို့ကို အရင်းခံကာ မပြုကြချေ။

## ၁၄။ မလုံ့မလ နတ်မ,မဘူး

ကံမွဲကံနုံ့၊ မလုံ့မလ၊ နတ်မ,မဘူး၊ အလသမျိုး၊ အကျိုးယွင်းယို၊ အလိုရောရည်း၊ မကျော့ကျည်းနှင့်၊ ကိုယ်လည်းလုံ့လ၊ နတ်လည်းမ၍၊ တောင့်တကြံရာ၊ မြန်မကြာလျှင်၊ လွယ်ကာကိစ္စ၊ ပြီးနိုင်ကြ၏၊ (၂၄၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအကြောင်းရင်း ကံကလည်းမရှိ၊ ရှိလျှင်လည်းနည်းပါးလှသည့်အထဲတွင် ထကြွနိုးကြားခြင်း မရှိပြန်ရာ ထိုသူအား မည်သည့်နတ်မျှ မ,စကြမည်မဟုတ်ချေ။ အလိုဆန္ဒအားလျော့ကာ ပျင်းရိခြင်းမရှိဘဲ ကြိုးစားပါလော့။ ဤသို့အားထုတ်ကြိုးစားသူ အားသာလျှင် နတ်များက မ,စကြည့်ရှုကြပြီး မိမိဖြစ်လိုရာကိစ္စသည်လည်း လွယ်ကူလျင်မြန်စွာ ပြီးမြောက်စေနိုင်ပါ၏။

ပဉ္စမြားမောက်စာပေ

## ၁၅။ လုံ့လဆော်နှိုး အားထုတ်ကြိုးလော့

ရွှေစက်ဝိရိယ၊ ဥဿာဟဖြင့်၊ ယောကျ်ားသတ္တိ၊ စွမ်းအင်ရှိတိုင်း၊ အိအိလိုက်တိုး၊ တံပိုးပစ်ကြဲ၊ ခေါင်းမွဲခေါင်းဖြူ၊ သဲသဲဦးလျက်၊ သည်းအူပြောင်းပြန်၊ မှောက်လှန်လိမ့်လက်၊ လှိုင်းဂယက်၌၊ ခုနစ်ရက်လုံး၊ မဆုံးနေ့ည၊ လက်မချဘဲ၊ လုံ့လဆော်နှိုး၊ အားထုတ်ကြိုး၍၊ မိုးကဆင်းလာ၊ မေခလာလျှင်၊ ရေမှာဆယ်လျှင်း၊ မ,စခြင်းကြောင့်၊ ဘမင်းရိုက်ရာ၊ မိထိလာကို၊ စိုးကာပိုင်သ၊ နန်းထိုင်ရ၏၊ (၂၄၅)

### ဆိုလိုရင်း အဓိပ္ပာယ်

အလောင်းတော် မဟာဇနကမင်းသားသည် သင်္ဘောပျက်၍ လှိုင်းတံပိုး ဝဲဂယက်များကြားတွင် ဝီရိယနှင့်ယှဉ်သော ယောကျ်ားတို့၏ သတ္တိဖြင့် ခုနစ်ရက်လုံးလုံး အားမလျှော့ဘဲ ကူးခတ်၏။ ထို့ကြောင့် မဏိမေခလာ နတ်သမီးသည် မင်းသားအား ရေပြင်မှ ကယ်ဆယ်ထုတ်ယူကာ အသက်ရှင်စေ၏။ ဤသို့ဖြင့် ဇနကမင်းသားသည် သူ့ခမည်းတော်၏ အရိုက်အရာ မိထိလာထီးနန်းကို ရယူစိုးပိုင်နိုင်ခဲ့၏။

## ၁၆။ အားသစ်၍သာ ပြုအပ်စွာ

လောကထုံးစံ၊ လောကဓံကား၊ မကြံလည်းဖြစ်၊ ကြံမဖြစ်ဘူး၊ အားသစ်၍သာ၊ ပြုအပ်စွာကို၊ ဝါယာမချ၊ ပြုအပ်လှ၏။ (၂၄၅)

### ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောက၌ လူတိုင်းကြုံတွေ့ရစမြဲဖြစ်သော လောကဓံတရားတို့သည် ရှိကြကုန်၏။ ထိုလောကဓံတရားတို့ကြောင့် လူတို့သည် မကြံမစည်ဘဲလျက် ဖြစ်လာတတ်သလို ကြံစည်အားထုတ်သော်လည်း ဖြစ်မလာဘဲ ရှိတတ်၏။ မည်သို့ပင်ဖြစ်စေ မိမိ၏ ကိုယ်ပိုင်ပစ္စည်းဖြစ်သော လုံ့လဝီရိယကိုကား မလျှော့ဘဲ ဆက်၍သာ ကြိုးစားသင့်ကြ၏။

## ၁၇။ ဘုရားသော်မှ ကယ်မရ

မကြိုးမကုတ်၊ အားမထုတ်မူ၊ လုံ့မလုံ့လ၊ နတ်မမတည့်၊ ပယောဂစက်၊ ပျက်သည့်သူအား၊ လူကိုထား၍၊ ဘုရားသော်မှ၊ ကယ်မရဘူး၊ (၂၄၉)

### ဆိုလိုရင်း အဓိပ္ပာယ်

မည်သည့်အရေးကိစ္စကိုမဆို ကြိုးစားအားထုတ်ပြီး ပြုလုပ်ရာ၏။ အားထုတ်ခြင်းမရှိလျှင် မိမိအား ကူညီမ,စလိုသော နတ်များစွာပင် မစကူညီနိုင်ကြမည် မဟုတ်ချေ။ ဝီရိယတည်းဟူသော စက်ပျက်သောသူအား လူပုဂ္ဂိုလ်များကိုထား၍ မြတ်စွာဘုရားသည်ပင် ကယ်မ,နိုင်မည်မဟုတ်ပေ။

## ၁၈။ လုံ့လ၍သာ တည်စေရာ

သူတော့်ဥစ္စာ၊ မြဲမြံစွာလော့၊ ရံခါဘယ်မျှ၊ မချရဘူး၊ လုံ့လ၍သာ၊ တည်စေရာ၏၊ သဒ္ဓါသီလ၊ လှူစာဂဟု၊ ရှေးကကောင်းမှု၊ တစ်ဦးပြုသည့်၊ ကုသိုလ်အကျိုး၊ ဘုန်းကံမျိုးကား၊ ခိုး၍မရ၊ မှန်တုံ့စွရှင့်၊ (၂၆၄)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတော်ကောင်းဥစ္စာ ခုနစ်ပါးနှင့် ပြည့်စုံစေရာ၏။ ထိုတရားများကို ဆည်းပူးရာ၌ လုံ့လဝီရိယကိုသာ အရင်းတည်၍ အားထုတ်ပါလော့။ လူတစ်ဦးတစ်ယောက်၏ ရှေးအတိတ်က ပြုခဲ့သည့် သဒ္ဓါ၊ သီလ၊ စာဂစသော သူတော်ကောင်းတရားတို့၏ အကျိုးပေးမှုကိုကား မိမိကိုယ်တိုင် ခံစားရမြဲ ဖြစ်၏။ မည်သူတစ်ဦးတစ်ယောက်မျှ လည်း ခိုးယူခံစား၍ မရနိုင်ချေ။

## ၁၉။ ဘယ်ခါမချ ကြိုးလုံ့လလော့

ပညာနှိုင်းညှိ၊ ဆင်ခြင်သိလျက်၊ သတိမလျှော့၊ မမေ့လျော့နှင့်၊ သူတော့်ဥစ္စာ၊ ကျင့်သမ္မာကို၊ ဘယ်ခါမချ၊ ကြိုးလုံ့လလော့။ (၂၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာဖြင့် အရာရာကို ဆင်ခြင်စဉ်းစားလျက် သတိကို လက်ကိုင်ပြုကာ မမေ့မလျော့ မပေါ့ဆဘဲ နေရာ၏။ ထို့အတူ ဖြောင့်မတ်မှန်ကန်သော သူတော်ကောင်းဥစ္စာ ခုနစ်ပါးကိုလည်း ကြိုးစားပြီး ဖြည့်ကျင့်ကြပါလော့။

## ၂၀။ ကြက်ယက်မြေကြီး ချွေးချောင်းစီး

လူပျင်းလုံ့လ၊ တစ်ခဏမျှ၊ ရှရှရိုးရိုး၊ အားမကြိုးဘဲ၊ မကျိုးမနွံ၊ မခံပင်ပန်း၊ လုပ်ဆန်းမြောင်းမြေ၊ လုပ်ငန်းပြေရုံ၊ အနေမကျ၊ ပြုကာမျှတည့်၊ ကိစ္စမပြီး၊ လုပ်ချည်းနှီးနှင့်၊ ဖျင်းသီးဖျင်းသုန်၊ အကြံကုန်က၊ ဂဠုန်ဆားချက်၊ သက်မွေးခက်၍၊ ကြက်ယက်မြေကြီး၊ ချွေးချောင်းစီး၏။ (၂၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူပျင်းတို့၏ ကြိုးစားအားထုတ်မှု လုံ့လသည် တစ်ခဏမျှသာ ဖြစ်၏။ အလုပ်ကို လေးစားမှုမရှိ၊ အပင်ပန်းမခံ၊ အပေါ်ယံဟန်မျှသာပြု၍ လုပ်တတ်ကြ၏။ လုပ်သာလုပ်သော်လည်း ကိစ္စကားမပြီးဘဲ အချည်းနှီးဖြစ်ရ၏။ ထိုမှတစ်ဖန် အလုပ်တစ်ခုကို အကြံကုန် ဂဠုန်ဆားချက်ဟူသကဲ့သို့ ပြောင်းပြီး လုပ်ပြန်သော်လည်း မဖြစ်မြောက်ဘဲ ရှိပြန်သဖြင့် ကြက်များ မြေကြီးကို ယက်သလို ချွေးချောင်းစီးအောင် လုပ်ရသော်လည်း ထမင်းမဝ၊ အခက်အခဲများနှင့် ကြုံတွေ့ရပြန်၏။ လူပျင်းတို့၏ အလုပ်ကား ဤသို့ပင် အကျိုးမဲ့ဖြစ်ရချေ၏။

## ၂၁။ ပျားနှင့် ယင်ကို မျက်မြင်ပုံထား

လောကဌ်လျှင်၊ ပျားနှင့်ယင်ကို၊ မျက်မြင်ပုံထား၊ မောင်ရှုစားလော့၊ ပျားကား အုံပြု၊ အရည်စု၍၊ ထားမှုလိမ္မာ၊ နောင်ချမ်းသာ၏၊ ယင်မှာသော်တုံ၊ ဝမ်းဝရုံမျှ၊ အုံကာ သောက်စား၊ စုမထား၍၊ ရှားငြားမပြတ်၊ မရငတ်၏၊ (၂၆၇)

### ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် ပျားနှင့် ယင်ကောင်တို့ကို ပုံစံနမူနာထား၍ ကြည့်ရှုလေ့လာ နိုင်ပါ၏။ ပျားသည် အုံဖွဲ့နေထိုင်ကာ ပန်းဝတ်ရည်တို့ကိုအတွင်း၌ စုဆောင်းထားတတ် ကြ၏။ ထိုသို့ အစာကို ရှာမှီးစုဆောင်းရာ၌ လိမ္မာသဖြင့် ချမ်းချမ်းသာသာနေကြရ၏။ ယင်ကောင်မှာကား ဤသို့မဟုတ်ချေ။ အစာကိုဝမ်းဝရုံမျှသာမက သောက်ပြီး အပိုအလျှံ တို့ကို စုမထား၊ အုံဖွဲ့ပြီးလည်းမနေဘဲ အစာကိုသာ ထာဝရ ရှာဖွေစားသောက်တတ် ကြ၏။ ထို့ကြောင့် အစာရှာမရသောအခါ ယင်တို့သည် ငတ်ပြီးသေကြရ၏။ လူတို့သည် ပျားနှင့် ယင်ကောင်တို့၏ စရိုက်သဘာဝကို နမူနာယူ၍ နေထိုင်သင့်ကြ၏။

## ၂၂။ လူတို့ လုံ့လ ပယောဂကား

ဉာဏ်ဝီရိယာ၊ သမ္မာမချို့၊ လူတို့လုံ့လ၊ ပယောဂကား၊ သိကြားနှုတ်ထွက်၊ မိုးကြိုးစက်လည်း၊ တိမ်းပျက်ယွင်းခွ၊ လွဲသွေရခဲ့၊ ရေးကကျမ်းလာ၊ ထင်ရှားစွာ၏။ (၂၈၁)

### ဆိုလိုရင်း အဓိပ္ပာယ်

အကျင့်စရိုက် ဖြောင့်မတ်ရည်မွန်သောလူတို့၏ ဉာဏ်ပညာ၊ လုံ့လဝီရိယတို့ကား လွန်စွာ စွမ်းအင်ကြီးမားကြကုန်၏။ မိုးကြိုးစက်ကဲ့သို့ ပြင်းထန်ထက်မြက်လှသော သိကြားမင်းကြီး၏ ကေန်ဖြစ်ရမည်ဟူသည့် နှုတ်ထွက်စကားကိုပင် လွဲချော် ပျက်ယွင်း သွားအောင် စွမ်းဆောင်နိုင်ကြောင်း ဘုရားဟော စူဠကလိင်္ဂသုတ်တွင် အထင်အရှား ပြဆိုထား၏။

## ၂၃။ ပညာဥစ္စာ ကြီးပွားရာ

လုံ့လနန့်နယ်၊ အကြံယယ်သော်၊ မကြွယ်မဝ၊ မကုံဘူး၊ ပုဗ္ဗပုည်၊ ကောင်းမှုကံ လျှင်၊ အခံရှိက၊ ရေးကမွထက်၊ လုံ့လပညာ၊ နှစ်ဖြာပင့်ထောက်၊ သမ္မာလျှောက်၍၊ မီးတောက်လေကူ၊ ဟူ၏ပမာ၊ များမကြာခင်၊ ပညာဥစ္စာ၊ ကြီးပွားရာ၏၊ (၂၉၂)

### ဆိုလိုရင်း အဓိပ္ပာယ်

မည်သည့်အလုပ်ကိစ္စကိုမဆို အားထုတ်ကြိုးစားမှု နည်းလျှင်သော်လည်းကောင်း၊ အကြံအစည်နည်းပါးနိမ့်ကျလျှင်သော်လည်းကောင်း မအောင်မြင် မပြီးမြောက်သည်က

များချေ၏။ လုံ့လဝီရိယနှင့် ဆန္ဒကို ပြင်းထန် မြင့်မားအောင် မွေးမြူထားရာ၏။ ရှေးက ပြုခဲ့သော ကောင်းမှုကံသည် ယခုဘဝတွင် အကျိုးပေးနိုင်သည်ဆိုသော်လည်း ထိုကံကို ယခုပြုသော မိမိ၏လုံ့လဝီရိယ၊ ဉာဏ်ပညာနှင့် ထပ်မံပေါင်းစပ်ပေးနိုင်မှသာ ထိုကံသည် မီးသည် လေ၏ ကူညီမှုကြောင့် တောက်လောင်လာရသကဲ့သို့ မိမိအတွက် ဥစ္စာပစ္စည်း၊ ပညာများကို ကြီးပွားတိုးတက်စေနိုင်ပါ၏။

## ၂၄။ ကိုယ်ထကိုယ်နိုး ကိုယ်အားကိုးမှ

ကိုယ်ပြုကိုယ်ကြွ၊ ကိုယ်လုံ့လ၍၊ ကိုယ်ထကိုယ်နိုး၊ ကိုယ်အားကိုးမှ၊ ကိုယ်ကျိုးကိုယ်သာ၊ ကိုယ်ပြီးရာ၏၊ ကိုယ့်တာကိုယ့်ဝန်၊ မလွန်စေထိုက်၊ ကိုယ်အားစိုက်ဟု၊ ဉာဏ်၌မျှော်ဆ၊ သဘောရလျက်၊ (၄၂၅)

## ဆိုလိုရင်း အစိပ္ပာယ်

ကိုယ်ကိုယ်တိုင် ထထကြွကြွ၊ နိုးနိုးကြားကြားနှင့် လုံ့လဝီရိယကို အရင်းစိုက်ကာ ကြိုးစားဆောင်ရွက်နိုင်မှသာလျှင် ကိုယ့်အကျိုး၊ ကိုယ့်ကိစ္စသည် ပြီးစီးအောင်မြင်နိုင်ရာ၏။ ထိုမိမိဆောင်ရွက်ရန်ရှိသည့် တာဝန်ဝတ္တရား၊ ကိစ္စအဝဝကို ပေါ့ပေါ့ဆဆမပြုဘဲ ကိုယ်တိုင် အင်အားစိုက်ထုတ်ပြီး ဉာဏ်အမြော်အမြင်ကြီးစွာဖြင့် လုပ်ဆောင်ပါလော့။

# ၁၄။ လူမိုက်

လူ့လောက၌ လူပေါင်းသန်းပေါင်းများစွာရှိသည့်အနက် အကျဉ်းဆုံး၊ အရှင်းဆုံး၊ အလွယ်ဆုံး ခွဲခြားပြောဆိုကြသောအခါ လူကောင်း လူလိမ္မာနှင့် လူယုတ် လူမိုက်ဟူ၍ နှစ်မျိုးနှစ်စားခွဲ၍ ပြောဆိုရေးသားလေ့ရှိကြ၏။ ပညာဟူသော ဝေါဟာရအနက်ကိုယူ၍ အမှားအမှန် ခွဲခြားတတ်သော ပညာရှိလျှင် ထိုသူကို လူကောင်း၊ လူလိမ္မာဟု ခေါ်ကြ၏။ အမှားအမှန် ခွဲခြားတတ်သော ပညာမရှိလျှင် ထိုသူကို လူယုတ်လူမိုက်ဟု ဆိုကြ၏။ လူအများကလည်း ဤသို့ မှတ်ယူပြီး ပြောဆိုနေကြ၏။

စင်စစ်သော်ကား လူကောင်း လူလိမ္မာနှင့် လူယုတ် လူမိုက်တို့၏ လက္ခဏာကား ဤမျှနှင့် မလုံလောက်သေးချေ။ ထိုထက်မက များပြားလှချေသေး၏။ ထိုထိုသော လက္ခဏာတို့ကို သိထားမှသာလျှင် ကျွန်ုပ်တို့သည် လူကောင်း လူလိမ္မာတို့ကို မင်္ဂလာ တရားတော်နှင့်အညီ ချီးမြှောက်ပူဇော်နိုင်ကြသလို လူယုတ်၊ လူမိုက်တို့ကို မပေါင်းမသင်း၊ အဖက်မလုပ်ဘဲ ဝေးစွာ ရှောင်ရှားနိုင်ကြမည်ဖြစ်၏။ ထို့ကြောင့် လူ့လောက၌ အသက် ရှင်နေထိုင်သူ ကျွန်ုပ်တို့အားလုံးသည် လူကောင်းလက္ခဏာ၊ လူမိုက်လက္ခဏာ၊ တစ်နည်း ဆိုရသော် ပညာရှိလက္ခဏာ၊ လူမိုက်လက္ခဏာများကို ခွဲခြမ်းစိတ်ဖြာ၍ သိရှိထားရန် လိုပါ၏။

အထူးသဖြင့်ဆိုရလျှင် ဤလောကရှိ ပညာရှိ၊ လူမိုက်ဟူ၍ နှစ်မျိုးနှစ်စားရှိရာ ပညာရှိသည် ကျွန်ုပ်တို့အား ကောင်းကျိုးကိုသာ ပေးတတ်သဖြင့် ပညာရှိအကြောင်း ဂဃနဏ မသိရှိနိုင်သော်လည်း လူမိုက်အကြောင်းကိုကား မသိမဖြစ် ကောန်သိရှိထားကြ ရန် လို၏။ အဘယ်ကြောင့်ဆိုသော် လူမိုက်သည် ကျွန်ုပ်တို့အား အချိန်မရွေး၊ နေရာ မရွေး ဒုက္ခအမျိုးမျိုးကို ပေးနိုင်သောကြောင့် ဖြစ်၏။ ထို့ကြောင့် အခြားသော ပုဂ္ဂိုလ်များ အကြောင်း မသိလျှင်ရှိစေ။ လူယုတ်၊ လူမိုက်အကြောင်းကို သိရှိနိုင်ရန် လိုအပ်၏။

ဤသဘော၊ ဤလိုအပ်ချက်ကို သိရှိနားလည်တော်မူသော မန်လည်ဆရာတော်ကြီးသည် သူ၏မဃဒေဝလင်္ကာသစ်ကြီးတွင် သူတော်ကောင်း၊ ပညာရှိ၊ လူလိမ္မာတို့၏ စရိုက်လက္ခဏာများကို ပြည့်စုံစွာ ဖော်ပြရေးသားထားသလို လူမိုက်၊ ပညာမဲ့၊ လူယုတ်မာတို့အကြောင်းကိုလည်း အသေးစိတ်ချယ်မှုန်းရေးဖွဲ့ထား၏။ ဇာတ်၊ နိပါတ်၊ အဋ္ဌကထာများပါ ဇာတ်လမ်းသာဓကများဖြင့် တင်ပြထားသဖြင့်လည်း ပညာရှိ၊ လူမိုက်တို့၏ အသွင်သဏ္ဌာန် လက္ခဏာများကို ကွက်ကွက်ကွင်းကွင်း မြင်နိုင်ပါ၏။

ဤအပိုင်းတွင် လူမိုက်၊ လူယုတ်တို့နှင့် ဆိုင်သော အဆိုအမိန့် လမ်းညွှန်အချို့ကို ကောက်နုတ်ဖော်ပြထား၏။ ဆရာတော်ကြီးသည် လူမိုက်တို့၏ အသွင်သဏ္ဌာန်၊ စကားအပြောအဆို၊ စိတ်နေစိတ်ထား၊ မျိုးရိုးဇာတိ၊ အလေ့အလာများကို တစ်စမကျန် ဖော်ကျူးထား၏။ ထိုထိုသော လူမိုက်တို့၏ အန္တရာယ်၊ ဖျက်ဆီးမှု၊ ဆိုးညစ်ယုတ်မာပုံများကို ထိတ်လန့်ဖွယ် ခံစားရပြီး လူမိုက်များနှင့် ဝေးစွာ ရှောင်ရှားနေထိုင်နိုင်ရန် ဆုံးမလမ်းညွှန်ထား၏။

ဤ 'လူမိုက်'အပိုင်းပါ လမ်းညွှန်နီတိများကို သေချာစွာ ဖတ်ရှုလေ့လာပြီး လူမိုက်အကြောင်းကို သိလာကာ လူမိုက် လူယုတ်များကို ထာဝရရှောင်ရှားနိုင်ပါစေဟု ဆန္ဒပြုလိုက်ရပါ၏။

## ၁။ လူမှာစာရင်း တစ်မသွင်းနှင့်

တရားလွတ်စကားတတ်၊ ပေါက်လွတ်နှုတ်လျှာ၊ ဆိုတတ်စွာသည့်၊ ပညာရှိသူမိုက်၊ စရိုက်ကျင့်ဆိုး၊ ထိုလူမျိုးကား၊ ပြစ်ကျိုးမသိ၊ ပြုမိပြုရာ၊ ပြုတတ်စွာ၏၊ လူမှာစာရင်း၊ တစ်မသွင်းနှင့်၊ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

စကားကိုတတ်တိုင်း တရားလက်လွတ်၊ ရောက်တတ်နှုတ်ဖွာ ပြောတတ်သည့် ပညာရှိလူမိုက်သည် အကျင့်စရိုက်ဆိုးညစ်ပြီး အကျိုးအကြောင်းမသိ၊ ပြုမိပြုရာ ပြုတတ်ကြ၏။ ထိုသို့သော သူမိုက်မျိုးကို လူကောင်းတစ်ယောက်အဖြစ် မှတ်ယူခြင်း မပြုရာချေ။

## ၂။ ဝက်မိုက်နှင့်တူသော လူမိုက်

ရှေးသောခါက၊ တောဇာပြင်းရှိန်၊ မာဂိန္ဒြ၊ သားများဘုရင်၊ မစားချင်၍၊ လမ်းတွင်တွေ့ငြား၊ ရှောင်ကာသွားသော်၊ ငါ့အားမဖောက်၊ ခြသေ့ကြောက်ဟု၊ မလောက်မလေး၊ မာန်ထောင်သွေးလျက်၊ သေဘေးမသိ၊ မိုက်မိမိုက်မဲ၊ အတင့်ရဲသည့်၊ ဝက်မွဲ၏နှယ်၊ ရန်မရှယ်ရှင့်၊ (၁၉၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအခါက တန်ခိုးကြီးလှသော သားရဲများ၏ဘုရင် ခြင်္သေ့ကြီးက မိမိအား လမ်းတွင် တွေ့သော်လည်း မစားချင်သဖြင့် ရှောင်ဖယ်သွားသည်ကို ထိုဝက်မိုက်က ကြောက်၍ ရှောင်သွားသည်ဟု မာန်ဟုန်ထကာ မိုက်မဲစွာ ယူဆလိုက်၏။ ထို့ကြောင့် ဝက်မိုက်သည် ခြင်္သေ့အနီးသို့ မထေမဲ့မြင်၊ ဂရုမစိုက်၊ အတင့်ရဲစွာ သွားသဖြင့် ခြင်္သေ့၏ လက်ချက်ဖြင့် သေရ၏။ မဆင်မခြင်ပြုသော ဝက်မိုက်ကဲ့သို့ အထင်တစ်လုံးနှင့် ရန်ပွား အောင် မပြုရာ။

## ၃။ နှိုင်းဆမရှိ မသိတတ်သူ ဗာလဟူ၏

ကာလဒေသ၊ ပုဂ္ဂလကို၊ နှိုင်းဆမရှိ၊ မသိတတ်သူ၊ သူမိုက်ဟူ၏၊ သိမှုပဏ္ဍိ၊ ပညာရှိရှင့်၊ သတိမဲ့စွာ၊ ပညာကင်းပ၊ လူ့ဗာလကား၊ ဒေါသတရား၊ မာနကြွား၏၊ (၁၉၅)

## ဆိုလိုရင်း အဓိပ္ပာယ်

အချိန်အခါ၊ နေရာ၊ ပုဂ္ဂိုလ်တို့ကို နှိုင်းနှိုင်းချိန်ချိန် မတွက်ဆ၊ မသိတတ်သူကို လူမိုက်ဟု ခေါ်၏။ အကယ်၍ တွက်ဆသိမြင်တတ်ပါမူ ပညာရှိဖြစ်၏။ ပညာကင်းမဲ့သော လူမိုက်သည် အခြေအနေမှန်ကို နားမလည်၊ ဒေါသတရားကိုထားကာ မာနထောင်လွှား၍သာ နေတတ်ကုန်၏။

## ၄။ သူမိုက်အလို အမြင်တို

မောဟအလိုက်၊ မာန်မုန်အိုက်လျက်၊ သူမိုက်အလို၊ အမြင်တိုရှင့်၊ ထိုသူမိုက်တို့၊ ပညာချို့၍၊ ကိုယ်ဖို့အလား၊ သူတစ်ပါး၌၊ သနားမစာ၊ မကြင်နာဘူး၊ ကြင်နာကင်းငြား၊ မထောက်ထားဘဲ၊ တရားမဲ့စွာ၊ ကိုယ်ကသာတိုင်း၊ မညှာမဆ၊ ပြုတတ်ကြ၏။ (၁၉၅)

## ဆိုလိုရင်း အဓိပ္ပာယ်

သူမိုက်ဟူသည် မောဟ၊ မာနတို့ ဖိစီး၍ အမြင်တို၏။ သူတစ်ပါးအပေါ် မကြင်နာတတ်၊ ဘာကိုမှ မထောက်ထားဘဲ တရားလက်လွတ် ပြုတတ်၏။

## ၅။ သူမိုက်မနော ကျင့်သဘော

ဗာလစရိုက်၊ လူ့ရွာ၌လျှင်၊ သူမိုက်မနော၊ ကျင့်သဘောကား၊ နိုင်သောသူများ၊ မမြစ်တားက၊ သနားမဲ့မူ၊ ကိုယ့်အောက်သူကို၊ ကလူနိုင်ထက်၊ နှိပ်စက်မပြတ်၊ ပြုကျင့် တတ်၏၊ (၁၉၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောက၌ လူမိုက်တို့၏သဘောမှာ အထက်လူက မတားမြစ်၊ မထိန်းချုပ်ထားလျှင် ကိုယ့်အောက်လူကို အနိုင်အထက် နှိပ်စက်တတ်ကြ၏။ သနားကြင်နာခြင်း မရှိချေ။ ထို့ကြောင့် ပညာမဲ့လူမိုက်ကို ရှောင်ရှားရာ၏။

## ၆။ ဖျက်ဆီးမှုသာ ပြုတတ်စွာ

သမ္မာကင်းကွာ၊ သူယုတ်မာကား၊ တောမှာကျီးငှက်၊ အိမ်မှာကြက်သို့၊ သူ့ပျက်သူ့လောင်၊ ပြည့်ငြောင့်ကောင်လည်း၊ မရှောင်လုယက်၊ နိုင်အထက်ဖြင့်၊ ပျက်ပျက်စီးစီး၊ အချည်းနှီးအောင်၊ ဖျက်ဆီးမှုသာ၊ ပြုတတ်စွာ၏၊ (၂၀၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ဖြောင့်မတ်မှန်ကန်မှုတရားမရှိသော သူယုတ်မာသည် တောထဲက ကျီးငှက်၊ အိမ်ကကြက်တို့ကဲ့သို့ ရှိသည့်နေရာကို ဒုက္ခပေးတတ်ကုန်၏။ လူမိုက်သည် နိုင်ငံ၏ ဆူးငြောင့်ခလုတ်နှင့်တူသော အဖျက်သမားဖြစ်ကြ၍ သူတို့သည် လူကောင်းသူကောင်းများကို နိုင်ထက်စီးနင်း လုယက်ဖျက်ဆီးတတ်ကြကုန်၏။

## ၇။ ခိုင်းသူအမိုက် ကဲ့ရဲ့ထိုက်

ပညာသမ္ဘဇဉ်၊ ဉာဏ်မယှဉ်ဘဲ၊ ဥယျာဉ်သည်မိုက်၊ စရိုက်မကောင်း၊ မျောက်အပေါင်းကို၊ ရေလောင်းခိုင်းငြား၊ ကျိုးပျက်ပြား၏၊ တရားအမြစ်၊ စစ်သော်တမူ၊ အရင်းယူက၊ ခိုင်းသူအမိုက်၊ ကဲ့ရဲ့ထိုက်၏၊ (၂၀၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာဉာဏ်ကို မယှဉ်ဘဲ သတိကင်းမဲ့စွာ ဥယျာဉ်မှူးသည် အကျင့်စရိုက် မကောင်းသော မျောက်အပေါင်းကို သစ်ပင်များ ရေလောင်းရန် ခိုင်းစေလိုက်ရာ ဥယျာဉ်တစ်ခုလုံး ပျက်စီးကုန်၏။ ဤသို့ဖြစ်ရခြင်း၏အကြောင်းကိုရှာသော် တရားခံအစစ်မှာ မျောက်မဟုတ်၊ ရေလောင်းခိုင်းသူ ဥယျာဉ်မှူးမိုက်သာလျှင် ဖြစ်၏။

## ၈။ ထွေပြားနှလုံး သူမိုက်ထုံး

ငှက်ပျောလက်ပံ၊ နှစ်မဆံသို့၊ နူတ်သံချိုပျား၊ စိတ်သံမြားနှင့်၊ ထွေပြားနှလုံး၊ သူမိုက်ထုံးကား၊ မသုံးသစ္စာ၊ ကျင့်တတ်စွာ၏၊ ရှေ့မှာတစ်သွယ်၊ ကျယ်သော်တစ်ဝ၊ တချို့ကမူ၊ စာရဝမ်းသာ၊ စေပါဝမ်းနည်း၊ ကျော့ကျည်းမှုနည်း၊ ကွေ့လည်ကောက်ကျစ်၊ ကျင့်ညစ်သဘော၊ ဖြောင့်မချောဘူး၊ (၂၀၉)

## ဆိုလိုရင်း အဓိပ္ပာယ်

ငှက်ပျောပင်၊ လက်ပံသားတို့ကဲ့သို့သော အနှစ်မရှိသည့် လူမိုက်တို့သည် နှုတ်ကချိုသာစွာ ပြောတတ်ပြီး အတွင်းစိတ်မှာမူ သံမြားပမာ မာကျောချွန်ထက်၍ နေ၏။ ထိုသူမိုက်သည် နှလုံးထားမကောင်းသဖြင့် မှန်ကန်မှုသစ္စာကိုမသုံးဘဲ ကျင့်တတ်ကြ၏။ ရေ့တစ်မျိုး လုပ်တတ်ကြ၏။ အချို့မှာမူ စားရလျှင် ဝမ်းသာပြီး လုပ်ရလျှင် ဝမ်းနည်းတတ်ကြ၏။ ထိုသူတို့သည် ကွေ့လည်ကောက်ကျစ်သော သဘောရှိကြသဖြင့် အတွင်းသဘောဖြောင့်စင်းချောမောခြင်း မရှိကြချေ။

## ၉။ မသိကျေးဇူး ထိမ်မြူးဖျောက်ချေ ကြက်သောက်ရေ

ရေမျောထင်းယောင်း၊ ဆယ်သော်ကောင်း၏၊ အကြောင်းမညာ၊ ပြုတတ်စွာသည့်၊ ပညာမဲ့ထ၊ လူ့ဗာလကို၊ မစကယ်မိ၊ အပြစ်ရှိခဲ့၊ မသိကျေးဇူး၊ ထိမ်မြူးဖျောက်ချေ၊ ကြက်သောက်ရေသို့၊ ပျောက်ကြေဆုံးဘိ၊ ကျိုးမရှိတည့်၊ (၂၀၉)

## ဆိုလိုရင်း အဓိပ္ပာယ်

ရေတွင် မျောလာသော ထင်းဟောင်းထင်းဆွေးများကို ဆယ်ယူခြင်းသည် ကောင်း၏။ သို့သော် ညာတာမှုမရှိဘဲ ပညာမဲ့သူ လူ့ဗာလအား ကယ်ဆယ်ထားခြင်းသည်ကား မကောင်းချေ။ အဘယ်ကြောင့်နည်းဟူမူကား ထိုသူတို့သည် သူတစ်ပါးကျေးဇူးကို မသိတတ်၊ ကြက်သောက်လိုက်သောရေသည် ဝမ်းထဲမှာပင် ပျောက်ကြေသွားသကဲ့သို့ သူ့ကျေးဇူးကို ထိမ်မြူးချေဖျက်တတ်သောကြောင့် ဖြစ်၏။

## ၁၀။ ဗာလဟူသည် အဟိတ်နွားသို့

ဗာလဟူသည်၊ လူပင်တမင့်၊ ဖြစ်လင့်ကစား၊ အဟိတ်နွားသို့၊ အသားသာမို့၊ ဉာဏ်တုံးချို့၏။ (၂၁၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်ဟူသည် လူပင်ဖြစ်သော်လည်း လူ့အရည်အချင်းများမရှိ၊ အဟိတ်တိရစ္ဆာန်နွားနှင့် တူလှ၏။ နွားသည် နေ့စဉ်နှင့်အမျှ အသားသာ မို့မောက်ကြီးထွားလာသော်လည်း အသိဉာဏ်ကား တုံးမြဲ ချို့တဲ့မြဲဖြစ်သကဲ့သို့ လူမိုက်သည်လည်း ထို့အတူပင် ဖြစ်ချေ၏။

## ၁၁။ ဗာလဟူသော လူ့ငှက်ပျော

အနှုန်းမသိ၊ ဆုံးမရှိဘဲ၊ ပြောမိပြောရာ၊ တဘွာဘွာနှင့်၊ ပညာခွေးမြီး၊ လူမိုက်ကြီးလည်း၊ မပြီးအကျိုး၊ လက်ရုံးမိုး၍၊ ကိုးယိုးကားယား၊ ထောင်လွှားမာန၊ ဝင့်တက်စွတည့်၊ သုတပညာ၊ နည်းပါထုံလျက်၊ ဝါစာနှုတ်ကောင်း၊ တထောင်းထောင်းနှင့်၊

ဒေါင်းမရှိက၊ ကျီးနက်လှသို့၊ ဗာလလူဝါ၊ ဉာဏ်မဲ့ရာဝယ်၊ ါသာပဏ္ဍိ၊ ပညာရှိဟု၊ မိုးရှိစိတ်က၊ မြင့်တတ်စွတည့်၊ ဗာလဟူသော၊ လူ့ငှက်ပျောကား၊ နှုတ်ပြောမျှသာ၊ နှစ်မပါဘူး၊ (၂၁၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာမဲ့သောလူမိုက်သည် ဆုံးစမရှိ ပြောမိပြောရာ ပြောတတ်ပြီး လက်ရုံးအားကိုးဖြင့် မာန်မာနတက်တတ်ကြ၏။ ပညာ ဗဟုသုတနည်းပါးပြီး စကားကိုတောင်လိုမောက်ကာ ဒေါင်းမရှိသောအရပ်၌ ကျီးက လူကဲလူစွာလုပ်သကဲ့သို့ သူမိုက်သည် ငါသာပညာရှိဟု မိုးမိမြင် လေမမြင် ထောင်လွှားတတ်၏။ စင်စစ်သော်ကား လူ့ဗာလသည် ငှက်ပျောပင်ကဲ့သို့ ပါးစပ်ကသာ ပြောတတ်ပြီး အနှစ်သာရမရှိချေ။

## ၁၂။ ပြည်ရွာမနီး ကြီးသည့်ကြက်လို

အသိပညာ၊ မဲ့တို့မှာကား၊ ပြည်ရွာမနီး၊ ကြီးသည့်ကြက်လို၊ နေ့ကိုညလျှင်၊ ပဟိုရ်မသိ၊ တွန်မိတွန်ရာ၊ တွန်တတ်စွာသို့၊ အခါအရာ၊ မလိမ္မာတည့်၊ ဆရာမသင်၊ မြင်းအသွင်သို့၊ တောတွင်ဆက်ပြေး၊ သမင်ပြေးနှင့်၊ ခွေးပြေးဝက်ပြေး၊ ပေါက်လွှတ်ပြေးလည်း၊ အရေးမလှ၊ သုံးမကျဘူး၊ (၂၁၇)

## ဆိုလိုရင်း အဓိပ္ပာယ်

အသိပညာမဲ့သော လူမိုက်တို့မှာ တော၌ကြီးသည့်ကြက်ပမာ အချိန်အခါမသိ၊ တွန်မိတွန်ရာ တွန်တတ်သလို အခြေအနေ အခါအခွင့်မသိ ပြုတတ်ကြ၏။ ဆရာမသင်ထားသော မြင်းကဲ့သို့ တောထဲတွင် အရမ်းမဲ့ ထင်ရာပြေးနေရာ သူ့ကိုလိုက်ပြီး သမင်၊ ခွေး၊ ဝက်တို့ပါ လိုက်၍ပြေးနေကြသဖြင့် တစ်တောလုံး ရှုပ်ထွေးဆူညံသွားသကဲ့သို့ ပညာမဲ့ လူမိုက်သည်လည်း ထင်ရာပြုမူတတ်သဖြင့် အရေးအကြောင်း ကြုံလာလျှင် အသုံးမကျ ဖြစ်ရ၏။

## ၁၃။ ပညာနုတ်သေး လူတဝေးတို့

ပညာနုတ်သေး၊ လူတဝေးတို့၊ အရေးမမြင်၊ အရေးထင်လျက်၊ ဆင်ခြင်မဟဲ့၊ ယုံတထွဲခဲ့၏၊ ယုန်ငယ်သဘော၊ မြေပြိုသောဟု၊ ပြောသံကြားရုံ၊ ယုံကြီးယုံ၍၊ လုံးစုံသားပေါင်း၊ ခြေလေးချောင်းတို့၊ သောင်းသောင်းကြွက်ညာ၊ ဉာဏ်မဲ့စွာဖြင့်၊ သမုဒ္ဒရာရေတွင်း၊ ပြေးဝင်ဆင်းခဲ့၊ (၂၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာနည်းပါးသော သူမိုက်တို့သည် ဆင်ခြင်ဉာဏ်ကင်းမဲ့သဖြင့် နေရာတကာတွင် ယုံလွယ်တတ်ကြ၏။ တစ်ခါက မြေကြီးပြိုပြီဟု ပြောသော ယုံငယ်၏စကားကို ယုံမိသဖြင့် တောတိရစ္ဆာန်အပေါင်းတို့သည် တစ်တောလုံး ကျွက်ကျွက်ညံအောင် ဉာဏ်ကင်းမဲ့

စွာ ပြေးလွှားကာ နောက်ဆုံး၌ ပင်လယ်သမုဒ္ဒရာထဲသို့ ဆင်းပြေးကြသဖြင့် ရေနစ်မွန်း ပြီး သေကြေပျက်စီးကြကုန်၏။ မဆင်ခြင် မစဉ်းစားဘဲ မပြုသင့်ကြချေ။

## ၁၄။ ပညာရှိ လူမိုက်

ပုဏ္ဏားအယောင်၊ သူမိုက်ခေါင်ကို၊ ကြဉ်ရှောင်ခွာကင်း၊ မပေါင်းသင်းနှင့်၊ ယင်းသည့်လူမျိုး၊ သန္တေဆိုးကား၊ တစိုးတစိ၊ ပညာရှိလည်း၊ အသိမလိုက်၊ မပေါင်း ထိုက်ဘူး၊ (၂၂၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ပုဏ္ဏားသူတော်ယောင် ဆောင်ထားသော လူမိုက်ကို မပေါင်းပါနှင့်။ ထိုသူမျိုး သည် ပညာရှိပင် ဖြစ်လင့်ကစား အတွင်းသန္တေစိတ် ဆိုးဝါးလှသဖြင့် လုံးဝအသိအမှတ် မပြု၊ မပေါင်းသင်းအပ်ပေ။

## ၁၅။ ငှက်ပျောပင်စိုက် မိလိုက်ဖလာ

သူမိုက်သူညစ်၊ မပေါင်းရစ်နှင့်၊ မစစ်မျိုးနွယ်၊ လူဝယ်ဖြစ်ဆန်း၊ လူ့ပေါက်ပန်း နှင့်၊ သဖန်းကျီးအာ၊ သီးပမာသို့၊ လူဝါနှုတ်ပြော၊ ပြင်သာချော၏၊ ငှက်ပျောပင်စိုက်၊ မိလိုက်ဖလာ၊ ဝေါဟာခေါ်ရိုး၊ မော်ကွန်းထိုးခဲ့၊ အမျိုးလိုက်တတ်၊ များ၏မှတ်လော့၊ (၂၂၃)

## ဆိုလိုရင်း အဓိပ္ပာယ်

မိုက်မဲညစ်ဆိုးသူများနှင့် မပေါင်းပါနှင့်။ ထိုသူတို့သည် မျိုးရိုးမကောင်းသဖြင့်၊ လူဖြစ်ရရုံ ပေါက်ပန်း၊ သဖန်းသီး၊ ကျီးအာသီးတို့ကဲ့သို့ အပြင်အပြောအဆိုသာ ကောင်းပြီး အတွင်းဆိုးဝါးလှ၏။ ငှက်ပျောပင်စိုက် မိလိုက်ဖလာဆိုသော လောကစကားနှင့်အညီ ထိုသူတို့သည် မျိုးရိုးလိုက်တတ်သဖြင့် မကောင်းသည်သာ များ၏။

## ၁၆။ နှုတ်သီးမစောင့် စိတ်မဖြောင့်

ကြက်လည်းမရောက်၊ ကျီးမဖြောက်သား၊ အောက်ကလိအာ၊ အောက်ကလိ အောက်၊ မနာစောက်အောင်၊ မိနောက်မကျ၊ ဖနောက်မမိ၊ မပိမပွန်၊ တွန်တကျယ်ကျယ်၊ ကြက်ကျီးငယ်သို့၊ တင့်တယ်မဲ့စွာ၊ ကေသရာနှင့်၊ သိင်္ဂါလီမွေး၊ ခွေးခြသေ့ငယ်၊ သားများ လယ်၌၊ ရယ်ဖွယ်ဟောက်ခြင်း၊ ဟသာမင်းနှင့် မကင်းကျီးမ၊ ပေါင်း၍ရသည့်၊ ဝိနိလမည်၊ ဂုဏ်ရည်မသိ၊ မျိုးဇာတိဖြင့်၊ အမိမသန့်၊ ဘုန်းကြန့်ယုတ်မာ၊ မိုက်မဲစွာသား၊ ပညာမကြီး၊ ဗန္ဓုတ်ကျီးသို့၊ နှုတ်သီးမစောင့်၊ စိတ်မဖြောင့်ဘူး၊ (၂၂၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ဘုန်းသမ္ဘာ ကြန်အင်လက္ခဏာမရှိသူ လူမိုက်သည် မြေခွေးမက မွေးသော ခွေးခြင်္သေ့ကဲ့သို့ သားကောင်တို့အလယ်၌ ဟောက်သောအခါ သားကောင်တို့၏ ရယ်မောလှောင်ပြောင်ခြင်းကို ခံရသလို လူများအလယ်၌ မတင့်တယ်ချေ။ မျိုးရိုးဇာတိ မသန့်သော လူမိုက်သည် ကြက်နှင့် ကျီးတို့ ပေါက်ဖွားလာသော ကြက်ကျီးငယ်လို နှုတ်သီးမစောင့်၊ ထင်ရာပြောဆိုတတ်ပြီး အတွင်းစိတ်သည်လည်း ဖြောင့်မတ်ခြင်းမရှိချေ။ ထိုလူမိုက်မျိုးကို ရှောင်ရှားရာ၏။

## ၁၇။ ဗာလကောင်းစား မရှည်လျားဘူး

ဝါးပေကျူပြင်၊ ငှက်ပျောပင်တို့၊ သီးလျှင်မုချ သေကုန်ကြသို့၊ ဗာလကောင်းစား၊ မရှည်လျားဘူး၊ ဘုန်းအားရုံးအား၊ ပစ္စည်းများလည်း၊ ဉာဏ်သားမရှိ၊ အကာတိနှင့်၊ သတိကင်းပ၊ ထိုဗာလတို့၊ ခဏမကြာ၊ ပျက်ဖို့သာရှင့်၊ (၂၂၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ဝါးပင်၊ ပေပင်၊ ကျူပြင်နှင့် ငှက်ပျောပင်တို့သည် အသီးသီးပြီးသောအခါ အမှန်မုချ သေကြေပျက်စီးရသကဲ့သို့ လူမိုက်တို့သည် ချမ်းသာစွာ နေကြရသော်လည်း ကြာကြာမခံစားရဘဲ မကြာခင်မှာပင် ပျက်စီးရချေ၏။ ထိုသူမိုက်သည် ဘုန်းလက်ရုံးကြီးမားပြီး ဥစ္စာဓနေ ပြည့်စုံပါသော်လည်း ဉာဏ်ပညာမရှိသဖြင့် ပျက်စီးဖို့ရန်သာဖြစ်၏။

## ၁၈။ ဉာဏ်နှင့်ဦးခေါင်း လွန်နည်းတောင်း၏

ဂုဏ်အနှစ်မဲ့၊ အကာပြဲ့သား၊ အကဲလုံးလုံး၊ ငှက်ပျောတုံးသို့၊ ပခုံးကြားရောက်၊ ဉကျောင်းပေါက်လည်း၊ ပေါက်သည့်ဉကျောင်း၊ မွေးဆောင်းဆောင်းဖြင့်၊ ဉကျောင်းချင်းမှူ၊ တူကုန်တမင့်၊ ဉာဏ်နှင့်ဉကျောင်း၊ လွန်နည်းတောင်း၏၊ (၂၂၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်တို့သည် ဂုဏ်အနှစ်သာရများ ကင်းမဲ့သဖြင့် ငှက်ပျောတုံးများနှင့် တူကုန်၏။ ပခုံးနှစ်ဖက်ကြားမှ ဦးခေါင်းပေါက်ကြသည့် လူအချင်းချင်းတွင် အမွေးဆောင်းဆောင်းသာရှိပြီး ပညာဉာဏ်မရှိကြချေ။ ဉာဏ်ပညာနှင့်ပြီးသည့် ဦးခေါင်းရှိသူကား ဤလောကတွင် အလွန်နည်းလှ၏။

## ၁၉။ ဗာလဘုန်းကြီး ကောက်ရိုးမီး

အကြင်လူများ၊ ယောကျာ်းမိန်းမ စသည့်ထိုထို၊ ပျက်စီးလိုက၊ အဆိုအသွား၊ အမှားမှားနှင့်၊ ဘုရားသော်မှ၊ ဟောမရဘူး၊ ဗာလဘုန်းကြီး၊ ကောက်ရိုးမီးသို့၊ အကျိုးမကျ၊ ဟုန်းဟုန်းထ၍၊ ခဏမျှသာ၊ ပျက်စီးရာ၏၊ (၂၂၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ယောက်ျား၊ မိန်းမတို့သည် ပျက်စီးရန် ကြုံလာလျှင် အမှောက်မှောက် အမှားမှား ပြုတတ်ကြ၏။ ထိုသို့မပြုရန် ဘုရားသော်မှ တားဆီး၍ မရနိုင်ချေ။ လူမိုက်များ ဘုန်းကြီးလျှင်လည်း ခေတ္တခဏသာ ဟုန်းဟုန်းတောက်ပြီး ငြိမ်းသေသွားသောမီးကဲ့သို့ နောက်ဆုံးတွင် ပျက်စီးရမြဲ ဖြစ်၏။

## ၂၀။ မချိုနားမှာ ခါးကြရှာ

လူတွင်လူမိုက်၊ လူဒုစရိုက်တို့၊ မတိုက်ချမ်းသာ၊ ကံမဲ့စွာကြောင့်၊ ဆရာမိဘ၊ ကျိုးကြောင်းပြ၍၊ ဆုံးမသည်ကို၊ မနာလိုဘူး၊ မချိုနားမှာ၊ ခါးကြရှာ၏။ (၂၃၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့တွင် မကောင်းသောစရိုက်ရှိသည့် လူမိုက်တို့သည် ရှိကြကုန်၏။ သူတို့ သည် ကြီးပွားချမ်းသာမှုနှင့် မထိုက်တန်အောင် ကံမဲ့သူများဖြစ်ကြ၍ ဆရာမိဘတို့၏ စကားကို နားမထောင်လိုကြချေ။ နားတွင်မချို ခါးနေတတ်ကြ၏။

## ၂၂။ ပညာနည်းပါး လူ့ငနွား

လူမည်ရုံမျှ၊ လူ့ရုပနှင့်၊ စားဝအိပ်ပျော်၊ သောက်မူးမော်၍၊ လူစော်နံကာ၊ လူဖြစ်လာလည်း၊ ပညာနည်းပါး၊ လူ့ငနွားတည့်၊ တရားမသိ၊ ကင်းမရှိက၊ တိရစ္ဆာန၊ သဘာဝသို့၊ ကိစ္စကျင့်မှု၊ အတူတူရှင့်၊ (၂၃၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့ရုပ်အသွင်နှင့် လူ့ဘဝကို ရလာပြီး စားရုံ၊ အိပ်ရုံ၊ သောက်စားမူးယစ်လျက်၊ အသိပညာနည်းပါးသော လူမိုက်သည် နွားနှင့်မခြားလှချေ။ ထိုသူမိုက်သည် အကျင့်တရားလည်းမကောင်း၊ အသိပညာလည်း မရှိသဖြင့် တိရစ္ဆာန်တစ်ကောင်ကဲ့သို့ ကျင့်နေသူသာဖြစ်၍ တိရစ္ဆာန်နှင့်အတူတူပင် ဖြစ်၏။

## ၂၃။ လူမိုက် ပညာရှိ

တွေဝေမိုက်လှ၊ သားဗာလကား၊ အဘထိပ်တက်၊ ကိုက်သည့်မှက်ကို၊ တစ်ချက်တည်းသာ၊ သေစိမ့်ငှာဟု၊ ထက်စွာကြီးမား၊ ပဲခွပ်သွားဖြင့်၊ ပေါက်ငြားတုံလေ၊ ဖခင်သေ၏၊ မသွေမှန်လှ၊ ဤသို့စကား၊ ဗာလပဏ္ဍိ၊ အထူးသိလော့၊ (၂၃၈)

## ဆိုလိုရင်း အဓိပ္ပာယ်

တွေဝေမိုက်မဲလှသော သားသည် ဖခင်၏ ထိပ်တွင် နားပြီးကိုက်နေသော မှက်ခြင်ကို တစ်ချက်တည်းဖြင့်သေအောင် ပဲခွပ်ဖြင့် အားကုန်ပေါက်လိုက်သဖြင့်

ဦးခေါင်းကွဲပြီး ဖခင်သေ၏။ ဤသို့ အချိန်အဆ၊ အမြော်အမြင်မရှိသူကို လူမိုက်ပညာရှိဟု အထူးမှတ်ယူပါလော့။

## ၂၄။ ကင်းဘိဉာဏ ထိုဗာလ

ကင်းဘိဉာဏ၊ ထိုဗာလတို့၊ အတ္တပရ၊ ဟိတတရား၊ ပိုင်းခြားနှစ်ဖော်၊ ရှုမမြော်ဘူး၊ သူတော်ယောင်ယောင်၊ ကြောင်သီတင်းသုံး၊ သူမိုက်ထုံးဖြင့်၊ နှလုံးညစ်ထည်း၊ စောင့်စည်းမရှိ၊ ပြုတတ်ဘိ၏။

## ဆိုလိုရင်း အဓိပ္ပာယ်

ဉာဏ်ပညာကင်းမဲ့သော လူမိုက်တို့သည် မိမိအကျိုး၊ သူတစ်ပါးအကျိုးကို မရှုမြော်မကြည့်ရှုတတ်ကြချေ။ သူတော်ယောင်ယောင်နှင့် မကောင်းမှုကို ပြုတတ်သော လူမိုက်တို့၏ ထုံးတမ်းစဉ်လာအတိုင်း စိတ်နှလုံးကို စောင်းစည်းမှုမရှိ ထင်ရာပြုတတ်၏။

## ၂၅။ ထိုမိစ္ဆာမျိုး ကျားထက်ဆိုး

သူမိုက်ဟူသည်၊ မီးတူစင်စစ်၊ ပျက်ကြောင်းဖြစ်၏၊ ကျိုးပြစ်နှစ်ကွဲ၊ မသိဘဲလျှင်၊ ငရဲမရှိ၊ ကံမရှိဟု၊ နတ္ထိကလူ၊ ဒိဋ္ဌိဟူသည့်၊ လူမသမ္မာ၊ သူမိစ္ဆာတို့၊ ဦးစွာအစ၊ ခယ ညွတ်စင်း၊ နှုတ်ချိုသွင်း၍၊ မတင်းမပြိုင်၊ အားမနိုင်ခင်၊ မနိုင်သည်းခံ၊ ခွေးထက်နွံ၏၊ တစ်ရံတစ်ခါ၊ ကိုယ်ကသာသော်၊ ထိုမိစ္ဆာမျိုး၊ ကျားထက်ဆိုးရှင့်၊ (၂၃၉)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်ဟူသည် မီးနှင့်တူသဖြင့် ပျက်စီးကြောင်း ဖြစ်၏။ အကျိုးအပြစ်မသိ၊ ကံမရှိ၊ ငရဲမရှိဟု ကံယူသည့်ဒိဋ္ဌိဖြစ်၏။ ကိုယ်က သူတစ်ပါးအား မနိုင်သေးခင်မှာ ခွေးလိုအောက်ကျို့ခံ၍ နိုင်သောအခါ ကျားထက်ပင် ဆိုးဝါးချေ၏။

## ၂၆။ သူမိုက်ကိုပင် မမြင်ရလို

ပညာရှိရှင်၊ သူမိုက်သွင်ကို၊ မမြင်ရထိုက်၊ သူမိုက်စကား၊ မကြားစလို၊ သူမိုက်ကိုယ်နှင့်၊ ထိုထိုတကွ၊ မပေါင်းရလျဉ်း၊ ပြောရုံခြင်းမျှ၊ ကင်းရစေသား၊ ဆုလေးပါးကို၊ သိကြားထံမှာ၊ ပန်ထွာအထူး၊ တောင်းကြဖူး၏၊ (၂၃၉)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာရှိသူတော်ကောင်းတို့သည် လူမိုက်နှင့် ဝေးစွာရှောင်ရှား၍ နေလိုကြ၏။ သူမိုက်နှင့်အတူ ပေါင်းဖော်ရခြင်းသည် အလွန်ဆင်းရဲ၏။ ဟိုကြောင့် သူမိုက်၏အသွင်သဏ္ဌာန်ကိုပင် မမြင်ရပါစေနှင့်၊ သူမိုက်စကားကို မကြားရပါစေနှင့်၊ သူမိုက်နှင့် မပေါင်းဖော်ရပါစေနှင့်၊ သူမိုက်အကြောင်းကိုပင် မပြောရပါစေနှင့်ဟူသော ဆုလေးပါးကို သိကြားမင်းထံတွင် ဆုတောင်းခဲ့ဖူး၏။

## ၂၇။ နှလုံးမလှ လူ့ဗာလ

နှလုံးမလှ၊ လူ့ဗာလကား၊ ခနဘောဂ၊ ဉာဏ်ဗလရနှင့်၊ သိပ္ပဝိဇ္ဇာ၊ ပြည့်စုံပါလည်း၊ ချမ်းသာမပြီး၊ ကိုယ်ပျက်စီး၏၊ ချည်းနှီးသာမျှ၊ အနတ္တရှင့်၊ (၂၄၁)

### ဆိုလိုရင်း အဓိပ္ပာယ်

စိတ်ထားမကောင်းသော လူမိုက်သည် ဥစ္စာစည်းစိမ်၊ တန်ခိုးအာဏာနှင့် အတတ်ပညာတို့နှင့် ပြည့်စုံပါသော်လည်း ချမ်းသာခြင်း မရှိချေ။ သူ၏မိုက်မဲမှုကြောင့် ပျက်စီးရ၏။ သူပိုင်ဆိုင်ထားသမျှအရာတို့သည်လည်း အနတ္တသဘောအားဖြင့် အချည်းနှီးသာ ဖြစ်ရ၏။

## ၂၈။ လူမိုက်ဟူသည် ချစ်၍မရ ဆုံးမ မနိုင်

ပညာမရှိ၊ လူဒိဋ္ဌိနှင့်၊ ဇာတိမစစ်၊ ကျင့်ညစ်ဆိုးဝါး၊ သူမိုက်များကား၊ သနားမဖြစ်၊ ချစ်၍မရ၊ ဆုံးမမနိုင်၊ ပျက်ခေါင်တိုင်၏၊ (၂၄၁)

### ဆိုလိုရင်း အဓိပ္ပာယ်

ပညာမရှိသော အယူဖောက်ပြန်လွဲမှားနေသူ၊ မျိုးရိုးဇာတိမကောင်း၊ အကျင့်ယုတ်ညံ့ ဆိုးဝါးသူ လူမိုက်တို့ကို အန္တရာယ်ကြီးမားသဖြင့် သနား၍မဖြစ်၊ ချစ်ခင်၍မရ၊ ဆိုဆုံးမ၍လည်း မနိုင်ကြချေ။ အပျက်စီးဆုံးသော အခြေအနေသို့ ရောက်နေကြ၏။

## ၂၉။ နွားချေးပုံထက်က ဖားငယ်လို

ဗာလမည်ငြား၊ ထိုယောက်ျားကား၊ နွားချေးပုံထက်၊ ဖားတစ်လက်လျှင်၊ တက်မိသော်အား၊ ဆောက်ကြွားမျှသာ၊ ထိုင်တတ်ကာဖြင့်၊ ငါခြသေ့်မှတ်၊ ထင်မှားတတ်သို့၊ မချွတ်တူယောင်၊ ဉာဏ်မဲ့ဘောင်ဝယ်၊ မာန်ထောင်ဟုံးစုံး၊ ငါဟုကြွေး၍၊ လက်ရုံးချီကြွ၊ သံဝှန်ပ၏။ (၂၄၁)

### ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်ယောက်ျားသည် နွားချေးပုံထက်၌ ထိုင်တတ်ရုံမျှဖြင့် ငါခြသေ့်ဖြစ်နေပြီဟု ထင်မှတ်မှားတတ်သော ဖားသူငယ်တစ်ကောင်နှင့် တူလှ၏။ ထိုသူမိုက်သည် ပညာမဲ့သော အသိုင်းအဝိုင်းထဲတွင် သူ့ကိုယ်ကိုယ်သူ အဟုတ်ထင်ပြီး လက်သီးလက်မောင်း တန်းပြီး ကြွားဝါပြောဆိုတတ်၏။

## ၃၀။ လျှာဒုစရိုက်နှင့် လူမိုက်

တရားမကြိုက်၊ လျှာဒုစရိုက်နှင့်၊ သူမိုက်လေ့လာ၊ ယစ်မူးစွာသည့်၊ ဝါသနာဆိုးသူ၊ ထိုလူတို့မှာ၊ မိုးကလာ၍၊ ဣဋ္ဌာသယ၊ တောင်ကြလိုရာ၊ ပြီးတတ်စွာသား၊ စကြာအိုးလေး၊ သိကြားပေးလည်း၊ ကျေးဇူးနတ္ထိ၊ ကယ်မရှိရှင့်၊ ပကတိအသွင်၊ အဖတ်တင်ရုံ၊ သို့ပင်ချည်းနှီး၊ ကျိုးမပြီးဘဲ၊ မစီးမပွား၊ မကောင်းစားဘူး၊ (၂၄၂)

## ဆိုလိုရင်း အဓိပ္ပာယ်

တရားမရှိဘဲ ဒုစရိုက်စကားများကို ပြောကာ သောက်စားမူးယစ်သော ဝါသနာစရိုက်ရှိသူ လူမိုက်တို့သည် သိကြားမင်းကိုယ်တိုင်လာ၍ လိုတရစကြာအိုးကို ပေးသော်လည်း အကျိုးမရှိ၊ ကယ်ဆယ်၍ မရချေ။ အမြင်အားဖြင့်သာရှိပြီး အချည်းနှီးသာဖြစ်၍ ကောင်းစားခြင်း မရှိနိုင်ချေ။

## ၃၁။ သားငှက်အသွင် မိုက်တိမ်ညင်သို့

ဗာလကျင့်ရိုး၊ ကိုယ့်ဆွေမျိုးကို၊ မုဆိုးတို့လက်၊ သွေးမြူဆက်သည့်၊ သားငှက်အသွင်၊ မိုက်တိမ်ညင်သို့၊ အမြင်မရှိ၊ ကျင့်တတ်ဘိ၏၊ အသိနည်းပါး၊ သူမိုက်များကား၊ တရားမဲ့စွာ၊ မလိမ္မာဘူး၊ ကိုယ်ပါမကြွင်း၊ ကိုယ့်အသင်း၌၊ ဆင်းရဲဖို့ငှာ၊ မချမ်းသာအောင်၊ ကြီးစွာလုံ့လ၊ ပြုတတ်ကြရှင့်၊ (၂၄၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ဗာလဆိုသော လူမိုက်တို့သည် မိမိအမျိုး ကြက်သတ္တဝါတို့ကို မုဆိုးလက်သို့ ရောက်အောင် မြှူဆွယ်သွေးဆောင်တတ်သည့် ကြက်တိမ်ညင်မိုက်ကဲ့သို့ အမြော်အမြင်နည်းပါးလှ၏။ ကိုယ်တွင်း၌ တရားမရှိ၊ မလိမ္မာသောကြောင့် တိမ်ညင်မိုက်ကဲ့သို့ မိမိနှင့် မိမိအသင်းအဖွဲ့တစ်ခုလုံး ဆင်းရဲအောင် မိုက်မဲစွာ ပြုတတ်ကြ၏။

## ၃၂။ ကံပိန် ဉာဏ်ပိန် မိတ္တဝိန်သို့

ယုတ်မာရှေးဟောင်း၊ ပြုခဲ့ရှောင်းသား၊ မကောင်းမှုခံ၊ ကြောင်းစီမံက၊ ကံပိန်ဉာဏ်ပိန်၊ မိတ္တဝိန်သို့၊ ကောင်းချိန်ဘယ်မှာ၊ ရတို့ရာလိမ့်၊ ကြမ္မာလည်းမိုက်၊ ဉာဏ်လည်းမိုက်၍၊ လူမိုက်ယောက်ျား၊ ကံဉာဏ်များတို့၊ အလားဆိုးညစ်၊ ဘဝနစ်သည်၊ (၂၄၃)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်တို့သည် ရှေးကပြုခဲ့သော အကုသိုလ်ကံဟောင်းတို့ကြောင့် ယခုဘဝတွင် ပြန်ခံရပြီး မိတ္တဝိန္ဒကကဲ့သို့ ကောင်းမှု မခံစားရဘဲ ဆင်းရဲခြင်းသို့ ရောက်ရ၏။ ရှေးကပြုခဲ့သော ကံလည်းညံ့၊ ဉာဏ်လည်း ကင်းမဲ့သော လူမိုက်ယောက်ျားတို့သည် ဆိုးညစ်ယုတ်မာသော ဘဝတွင် နစ်မွန်းသွားရှာရ၏။

## ၃၃။ ဗာလအတိ မိုက်ခေါင်ထိတို့

ပါပတရ၊ ယုတ်မာလှသား၊ ဗာလအတိ၊ မိုက်ခေါင်ထိတို့၊ အမိဟူသည်၊ လူတို့ပြည်ဝယ်၊ နို့ရည်တိုက်ကျွေး၊ ငယ်ကမွေးလျက်၊ နို့ကြွေးတင်ရှိ၊ မဆပ်တုံတည့်၊ လူ့ဘုံဌာန၊ လူ့လောက၌၊ ဘကိုလကျာ၊ မိမှာလက်ဝဲ၊ အမြဲဆောင်ရွက်၊ ပခုံးထက်သို့၊ တင်လျက်လုပ်ကျွေး၊ မပြတ်မွေးလည်း၊ လေကျေးဇူးဂုဏ်စိုင်၊ မကုန်နိုင်ဘူး၊ (၂၄၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ယုတ်မာလှသော လူမိုက်တို့သည် ငယ်ကမွေးကျွေးပေးခဲ့သော အမိကိုပင် နို့ကျွေး ပြန်ဆပ်ခြင်း မရှိချေ။ ဤလောက၌ အဖကို လက်ျာ၊ အမိကို လက်ဝဲ ပခုံးပေါ်တင်ပြီး လုပ်ကျွေးပြုစုသော်လည်း မိဘကျေးဇူးကိုကား ဆပ်၍ မကုန်နိုင်ချေ။

## ၃၄။ အန္ဓဗာလ လူထိုမျှ

အန္ဓဗာလ၊ လူထိုမျှတို့၊ ကမ္မဝိရိယ၊ မယုံကြဘူး၊ သိဝမဟော၊ ပရမေသူရာ၊ ဗြဟ္မာဗိဿနိုး၊ ကမ္ဘာစိုးနှင့်၊ တန်ခိုးကြီးမား၊ နတ်ဘုရားတို့၊ ပေးစားဖန်ဆင်း၊ ဖြစ်တုံ လျှင်းဟု၊ ချွတ်ယွင်းသမှု၊ အမှားရှုသည်၊ (၂၄၅)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်တို့သည်၊ ကံ၊ ဝိရိယတို့ကို မယုံကြည် အားမကိုးကြချေ။ သိဝ၊ မဟေသရ ခေါ် ပရမေသူရာ၊ ဗြဟ္မာ၊ ဗိဿနိုး စသောနတ်ဘုရားတို့ကို ယုံကြည်အားကိုးကြ၏။ ထိုလူမိုက်တို့သည် ဤလောကရှိ အရာခပ်သိမ်းသည် ထိုနတ်ဘုရားတို့ ဖန်ဆင်းစီရင် ထား၍ ဖြစ်ကုန်သည်ဟု ထင်မှတ်မှားနေကြ၏။

## ၃၅။ မိဘဆရာ ဆုံးမပါလည်း တမာခါးသို့

ယွင်းဖောက်သမ္မာ၊ ယူမိစ္ဆာနှင့်၊ ပညာမဲ့သူ၊ လူဟူသမျှ၊ လူ့ဗာလတို့၊ မိဘဆရာ၊ ဆုံးမပါလည်း၊ တမာခါးသို့၊ နား၌မသာ၊ မလိုက်နာဘဲ၊ လိုရာမြှောက်ပြော၊ သူ့စကားသာ၊ ပျားသို့ချိုပြီး၊ နားမငြီးဘူး၊ ဘေးကြီးရောက်မှ၊ မိမယ်တ၍၊ ထိုဗာလဆိုး၊ လူမိုက်မျိုးတို့၊ ကိုးရာမထင်၊ မိုးမမြင်ခဲ့၊ (၂၄၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာမဲ့သော လူမိုက်တို့သည် မိဘဆရာတို့၏ အဆုံးအမများကို မလိုက်နာကြ ချေ။ နားတွင် တမာကဲ့သို့ ခါးကြ၏။ မိမိအား မြှောက်ပင့်ပြောဆိုသော စကားများကို နားထောင်ကြ၏။ ပျားသကာကဲ့သို့ ချိုကြ၏။ ထိုလူမိုက်တို့သည် ဘေးအန္တရာယ်များနှင့် တွေ့သောအခါမှသာ မိဘကို သတိရကြပြီး မိုးမမြင် လေမမြင် မိဘကို အားမကိုးဘဲ နေကြ၏။

## ၃၆။ သူမိုက်လက္ခဏာ မညစ်ရာ

သူမိုက်လက္ခဏာ၊ မညစ်ရာဘူး၊ နည်းနာမလိုက်၊ ကိုယ့်စရိုက်နှင့်၊ ကိုယ်ကြိုက် ကိုသာ၊ ကိုယ်လိမ္မာဟု၊ လူ့ရွာထင်ရှား၊ မကြီးပွားဘဲ၊ အများကဝိ၊ ပညာရှိတို့၊ မျက်စိနားမှာ၊ ငြီးဖွယ်သာတည့်၊ မိစ္ဆာဝါဒ၊ ကျင့်ပါပနှင့်၊ ဉာဏကင်းဘိ၊ လူ့ဒိဋ္ဌိတို့၊ ပြုမိပြုရာ၊ ပြုတတ်စွာ၏၊ (၂၄၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်တို့ဘာဝ လက္ခဏာအတိုင်း ဆိုးညစ်ယုတ်မာမှု မရှိစေနှင့်။ လူမိုက်တို့သည် နည်းကောင်းနည်းမှန်များအတိုင်း မလိုက်နာ၊ ကိုယ့်အကြိုက်၊ ကိုယ့်သဘောအတိုင်း ပြုကျင့်ကြ၏။ ထို့ကြောင့် သူတို့သည် ပညာရှိတို့၏နား၊ မျက်စိတွင် ငြီးငွေ့စိတ်ပျက်စရာဖြစ်၍ ကြီးပွားထင်ရှားခြင်း မရှိချေ။ သူတို့သည် အယူမှား၊ အကျင့်မှားသူများဖြစ်ကြသည့်အတိုင်း ပြုမိပြုရာ ပြုတတ်ကြ၏။

## ၃၇။ သူမိုက်ညစ်လည်း မိုက်ညစ်ချင်းသာ

များစွာပုံယင်၊ ဤလူရှင်ကား၊ အသွင်မတူ၊ အိမ်သူမဖြစ်၊ သူမိုက်ညစ်လည်း၊ မိုက်ညစ်ချင်းသာ၊ လူသမ္မာလည်း၊ သမ္မာချင်းချင်း၊ ပေါင်းကြသင်း၏၊ ပြုခြင်းမူခြင်း၊ နှလုံးသွင်းဖြင့်၊ ဓာတ်ချင်းမလျှော်၊ သူမတော်နှင့်၊ သူတော်မြတ်ယုတ်၊ သဘောထုတ်က၊ သမုဒ္ဒရာ၊ ဤမှာထိုဘက်၊ ကမ်းနှစ်ဖက်နှင့်၊ ဘဝင်၊ ဝိစိ၊ ဟူဘိမက၊ ပမာပြ၍၊ မမျှနိုင်ရာ၊ ဝေးကြစွာ၏၊ (၂၅၈)

## ဆိုလိုရင်း အဓိပ္ပာယ်

များစွာသော လူတို့သည် အသွင်အပြင်၊ စိတ်နေသဘောထားချင်း မတူကြသဖြင့် အချင်းချင်းပေါင်းသင်းဆက်ဆံခြင်း မပြုနိုင်ကြချေ။ သူမိုက်တို့သည် သူမိုက်အချင်းချင်းသာ ပေါင်းသင်းဆက်ဆံတတ်ကြကုန်၏။ ထို့အတူ လူလိမ္မာအချင်းချင်းသည်လည်း လူလိမ္မာအချင်းချင်းသာလျှင် ပေါင်းသင်းတတ်ကြကုန်၏။ အပြုအမူ၊ သဘောထား၊ စိတ်ဓာတ်၊ သဘာဝချင်း မတူညီကြသော လူမိုက်နှင့် သူတော်ကောင်းတို့သည် မဟာသမုဒ္ဒရာ ဤမှာဘက်ကမ်းနှင့် ဟိုမှာဘက်ကမ်း ဝေးကွာသလို၊ အဝိစိနှင့် ဘဝင်တို့ ကွာဝေးသလို ကွာဝေးကြကုန်၏။

## ၃၈။ ကရုဏာညာဉ် မယှဉ်သောသူ လူမိုက်ဟူ၏

ကရုဏာညာဉ်၊ မယှဉ်သောသူ၊ လူမိုက်ဟူ၏၊ ယှဉ်မူဉာဏ်ရှိ၊ ပဏ္ဍိမှတ်ရာ၊ လက္ခဏာတည့်၊ ပညာမဲ့ထ၊ ဗာလလူ့ကို၊ ချီးမွမ်းဆိုသော်၊ ထိုသူဗာလ၊ ကဲ့ရဲ့ကလည်း၊ မုချပဏ္ဍိ၊ အမှန်သိလော့၊ (၂၆၁)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ထူးအပေါ် သနားတတ်ခြင်းမရှိသူသည် လူမိုက်၊ သနားတတ်လျှင် ပညာရှိဟု မှတ်ပါလော့။ ပညာမရှိသူ လူမိုက်တစ်ယောက်ကို လူတစ်ယောက်က ချီးမွမ်းစကားဆိုနေလျှင် ထိုစကားကို ကြားသောလူမိုက်က ကဲ့ရဲ့စကားဆိုခဲ့သော် ထိုလူမိုက်သည် အမှား အမှန်ကို ခွဲခြားတတ်သဖြင့် ပညာရှိဟု ဆိုထိုက်၏။

## ၃၉။ မိုက်ဝါဒနှင့် လူ့ဗာလမျိုး

ကျိုးပြစ်မသိ၊ မရှိဉာဏ၊ မိုက်ဝါဒနှင့်၊ လူ့ဗာလမျိုး၊ လနေမိုးကို၊ မျက်ငြိုးငြူစူ၊ ဆဲရေးမူလည်း၊ ဆဲသူလူနှမ်း၊ သွမ်းသာသွမ်း၏၊ သွားလမ်းအညီ၊ ရာသီပကတိ၊ ကာလမရွေ့၊ သာလေ့၊ ပူလေ့၊ ရွာမြဲလေ့တိုင်း၊ ပြကတေ့အရိုး၊ လနေမိုးတို့၊ နွမ်းညှိုးဂုဏ်ဝါ၊ ဘယ်ပျက်ရာလိမ့်၊ (၂၆၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ကျိုးကြောင်းမသိ၊ ဉာဏ်ပညာမရှိသော လူမိုက်သည် သဘာဝတရားများ ဖြစ်ကြသည့် လ၊ နေ၊ မိုးကောင်းကင်တို့ကို ဒေါသဖြင့် ဆဲဆိုတတ်ကြရာ ဆဲသူသာလျှင် အရှုံးဖြစ်ရာ၏။ လ၊ နေ၊ မိုးတို့သည် ရာသီစက်ဝန်း၏ သွားမြဲ၊ လည်မြဲအတိုင်း သူ့သဘာဝနှင့်အညီ တည်နေသဖြင့် သူ့သဘာဝနှင့်သူ လသာမြဲ၊ ပူမြဲ၊ မိုးရွာမြဲဖြစ်၍ မည်သို့ပင် သူ့အား ဆဲရေးသော်လည်း လ၊ နေ၊ မိုးတို့၏ ဂုဏ်ကား ပျက်ပြားညှိုးနွမ်းခြင်း မရှိချေ။

## ၄၀။ သူမိုက်ချီးမွမ်း ယုတ်နွမ်းဂုဏ်ရည်

သူမိုက်ချီးမွမ်း၊ ယုတ်နွမ်းဂုဏ်ရည်၊ ရှုတ်သည်မည်၏။ ချစ်ကြည်သနား၊ သူမိုက်အားလျှင်၊ မြှောက်စားမိချေ၊ ဝိဒေဟရာဇ်၊ ပုတ်သင်ညစ်သို့၊ မာန်ယစ်တတ်ဘိ၊ လောင်းဂုတ္တိလည်း၊ မုသိလမည်ငြား၊ တပည့်အားလျှင်၊ ချန်ထားမချွင်း၊ သင်မိလျှင်း၍၊ စောင်းချင်းပြိုင်ရ၊ ထိုကြောင်းစကြောင့်၊ ဗာလယုတ်မာ၊ ကွင်းသွေပါလော့၊ (၂၅၉)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်က မိမိကို ချီးမွမ်းခြင်းသည် မိမိအား ရှုတ်ချသည်မည်၏။ လူမိုက်အား မမြှောက်စားရာ။ မြှောက်စားခဲ့လျှင် ဝိဒေဟရာဇ်မင်း၊ ဂုတ္တိလစောင်းသမားတို့ကဲ့သို့သော အဖြစ်မျိုးနှင့် ကြုံရ၏။ ဝိဒေဟရာဇ်မင်းသည် မိုက်မဲသော ပုတ်သင်ကို ချီးမြှောက်မိ၍ အရိုအသေ တန်ခြင်းကို ခံရ၏။ ဂုတ္တိလစောင်းဆရာသည် ဟပည့်ဖြစ်သူ မုသိလကို ဆရာစားမချန် စောင်းပညာသင်ပေးခဲ့သဖြင့် တစ်ချိန်တွင် မိမိနှင့်ယှဉ်၍ စောင်းတီးပြိုင်ကြရာ လူပုံအလယ်မှာ အရှက်ရခဲ့၏။ ထို့ကြောင့် လူမိုက်၊ လူယုတ်မာကို ရှောင်ရှားပါလော့။

# ၁၅။ လူမှုရေးလူ့ရာ

လူ့ဘုံလောကဟူသည် ရခဲလှစွာသော လူ့ဘဝသို့ ရောက်လာကြသည့် လူအပေါင်းတို့ မှီတင်းနေထိုင်ရာ ဘုံဌာနကြီး ဖြစ်သည့်အလျောက် ပျော်ရွှင်ချမ်းမြေ့နေချင်စဖွယ်လည်း ကောင်းလှ၏။ အခက်အခဲ အတားအဆီးပေါင်းများစွာဖြင့် ရန်းကန်လှုပ်ရှားနိုင်မှ တော်ရုံကျသော ဘဝလည်းဖြစ်၏။ အချို့ကား လူ့ဘဝကို အကောင်းမြင်ကြ၏။ အချို့ကား ချမ်းသာမှုထက် ဒုက္ခက ပိုများသော နေရာဌာနအဖြစ် အဆိုးမြင်ကြ၏။ မှန်သည်ဟုလည်း မဆိုသာ၊ မှားသည်ဟုလည်း ပြော၍မရ။ သူ့ဘက်က သူမှန်နေသည်သာ ဖြစ်၏။

အမှန်ဆိုရမူ လူ့ဘုံလူ့ဘဝသည် မြင့်မြတ်သော ဘုံဌာနဖြစ်၏။ လူအဖြစ်သည်လည်း မြင့်မြတ်လှ၏။ တန်ဖိုးရှိလှ၏။ အချို့မှာ ချမ်းချမ်းသာသာ နေနိုင်ကြ၏။ အချို့မှာ ဆင်းဆင်းရဲရဲ နေကြရ၏။ ထိုသူတို့သည် မြင့်မြတ်၍ တန်ဖိုးရှိလှသော လူ့ဘဝတွင် မြင့်မြတ်တန်ဖိုးရှိစွာ မနေနိုင်ကြရာပေ။ အဘယ်ကြောင့်ပါနည်း။

အဓိက ခြားနားစေနိုင်သော အကြောင်းတစ်ရပ်သည် ရှိ၏။ လူမှုရေး၌ ကျွမ်းကျင်မှု ရှိ မရှိ၊ လူရေးလူရာအဖြာဖြာ၌ လိမ္မာနှံ့စပ်မှုရှိ မရှိဟူသော အခြေခံအကြောင်းတရားပင် ဖြစ်၏။ လူမှုရေး၊ လူရေးလူရာ၌ နှံ့စပ်လိမ္မာ ကျွမ်းကျင်သူများသည် ချမ်းသာကြ၏။ မျက်နှာပွင့်လန်းကြ၏။ ကြံတိုင်းအောင် ဆောင်တိုင်းမြောက်ကြ၏။ အများနှင့် သင့်တင့်ညီညွတ်စွာ နေထိုင်နိုင်ကြ၏။ လူမှုရေး၊ လူရေးလူရာ မသိနားမလည်၊ မနှံ့စပ် မကျွမ်းကျင်သူတို့မှာမူ ထိုသို့မဟုတ်ကြ။ ဆင်းရဲကြ၏။ ဘေးအန္တရာယ်များ၏၊ စိတ်သွားတိုင်း ကိုယ်မပါ။ မျက်နှာငယ်ကြ၏။ တန်ဖိုးမဲ့ကြ၏။

ဤသဘောကို ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးက သူ၏မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီး၌ အလျဉ်းသင့်သလို ထည့်သွင်းရေးဖွဲ့ထား၏။ ရှေးသူဟောင်း

တို့၏ အဆိုအမိန့်များ၊ ကျမ်းဂန် ပါဠိလာ ဇာတကများ၊ သမိုင်းရာဇဝင်ထဲမှ အဖြစ်အပျက်များထဲမှ ရွေးချယ် ကောက်နုတ်ကာ မှတ်စရာ၊ လိုက်နာစရာ သာဓကများဖြင့် လူ့ရေးလူ့ရာ အဖြာဖြာကို နှောင်းလူတို့ မှတ်သားနာယူနိုင်ကြစေရန် ဆုံးမ လမ်းညွှန်ထား၏။

လူဆိုသည်မှာ သူ့အင်အား သူ့စွမ်းရည်နှင့် ရှိကြသည့်အားလျော်စွာ အထင်မသေးအပ်သကဲ့သို့ အရေးတစ်စုံတစ်ရာ ရှိသောအခါ သူ့နေရာနှင့်သူ အသုံးကျတတ်ကြောင်း၊ အပြောအဆို အမူအရာသည် လူသားတစ်ဦး၏ ဘဝကောင်းကျိုး ဆိုးကျိုးကို ဖန်တီးပေးနိုင်သဖြင့် နှုတ်အမူအရာ၊ ကိုယ်အမူအရာ ယဉ်ကျေးသိမ်မွေ့စွာ နေထိုင်သင့်ကြောင်း၊ လူအမျိုးမျိုး၊ စရိုက်အထွေထွေအကြားတွင် လူစဉ်ကြည့်ပြီး အလိုက်အထိုက် ပေါင်းသင်းနေထိုင်တတ်ရန် အရေးကြီးကြောင်း၊ သူတစ်ပါးအပေါ် စီမံအုပ်ချုပ်ကာ ဆရာလုပ်နေသူများ၊ ကောင်း မကောင်း ရာ မရာကို ပြညွှန်ဆုံးမနေရသူများသည် မိမိကိုယ်ကို ပိုမိုပြည့်စုံ ခိုင်မာနေအောင် ပျိုးထောင်ထားကြရမည်ဖြစ်ကြောင်း၊ အရာရာတွင် အရှည်ကိုကြည့်ကာ နွယ်သို့မကျင့်ဘဲ ကြာပွင့်ကဲ့သို့ ကျင့်အပ်ကြောင်း စသည်တို့ကို စုံလင်စွာ ညွှန်ပြဆုံးမထား၏။

ယင်းတို့အထဲမှ လူ့ဘဝတွင် ကြီးပွားချမ်းသာလျက် ချမ်းသာစွာ အဆင့်မြင့်မြင့် နေလိုသူများ၊ လူတော်လူကောင်းဖြစ်လိုသူများအတွက် ကောင်းနိုးရာရာ လမ်းညွှန်နီတိအချို့ကို ဤလူ့ရေးလူ့ရာအခန်းတွင် ထည့်သွင်းဖော်ပြထားပါသည်။

## ၁။ သူ့အစွမ်းနှင့်သူ

လူဟူလည်းကောင်း၊ မည်တုံရှောင်း၍၊ ဥက္ကောင်းရှိခြင်း၊ တူကြလျှင်းလည်း၊ ရည်ချင်းသတ္တိ၊ တူမရှိဘူး၊ မှတ်ဘိအဟုတ်၊ ငှက်နံ့စုတ်လည်း၊ နံ့စုတ်လောက်မျှ၊ ငှက်လင်းတလည်း၊ လင်းတလောက်စွာ၊ ပျံနိုင်ပါ၏၊ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ပခုံးနှစ်ဖက်ကြား ဦးခေါင်းပေါက်နေသူတိုင်းကို လူဟုခေါ်ဆိုကြသော်လည်း လူချင်းတူသူတိုင်းတွင် သတ္တိ၊ အရည်အချင်းရှိပုံချင်း မတူညီကြချေ။ သူ့အဆင့်နှင့်သူ ကွဲပြားနေကြကုန်၏။ ဥပမာသော်ကား အလွန်သေးငယ်သော နံ့စုတ်ငှက်ငယ်သည် လင်းတငှက်ကဲ့သို့ အရှိန်အဟုန်ပြင်းစွာ မပျံနိုင်ချေ။ နံ့စုတ်ငှက်သည် နံ့စုတ်ငှက်လောက်၊ လင်းတငှက်လည်း လင်းတငှက်အလျောက် ပျံသန်းနိုင်သကဲ့သို့ပင်တည်း။

## ၂။ နှုတ်လျှာပေါ့ဆန်း လူ့ပေါက်ပန်း

အဆင်းမျှသာ၊ အပေါ်ဝါလျက်၊ နှုတ်လျှာပေါ့ဆန်း၊ လူ့ပေါက်ပန်းနှင့်၊ လူ့သဖန်းမျိုး၊ အတွင်းဆိုးကို၊ မြတ်နိုးမိငြား၊ ကျိုးမပွားဘူး၊ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ရုပ်အဆင်းသာရှိပြီး ပညာမဲ့သော စကားကို မဆင်မခြင် ပြောတတ်သူ လူ့ပေါက်ပန်းများ၊ အပြင်ကသာ ရှုချင်စဖွယ်ရှိပြီး အတွင်းက ပိုးအတိပြီးသော လူ့သဖန်းမျိုးတို့နှင့် ပေါင်းဖော်ခြင်းမပြုပါနှင့်။ ပေါင်းဖော်ခြင်းဖြင့် မည်သည့်အကျိုးမျှ မရနိုင်သောကြောင့် တည်း။

## ၃။ မျောက်ကိုချစ်ငြား ခြူဆွဲမှားသို့

မတန်မရာ၊ သဒ္ဓါလွန်မြောက်၊ ကျွန်ကိုမြှောက်က၊ မျောက်ကိုချစ်ငြား၊ ခြူဆွဲမှားသို့၊ နားမချမ်းသာ၊ ရှိတို့ရာ၏။ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိ၏လက်အောက်ငယ်သားတို့အား မဆင်မခြင်၊ အရမ်းမဲ့ မြှောက်စားခြင်း မပြုရာ။ ပေးကမ်းချီးမြှောက်လိုသော သဒ္ဓါတရား လွန်ကဲပြီး မချီးမြှောက်သင့်သူကို ချီးမြှောက်ပါက မှားပြီး မိမိအဖို့ကိုပင် အကျိုးယုတ်စေနိုင်၏။ အဘယ်ကဲ့သို့ဟူမူကား မင်း၏ဥယျာဉ်၌နေသော မျောက်အား လည်ပင်း၌ ခြူကိုဆွဲမိသဖြင့် ထိုမျောက်ပြေးဆော့ ကစားတိုင်း ခြူသံက မြည်နေသဖြင့် နားမချမ်းသာဖြစ်ရသကဲ့သို့ပင် ဖြစ်၏။

## ၄။ ကိုယ့်ကြက်ကိုယ်သတ် ဖြစ်ရတတ်

ဆင်မှာဆင်ကြိုး၊ ကြက်ကြိုးကြက်သာ၊ သင့်တန်စွာ၏၊ အရာမတန်၊ အမြှောက်လွန်က၊ ကိုယ့်ကျွန်ကိုယ်ဖျက်၊ ကိုယ်နှိပ်စက်၍၊ ကိုယ့်ကြက်ကိုယ်သတ်၊ ဖြစ်ရတတ်၏၊ (၁၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဆင်မှာချည်သောကြိုး၊ ကြက်မှာချည်သောကြိုးတို့သည် မတူကြချေ။ ထိုက်သင့်သော အရွယ်အစားရှိသော ကြိုးဖြင့်ချည်ရာ၏။ ထို့အတူ ကိုယ့်အောက်လူကို ချီးပင့်မြှောက်စားတော့မည်ဆိုလျှင် တန်သလို သင့်သလို ချီးမြှောက်ရန် လို၏။ အမြှောက်လွန်ကဲပါက မိမိ၏လူ (ကျွန်)ကို မိမိကိုယ်တိုင် ဖျက်ဆီးနှိပ်စက်သလို၊ ကိုယ့်ကြက်ကို ကိုယ်တိုင်ပြန်ပြီး သတ်သလို ဖြစ်သွားတတ်သဖြင့် ဆင်ခြင်သတိပြုရန် လိုပေ၏။

## ၅။ ဂုဏ်မဲ့ပေါ်တွင် ဂုဏ်မတင်နှင့်

မျိုးဇာတ်ယုတ်မာ၊ ကင်းပညာဖြင့်၊ သမ္မာမဟုတ်၊ ဂုဏ်မဲ့ပေါ်တွင်၊ ဂုဏ်မတင်နှင့်၊ ဂုဏ်ကိုတင်က၊ ဂုဏ်ရှင်လည်းသွမ်း၊ ဂုဏ်လည်းနွမ်းခဲ့၊ (၁၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မျိုးရိုးဇာတိ ယုတ်မာနိမ့်ကျပြီး ပညာမဲ့သူတို့သည် ဖြောင့်မတ် တည်ကြည်သော ဂုဏ်မရှိကြသဖြင့် ထိုသူတို့အား ဂုဏ်ရည်မြင့်မားအောင် ထပ်မံမပြုလုပ်ရာ။ ထိုသူတို့အပေါ် ဂုဏ်ကို တင်ပါက ဂုဏ်တင်သူအဖို့ သိက္ခာကျပြီး ပေးအပ်သော ဂုဏ်သည်လည်း ညှိုးနွမ်းပျက်စီးရ၏။

## ၆။ လိုရာကိစ္စ ဆောင်နိုင်ကြ

လောဘကြီးသူ၊ လူတို့အားမှာ၊ ဥစ္စာပေးကမ်း၊ ကြမ်းတမ်းမျက်ဆူ၊ ထွက်တတ်သူကို၊ ကြည်ဖြူဝမ်းတွင်း၊ နူတ်ညှင်းသာယာ၊ ဝါစာပိယ၊ အဒေါသနှင့်၊ ဗာလကိုကား၊ လိုလိုက်ဖြားလျက်၊ တရားမြင်သိ၊ ပညာရှိမှာ၊ မှန်ကန်စွာဖြင့်၊ လိုရာကိစ္စ၊ ဆောင်နိုင်ကြဟု၊ ရှေးကနီတိ၊ ကျမ်းလာရှိတိုင်း၊ အသိမဝေ၊ ဉာဏ်ကြံဖွေလော့၊ (၁၈၉)

## ဆိုလိုရင်း အဓိပ္ပာယ်

အလိုလောဘကြီးသူအား ဥစ္စာပစ္စည်း ပေးကမ်းခြင်းဖြင့်လည်းကောင်း၊ အမျက်ထွက်တတ်သူကို ကြည်ကြည်ဖြူဖြူ သာယာချောင်စွာ ပြောဆိုခြင်းဖြင့်လည်းကောင်း၊ လူမိုက်ကို အလိုလိုက်လှည့်ဖြား၍လည်းကောင်း၊ ပညာရှိကိုမူ မှန်ကန်စွာ ပြောဆိုဆက်ဆံခြင်းဖြင့်လည်းကောင်း မိမိလိုရာကိစ္စကို ပြီးစီးစေနိုင်၏ဟု ရှေးနီတိကျမ်းတွင် ပြဆိုထား၏။ ထိုနီတိလမ်းညွှန်ချက်အတိုင်း အရာရာတွင် ဉာဏ်ကို သုံးပြီး ဆောင်ရွက်ပါလော့။

## ၇။ မပြမသိ ပြမှသိ

လူဗိုလ်အရှိ၊ များအချိလည်း၊ သတ္တိဗလ၊ စွမ်းထာမကို၊ မပြမသိ၊ ပြမှသိ၏၊ သိမှထိတ်လန့်၊ ကြောက်ရွံ့ခန့်၏၊ ခန့်မှရိုသေ၊ ရိုသေသော်သာ၊ လိုက်နာရှင်လန်း၊ ကျင့်ဖြောင့်တန်း၏၊ (၁၉၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ရဲစွမ်းသတ္တိနှင့် ပြည့်စုံသော ဗိုလ်လူများစွာတွင် မိမိ၏အစွမ်းသတ္တိကို မိမိကိုယ်တိုင် မပြဘဲ မည်သူမှမသိ၊ ပြမှသိကြမည် ဖြစ်၏။ ဤသို့ပြ၍ သိကြမှလည်း မိမိအပေါ် ထိတ်လန့် ကြောက်ရွံ့ ရိုသေကြမည်ဖြစ်၏။ ထိုသို့ မိမိအား ခန့်ညားရိုသေကြမှသာလျှင် မိမိလမ်းညွှန်ဖြစ်စေလိုရာကို လိုလိုလားလား လိုက်နာပြီး ထိုသူတို့လည်း အကျင့်စရိုက်ကောင်းမွန်လာကြမည် ဖြစ်၏။

## ၈။ ကိုယ်မကြိုက်က သူ့ဒ္ဓဘယ်ခါမကျင့်ရာ

ကိုယ်မကြိုက်က၊ သူ့ဒ္ဓဘယ်ခါ၊ မကျင့်ရာဘူး၊ ပညာသတိ၊ ကိုယ်နှင့်ညှိ၍၊ မြဲရှိစေလျက်၊ ယှဉ်းမကွက်နှင့်၊ (၁၉၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတိုင်းသည် မိမိ၏စိတ်နှင့်တူသည်က များတတ်၏။ မိမိမကြိုက် မနှစ်သက်သောအရာကို သူတစ်ပါးလည်း ကြိုက်နှစ်သက်မည် မဟုတ်ချေ။ ထို့ကြောင့် မိမိမနှစ်သက်သော အလုပ်မျိုးကို သူတစ်ပါးအပေါ် မပြုမူပါနှင့်။ ပညာနှင့် သတိကို အမြဲ လက်ကိုင်ပြုပြီး မိမိကိုယ်နှင့် နှိုင်းကာ လုပ်ဆောင်ပါလော့။

## ၉။ ဟန်မူသမူ ပြိုင်မပြုနှင့်

ဂုဏ်နေမတူ၊ မမျှသူကို၊ ဟန်မူသမူ၊ ပြိုင်မပြုနှင့်၊ မတုရာသီ၊ ရေနှင့်မီးကို၊ ကြီးကဘယ်ခါ၊ မရဲရာဘူး၊ ရဲပါတုံလစ်၊ ရေမွှန်းနစ်လျက်၊ မီးခြစ်လောင်မြိုက်၊ ဘေးကြီးဆိုက်လိမ့်၊ (၁၉၆)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိနှင့် အဆင့်မတူ၊ ဂုဏ်ရည်မတူသူကို မာန်မာနထားပြီး ဘယ်သောအခါမျှ မပြိုင်ပါနှင့်။ တူအောင်လည်း မတုပါနှင့်။ ရေကိုရဲမာန်ပွားပြီး မရဲရသလို မီးကိုလည်း မလေးမစားမပြုရာချေ။ ပြုပါက ရေတွင်နစ်မွန်း၍လည်းကောင်း၊ မီးလောင်၍လည်းကောင်း ဘေးဒုက္ခကြီးစွာ ရောက်ရမည်မှာ မလွဲချေ။

## ၁၀။ ကိုယ့်အောက်တန်းတူ အထက်သူ

ကိုယ့်အောက်တန်းတူ၊ အထက်သူဟု၊ မှတ်ယူမြဲသို၊ သုံးပုဂ္ဂိုလ်တွင်၊ အောက်ကိုသနား၊ တန်းတူအားမူ၊ မြှောက်စားအမျှ၊ မယုတ်ချနှင့်၊ ထက်ကသူမှာ၊ ရိုသေရာ၏။ (၁၉၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် ကိုယ့်အောက်နိမ့်ကျသူ၊ တန်းတူရည်တူနှင့် အထက်လူဟု သုံးမျိုးရှိ၏။ ထိုပုဂ္ဂိုလ်သုံးယောက်တွင် လူအပေါ် သနားကြင်နာပြီး တန်းတူလူကို မရှုတ်ချဘဲ ချီးမြှောက်သင့်လှ၏။ အထက်လူကိုကား ရိုသေလေးစားရာ၏။

## ၁၁။ သမ္မာမဲ့ငြား သူ့စကား

သမ္မာမဲ့ငြား၊ သူ့စကားနှင့်၊ ချောစားကုန်းတိုက်၊ လူ့စရိုက်ကို၊ မလိုက်မနာ၊ တည်ကြည်စွာလော့။ (၂၀၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ဖြောင့်မတ်တည်ကြည်သော စိတ်ဓာတ်မရှိသူ၏စကားနှင့် တစ်ပါးသူအကျိုးယုတ်စေသော ကုန်းချောစကားများကို ဘယ်သောအခါမှ လက်ခံယုံကြည်လိုက်နာခြင်း မပြုပါနှင့်။ မိမိကိုယ်တိုင် ဖြောင့်မတ်စွာ နေထိုင်ပြီး စိတ်နှလုံးကို တည်ကြည်စွာထားပါလော့။

ပဉ္စမမြားငမောက်စာပေ

## ၁၂။ ကျင်လည်ရာရာ ကျွမ်းလိမ္မာ

ဝိဇ္ဇာသိပ္ပ၊ တတ်ကိစ္စနှင့်၊ ထိုမျှတည်တည်၊ မှုမျိုးသည်လည်း၊ ကျင်လည်ရာရာ၊ ကျွမ်းလိမ္မာ၏၊ (၂၀၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ဝိဇ္ဇာပညာ၊ သိပ္ပပညာဟူသော တတ်သိဖွယ်ရာ ကိစ္စအဝဝကို ငယ်ကပင်လျှင် အပတ်တကုတ် သင်ယူထားကြရာ၏။ ထိုထိုသောပညာတို့သည် မိမိ၏လက်တွေ့ အသုံးချလုပ်ဆောင်မှုပေါ်တွင် မူတည်၍ ကျွမ်းကျင်လိမ္မာကြရ၏။

## ၁၃။ ရှုံးသူ နိုင်သူ

စစ်တိုက်လောင်းတမ်း၊ ဟော့ရမ်းအမူ၊ ထိုနှစ်လူတွင်၊ ရှုံးသူဒုက္ခ၊ ဒေါမနနှင့်၊ နိုင်ကရန်ပွား၊ နှစ်ပါးလုံးပင်၊ အပြစ်မြင်၏၊ (၂၀၅)

## ဆိုလိုရင်း အဓိပ္ပာယ်

စစ်တိုက်ခြင်း၊ လောင်းကစားခြင်းတို့တွင် ရှုံးသူ၊ နိုင်သူတို့သည် ရှိရမြဲဖြစ်၏။ ရှုံးသူက ဒုက္ခရောက်ပြီး နိုင်သူက ရန်ပွားနိုင်သဖြင့် နှစ်ဦးစလုံး အပြစ်များကြသည်သာ ဖြစ်၏။

## ၁၄။ အိမ်ရာထောင်သူ လူအပျင်းကြီး

အိမ်ရာထောင်သူ၊ လူအပျင်းကြီး၊ မော်မီးမော်မန်း၊ ရဟန်းဖြစ်လျက်၊ နှုတ်လက်မစောင့်၊ ပြည်ထောင့်သနင်း၊ မင်းဖြစ်လျက်တိ၊ မရှိဆင်ခြင်၊ ပညာရှင်လျက်၊ အမျက်ကြီးမား၊ ဤလေးပါးကား၊ ထင်ရှားလူ့ရွာ၊ မကောင်းစွာရှင့်၊ (၂၁၀)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကီ၌ အိမ်ရာထောင်သူသည် ပျင်းရိလျှင် မကောင်း၊ ရဟန်းဖြစ်သူသည် နှုတ်မစောင့်စည်းဘဲ ထင်ရာ ပြောဆိုတတ်လျှင်မကောင်း၊ မင်းဖြစ်သူသည် ဆင်ခြင် စဉ်းစားမှုမရှိလျှင် မကောင်း၊ ထို့အတူပင် ပညာရှိဖြစ်လျက်နှင့် အမျက်ဒေါသကြီးလျှင် မကောင်း၊ လူ့လောက၌ ဤမကောင်းခြင်းလေးပါးတို့ရှိလျှင် မကောင်းသည်သာ ဖြစ်၏။

## ၁၅။ မဟောထိုက်သူ သုံးယောက်

ပါရမီနဂိုရ်၊ မရှိလိုက၊ ကုသိုလ်သုစရိုက်၊ မဟောထိုက်တည့်၊ သူမိုက်တိရစ္ဆာန်၊ နိဗ္ဗာန်စကား၊ အလွန်ခါး၏၊ နားပါးမဝင်၊ မကြားချင်ဘူး၊ သိမြင်မဲ့စွာ၊ သူယုတ်မာ အား၊ ချင်းရာကောင်းဆိုး၊ ကြောင်းကျိုးတရား၊ မဟောကြားရာ။ (၂၁၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးဘဝက ပြုခဲ့သော ကုသိုလ်ပါရမီမရှိသူအား ကုသိုလ်သုစရိုက်နှင့် ဆိုင်သော စကားကို မပြောထိုက်ချေ။ လူမိုက်နှင့် တိရစ္ဆာန်တို့သည် မဂ်ဖိုလ်နိဗ္ဗာန်ဟူသော သူတော်ကောင်းတရားကို မကြားလိုကြ၊ နားခါးကြ၏။ ထို့ကြောင့် အသိပညာ ကင်းမဲ့သော သူယုတ်မာကို အဆိုးအကောင်း၊ အကျိုးအကြောင်းနှင့်စပ်သော တရားကို ဘယ်အခါမျှ မပြောကြားရာ။

## ၁၆။ ရယ်ခြင်း ခြောက်ပါး

မျက်စိပွင့်ရုံ၊ ရွှင်ပျူရုံမျှ၊ သိတမည်သား၊ သွားများပေါ်ရုံ၊ ရယ်တုံ့ဟသိတ်၊ ကျိတ်ကျိတ်သာယာ၊ အသံပါဘိ၊ ဝိဟသိမည်၊ ဦးလည်လှုပ်ထ၊ ဥပမှတ်ချက်၊ မျက်ရည်ထွက်ထ၊ အပခေါ်ဆို၊ ကိုယ်ကိုပစ်လွဲ၊ လွန်ကဲအတိ၊ ဟသိမည်ကြ၊ ပဘေဒဖြင့်၊ ကျမ်းပြထင်ရှား၊ ရယ်ခြောက်ပါးတွင်၊ ပိုင်းခြားအညီ၊ နှစ်ပါးစီလျှင်၊ သညီသမုတ်၊ မြတ်လတ်ယုတ်တည့်။ (၂၁၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မျက်စိပွင့်ရုံရယ်ခြင်း၊ သွားများပေါ်ရုံရယ်ခြင်း၊ အသံထွက်၍ ရယ်ခြင်း၊ ဦးခေါင်းလည်ပင်းလှုပ်၍ ရယ်ခြင်း၊ မျက်ရည် နှာရည်ကျအောင် ရယ်ခြင်း၊ ကိုယ်ကို ပစ်လွဲ၍ ရယ်ခြင်းဟူ၍ ရယ်ခြင်းခြောက်မျိုးရှိရာ ပထမနှစ်မျိုးမှာ မြတ်၏။ ဒုတိယနှစ်မျိုးမှာ အလယ်အလတ်ဖြစ်၍ နောက်ဆုံးနှစ်မျိုးမှာ ယုတ်ညံ့၏။

## ၁၇။ သဘာဝနှင့် လူ့အကျင့်

ငွေသော်တာလ၊ စန္ဒြလျှင်၊ ညမှသော်သာ၊ ကုမုဒြာမူ၊ ကြာဖြူအပေါင်း၊ ကြာခေါင်းလောင်းတို့၊ ပွင့်ကြောင်းမှန်စွာ၊ သူရိယာကား၊ ကောကာနဒ၊ ပဒုမဟု၊ အရုဏာမျိုး၊ ကြာနီမျိုးကို၊ လင်းမိုးသောက်ပ၊ နေရုံခလျက်၊ နေ့မှလတ်လတ်၊ ပွင့်စေတတ်၏။ အမှတ်တံငွာ၊ ဓမ္မတာသို့၊ လူမှာလူဖြင့်၊ လူသာကျင့်၏၊ (၂၂၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ကုမုဒြာကြာဖြူကြာခေါင်းလောင်းတို့သည် လ၏အလင်းဖြင့်သာ ပွင့်ကုန်၏။ ပဒုမ္မာကြာ၊ ကြာနီတို့မှာ နေရောင်ဖြင့်သာ ပွင့်ကုန်၏။ လူတို့မှာမူ လူ၏အကျင့်စရိုက်ကောင်းများကိုမှီ၍သာ ကြီးပွားချမ်းသာကြရကုန်၏။

## ၁၈။ သူတစ်ပါးထက် မိမိကို ပို၍ဆုံးမ

ကျိုးပြစ်တရား၊ သူတစ်ပါးအား၊ ဟောကြားညွှန်ပြ၊ ဆိုဆုံးမသော်၊ သင့်မျှရုံသာ၊ ဆုံးမရာ၏၊ ကိုယ့်မှာသော်ကား၊ သူအများထက်၊ ထက်ပွားဆယ်ဆ၊ လွန်မကအောင်၊ လုံ့လကဲလစ်၊ ကျင့်အားသစ်လော့၊ (၂၂၂)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ပါးအား ဆိုဆုံးမစရာ ရှိခဲ့သော် သင့်တန်ရုံသာ ဆုံးမရာ၏။ မိမိကိုယ်ကို မူကား သူတစ်ပါးကို ဆိုဆုံးမသည်ထက် ဆယ်ဆမက ပို၍ဆုံးမပြီး မိမိကိုယ်ကို ကောင်းအောင် ကြိုးစားအားထုတ်ပါလော့။

## ၁၉။ သူကောင်းသား ယဉ်ပါး၊ သူယုတ်သား ရမ်းကား

မိယုတ်နှုတ်ကြမ်း၊ ဖသရမ်းက၊ ညစ်ညမ်းမူဆိုး၊ အမျိုးမမှန်၊ အကျင့်တန်၏၊ ကျေးကျွန်လွတ်လွတ်၊ ခွင့်မလွတ်နှင့်၊ ဖွတ်မိကျောင်းဖြစ်၊ မြစ်မချမ်းသာ၊ တူစပါသို့၊ ပမာထင်ရှား၊ သူကောင်းသားမူ၊ ယဉ်ပါးအဟုတ်၊ သူယုတ်၏သား၊ ရမ်းကားတတ်စွ။ (၂၂၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ယုတ်ညံ့သော အမိနှင့် ရမ်းကားသော ဖခင်တို့မှ ပေါက်ဖွားလာသောသားသည် အမူအကျင့်ဆိုးသွမ်း ယုတ်မာတတ်၏။ ထိုသူမျိုးကို ကျေးကျွန်ပင် ဖြစ်လင့်ကစား စိတ်ချလက်ချ မရှိစေနှင့်။ ထိုသူမျိုးကို မြှောက်စားမိပါက ဖွတ်မိကျောင်းဖြစ်လျှင် မြစ်မချမ်းသာဆိုဘိသကဲ့သို့ အကျိုးမဲ့ဖြစ်တတ်၏။ သူကောင်း၏သားတို့ကမူ ယဉ်ပါး လိမ္မာလေ့ရှိကြကုန်၏။

## ၂၀။ မသင်ဘဲတတ်သော အရာများ

ဤလူ့ရွာဝယ်၊ ဆာခြင်းသိပ်ခြင်း၊ အိပ်ချင်ခြင်းနှင့်၊ တပ်ခြင်းရာဂ၊ ဤလေးဝကား၊ မိန်းမယောကျ်ား၊ မသင်ကြားဘဲ၊ တတ်အားသီးသီး၊ လိုလိုပြီး၏၊ (၂၃၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလူ့လောကတွင် မည်သူတစ်ဦးတစ်ယောက်ကမျှ မသင်ကြားရဘဲ မိန်းမ ယောကျ်ားများအတွက် အလိုလိုတတ်မြောက်နေသောအရာ လေးမျိုးရှိကုန်၏။ ထိုလေး မျိုးကား ဆာလောင်ခြင်း၊ မွတ်သိပ်ခြင်း၊ အိပ်ခြင်းနှင့် ရာဂဖြင့် တပ်မက်ခြင်းတို့ ဖြစ်ကြကုန်၏။

## ၂၁။ မိန်းမယောကျ်ား မြင်ဖန်များသော်

မိန်းမယောကျ်ား၊ မြင်ဖန်များသော်၊ သနားချစ်ခင်၊ စိတ်ကျွမ်းဝင်၏၊ ကျွန်ပင် တမင့်၊ ဖြစ်လင့်ကစား၊ မိုးနတ်သားသို့၊ ထင်မှားမယွင်း၊ တပ်မက်လျှင်းခဲ့၊ (၂၃၃)

## ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမနှင့် ယောကျ်ားတို့သည် တစ်ဦးနှင့် တစ်ဦး မြင်တွေ့ဖန်များလာလျှင် သနားချစ်ခင်စိတ် ပေါ်လာပြီး စိတ်သဘောချင်း ရင်းနှီးကျွမ်းဝင်သွားတတ်ကြ၏။

ထိုအခါ မိမိခိုင်းစေထားသော ကျေးကျွန်ပင် ဖြစ်စေကာမူ ထိုယောက်ျားအား နတ်သားကဲ့သို့ ထင်မှတ်လာပြီး တပ်မက်သောစိတ်သည် အလိုလိုဖြစ်ပေါ်လာတတ်၏။

## ၂၂။ နေကိုပုံပြ လကိုပုံထား

နေကိုပုံပြ၊ လကိုပုံထား၊ မှတ်တုံငြားလော့၊ နေကားထွက်ဝင်၊ ပေါ်ချုပ်ထင်၏၊ လလျှင်ပြည့်ကွယ်၊ ကြီး၍ငယ်ခဲ့၊ ထို့နယ်မလွဲ၊ လူခပဲတို့၊ အမြဲချမ်းသာ၊ မရှိစွာရှင့်၊ အာဏာတန်ခိုး၊ အမျိုးစည်းစိမ်၊ ဘုန်းဂုဏ်သိန်လည်း၊ ထင်တိမ်ပေါ်ငုတ်၊ ဖြစ်ချုပ်တတ်စွာ၊ ဓမ္မတာတည့်။ (၂၃၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် နေနှင့် လတို့ကို နမူနာယူ၍ မှတ်သားကျင့်ကြံရာ၏။ နေသည် တစ်နေ့တာအတွင်း ထွက်လိုက်ဝင်လိုက်နှင့် ပေါ်ထွက်လာပြီး ချုပ်ကွယ်သွားလေ့ရှိ၏။ လသည်လည်း လဆန်းမှ လပြည့်၊ လပြည့်မှ၊ လကွယ်သို့ ရောက်ကာ ငယ်ရာမှကြီး၊ ကြီးရာမှ ငယ်သွားသောသဘော ရှိ၏။ ထိုနေနှင့်လတို့၏ ဖြစ်ချုပ်မြဲ ဖြစ်သကဲ့သို့ လူတို့၏ ချမ်းသာခြင်း၊ အာဏာတန်ခိုး၊ အမျိုးစည်းစိမ်၊ ဂုဏ်ကျက်သရေတို့သည်လည်း အစဉ်အမြဲ တည်တံ့နေခြင်းမရှိ၊ ပေါ်လိုက်ချုပ်လိုက်၊ ဖြစ်လိုက်ပျက်လိုက် ရှိနေကြကုန်၏။ ဤသည်မှာဖြစ်ရ၊ ကြုံရမြဲ ဓမ္မတာပင်တည်း။

## ၂၃။ အနှစ်မင့် အနံ့မပါ ပန်းပမာ

လူ့ရွာလူ့ဇာစ်၊ လူဟုဖြစ်လည်း၊ အနှစ်မင့်၊ အနံ့မပါ၊ ပွင့်ရုံသာမျှ၊ ပန်ရာမသွင်း၊ ဂုဏ်မဲ့ကင်းလျက်၊ မသင်းမကြိုု၊ တလူလူဖြင့်၊ ဝါးကျူပမာ၊ မဖြစ်ရာဘူး၊ သမ္မာကမ္မန္တ၊ မဟုတ်စွသား၊ ပါပဖရုသ်၊ မှုကြမ်းကြုတ်ကို၊ အားထုတ်ဖန်ဖန်၊ ပြုမလွန်နှင့်၊ (၂၅၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့ရွာ လူ့လောကတွင် လူသားတစ်ယောက်အဖြစ် ရောက်ရှိလာသော်လည်း အနှစ်မရှိ၊ အနံ့မပါဘဲ ဖွင့်ရုံသာဖွင့်သော ပန်းကဲ့သို့ ဝါးပင် ကျူပင်လို ဂုဏ်မဲ့ တန်ဖိုးမဲ့ ဖြစ်ကြရကုန်၏။ ထိုသူတို့သည် ဖြောင့်မတ်စွာ မကျင့်ကြဘဲ ကြမ်းတမ်း ခက်ထန်စွာ ပြောဆိုနေထိုင်ကြကုန်၏။ ထိုသို့မဖြစ်အောင် ပြုမူနေထိုင်ပြီး အနှစ်မဲ့ အနံ့မရှိသော ပန်းကဲ့သို့ တန်ဖိုးမဲ့မဖြစ်အောင် ကြိုးစားပါလော့။

## ၂၄။ အယူမမှန်သူ ခြောက်ဦး

လူဟုဖြစ်လာ၊ လူတို့ရွာ၌၊ ငါသာတတ်သိ၊ ပညာရှိဟု၊ ဟူဘိတစ်ယောက်၊ သို့လောက်စကား၊ တရားပင်လော၊ နှိမ့်သဘောဖြင့်၊ ပြောတတ်သောသူ၊ ငါတစ်မူလည်း၊ တစ်ဆူကဝိ၊ ပဏ္ဍိဟူငြား၊ ဤစကားကား၊ ဘုရားဟောမြွက်၊ ဘယ်ကျမ်းထွက်နည်း၊ အပျက်ပြုလို၊ ဆိုသူတစ်ဦး၊ အထူးဒွေပြား၊ ငါကားပညာ၊ မရှိပါဟု၊ ရှောင်ကာဆိုမြောက်၊

သူတစ်ယောက်နှင့်၊ အလျောက်ပြောတုံ၊ ငါမယုံသေး၊ ပေးလော့ပါဦး၊ ညှိလော့ကျမ်းဂန်၊ နှုတ်လှန်ပယ်ရှား၊ ယောကျ်ားတစ်မျိုး၊ သိနိုးတတ်ယောင်၊ မာနထောင်၍၊ ဟန်ဆောင်မှုတတ်၊ မပြတ်ဝါဒ၊ ဝိတဏ္ဍာမှု၊ ခြောက်ဦးလူတို့၊ အယူမမှန်၊ ဉာဏ်ပြဒါးပွတ်၊ တရားလွတ်၏၊ (၂၅၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ အယူဝါဒမမှန်သူ ခြောက်ဦးရှိ၏။ ငါသာတတ်၊ ငါသာသိ၊ ငါသာပညာရှိဟု မိမိကိုယ်ကို ဆိုသူတစ်ဦး၊ ထိုမျှလောက်သော စကားသည် မတရား၊ မမှန်ကန်ဟု သူတစ်ပါးအား နှိမ့်ချပြောတတ်သူတစ်ဦး၊ ငါသည်သာ ပညာရှိကဝိတစ်ဆူဖြစ်သည်ဟု မိမိကိုယ်ကို ကြေညာသူတစ်ဦး၊ ဤစကားကား ဘုရားဟောစကားလား၊ ဘယ်ကျမ်းကထွက်သော စကားလဲဟု အပျက်သဘော ပြောတတ်သူတစ်ဦး၊ မင်းတို့သာပြောပါ၊ ငါမင်းတို့လောက် ပညာမရှိပါဘူးဟု တမင်တင်စီးလို၍ လှိုးလွှဲပြောတတ်သူတစ်ဦး၊ အခု မင်းပြော်သည်ကို ငါမယုံသေး၊ ဘယ်ပါဠိ၊ ဘယ်ကျမ်းဂန်က ထွက်ဆိုသောစကားလဲ၊ ငါ့အားပြလော့ဟု နှုတ်လှန်ပြောဆိုတတ်သူတစ်ဦး၊ မိမိကိုယ်တိုင်မသိဘဲ သိနိုးယောင်ယောင်လုပ်ကာ မာနထောင်၍ ဟန်ဆောင် ပြောဆိုတတ်သူတစ်ဦးဟူ၍ ဖြစ်ကြ၏။

## ၂၅။ မညီစိတ်မှာ ဝေးကြစွာ၏

သူမတော်နှင့်၊ သူတော်မြတ်ယုတ်၊ သဘောထုတ်က၊ သမုဒ္ဒရာ၊ ဤမှာထိုဘက်၊ ကမ်းနှစ်ဖက်နှင့်၊ ဘဝဂ်ဝီစိ၊ ဟူဘိမက၊ ပမာပြ၍၊ မမျှနိုင်ရာ၊ ဝေးကြကွာ၏၊ သဒ္ဓါပညာ၊ သမ္မာမမျှ၊ ဤလောက၌၊ မိန်းမရတနာ၊ ယုတ်မာယောကျ်ား၊ အတူထားလည်း၊ နီးပါးမသိ၊ ရေနှင့်ဆီသို့၊ မညီစိတ်မှာ၊ ဝေးကြစွာ၏၊ (၂၅၈)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတော်ကောင်းနှင့် သူယုတ်မာတို့၏ သဘောမှာ သမုဒ္ဒရာ၏ ဟိုမှာဘက်နှင့် သည်မှာဘက် ဝေးကွာသကဲ့သို့လည်းကောင်း၊ အဝီစိနှင့် ဘဝဂ်ဝေးကွာသကဲ့သို့လည်းကောင်း ဝေးကွာခြင်းမက ဝေးကွာလှ၏။ ဤလောက၌ သဒ္ဓါ၊ ပညာ၊ ဘုန်းသမ္မာချင်း မညီမျှသော မိန်းမရတနာနှင့် ယောကျ်ားယုတ်တို့ကို အတူထားသော်လည်း စိတ်သဘောချင်း မညီကြသဖြင့် နီးလျက်နှင့် ဝေးကွာနေကြရ၏။

## ၂၆။ ပညာနုပ်သေး ဉာဏ်တစ်ရွေးဖြင့်

သိခက်စရာ၊ လျှို့ဝှက်စွာကို၊ ပညာနုပ်သေး၊ ဉာဏ်တစ်ရွေးဖြင့်၊ ကြံတွေးဆကာ၊ ထင်ရာရာတိုင်း၊ မီးမှာနေ့ညာ၊ ပြာချသော့လား၊ သံပြဒါးတို့၊ ပြာကားမကျ၊ တကြွကြွနှင့်၊ အိမ်ကမကြွင်း၊ ရှိရင်းဥစ္စာ၊ ကုန်၍သာလျှင်၊ ကိုယ်မှာမလှ၊ မွဲပြာကျ၏၊ (၂၅၉)

## ဆိုလိုရင်း အဓိပ္ပာယ်

သိရန် ခက်ခဲလှသော လျှို့ဝှက်ကိစ္စများကို သေးနုပ်လှသည့် ဉာဏ်တစ်ရွေးသားမျှ လောက်ဖြင့် စိတ်မှာထင်တိုင်း မဆုံးဖြတ် မထုတ်ဖော်ရာ။ ထိုသို့မဟုတ်လျှင် ရွှေဖြစ်လိုဖြစ်ငြား မိမိစိတ်အထင်ဖြင့် နေ့ညမနားဘဲ သံ၊ ပြဒါးတို့ကို ပြာချသော အဂ္ဂိရတ်သမားကဲ့သို့ သံပြဒါးက ပြာမကျဘဲ မိမိအိမ်တွင်းရှိ ပစ္စည်းများသာ ကုန်သွားပြီး နောက်ဆုံးတွင် ဆင်းရဲမွဲတေသောဘဝသို့ ရောက်သွားသည့်အဖြစ်မျိုးနှင့် တွေ့ကြုံရမည်သာ ဖြစ်၏။

## ၂၇။ ကိုယ်ပျက်မည်သာ မချွတ်ရာ

ပုညစိမ်၊ ရှေးကြောင်းကံနှင့်၊ ဘုန်းကမတူ၊ ကြီးမြတ်သူကို၊ ပြိုင်မှုဆက်ဆက်၊ ဆင်နှင့်ကြွက်သို့၊ ကိုယ်ပျက်မည်သာ၊ မချွတ်ရာဘူး၊ (၂၆၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးကပြုခဲ့သော ကောင်းမှု ကုသိုလ်ကံအကြောင်းခံ၍ ဘုန်းကံကြီးမားသော သူမြတ်တို့ကို ဖက်ပြိုင်ခြင်း မပြုပါလင့်။ ဆင်ကို ကြွက်က အံတုဖက်ပြိုင်သည့်ပမာ နောက်ဆုံးတွင် ဖက်ပြိုင်သူသာ ပျက်စီးရမည်မှာ ဧကန်ဖြစ်၏။

## ၂၈။ စူးရာစူး၊ ဆောက်ရာဆောက်

စူးရာစူးလျောက်၊ ဆောက်ရာဆောက်တည့်၊ ချင့်ထောက်ပညာ၊ သင့်လျော်စွာအောင်၊ အရာလျောက်ပတ်၊ ခြားစေတတ်လော့၊ ခဲကတ်ရေးရာ၊ ရံခါလူတွင်၊ ဖြစ်မြဲအင်ကား၊ ဆင်မတတ်နိုင်၊ ကြွက်တတ်နိုင်၏၊ လက်ကိုင်ဖွဲ့ထုံ၊ အရေးပုံဖြင့်၊ မုတ်ယုံတသီး၊ လွန်လေပြီးက၊ ဆင်ကြီးကြွက်ငယ်၊ ဝတ္ထုနှယ်သို့၊ ပြုဖွယ်ကိစ္စ၊ ကိုယ်နှင့်မျှအောင်၊ ဆောင်မှမချွတ်၊ ပြီးတတ်ကြရှင့်၊ (၃၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာဖြင့် ထောက်ချင့်ပြီး စူးနေရာစူး၊ ဆောက်နေရာဆောက်ဆိုသလို နေရာအလိုက် သင့်လျော်အောင် လုပ်ဆောင်ရာ၏။ အရေးအကြောင်းကြုံလာလျှင် ဆင်မတတ်နိုင်သည့်ကိစ္စ၌ တစ်ခါတစ်ရံ ကြွက်က တတ်နိုင်၏။ ရှေးက ဆင်ကြီးနှင့် ကြွက်ငယ်ဝတ္ထုကို ပမာပြုပြီး ကိုယ်တတ်နိုင်သည်ကိုသာ နေရာအလိုက် လုပ်ဆောင်နိုင်လျှင် ကိစ္စဟူသမျှ ပြီးစီးတတ်၏။

## ၂၉။ ပူဆာသောက မကြောင့်ကြနှင့်

အိုသေနာဖျား၊ ဤတရားကို၊ များများစိတ်မှာ၊ ပူဆာသောက၊ မကြောင့်ကြနှင့်၊ ဖြစ်ကမချွတ်၊ ပျက်လတ္တံ့တည်၊ မျှော်ရစောင့်စား၊ နေရငြားခဲ့၊ တရားကိုယ်မှ၊ လွတ်မချဘဲ၊ ဒါနသီလ၊ စာရိတ္တကို၊ ပျက်ရမည်သာ၊ ကြောင့်ကြရာ၏၊ (၃၂၂)

## ဆိုလိုရင်း အဓိပ္ပာယ်

အိုခြင်း၊ သေခြင်း၊ နာခြင်း တရားများကို စိတ်မှာတွေးပြီး ပူဆာသောက၊ ကြောင့်ကြခြင်း မဖြစ်ပါစေနှင့်။ အဖြစ်ရှိလျှင် ပျက်ရမည်သာ ဖြစ်၏။ မိမိကိုယ်မှ ကုသိုလ်တရားများ မပျက်စေဘဲ ဒါန၊ သီလ၊ စာရိတ္တများ ပျက်စီးရမည်ကိုသာ စိုးရိမ်ကြောင့်ကြရာ၏။

## ၃၀။ ဣဿာငြူစူ ဖျက်မမူနှင့်

ကိုယ့်ထက်အမျိုး၊ ဘုန်းတန်ခိုးနှင့်၊ အုပ်စိုးမပြတ်၊ စောင့်ရှောက်တတ်သည့်၊ ကြီးမြတ်ထင်ရှား၊ သူတို့အားလျှင်၊ ပြစ်မှားစိတ်မှာ၊ အပြစ်ရှာ၍၊ ဣဿာငြူစူ၊ ဖျက်မမူနှင့်၊ ဖျက်သူနောင်ဝယ်၊ ဂုဏ်ညှိုးငယ်လိမ့်၊ ကိုးကွယ်ရာမဲ့၊ မဟဲ့တန်ခိုး၊ သူလွှမ်းမိုး၍၊ အမျိုးသုန်ဖျင်း၊ ပျက်တတ်လျှင်း၏။

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိထက် မျိုးရိုး၊ ဘုန်းတန်ခိုးပြည့်စုံ၍ မိမိအား အုပ်စိုးစောင့်ရှောက်တတ်သောသူတို့အား ဖျက်ဆီးလိုစိတ်ဖြင့် မပြစ်မှားပါနှင့်။ ပြစ်မှားပါက နောင်တွင် ဂုဏ်ညှိုးငယ်ပြီး ပျက်စီးတတ်၏။

## ၃၁။ ဖြစ်တူပျက်ဖက် အောက်ထက်ရင်းဖျား

မင်းနှင့်ပြည်သူ၊ ယုတ်မြတ်ဟူလည်း၊ ဖြစ်တူပျက်ဖက်၊ ကိုင်းအခက်နှင့်၊ အောက်ထက်ရင်းဖျား၊ သစ်ပင်လားသို့၊ မပြားတစ်စည်း၊ တူသတည်းရှင့်၊ တောလည်း မြက်ပြတ်၊ သဟဇာတ်တည့်၊ မြဲမှတ်အပြီး၊ လူ့ထုံးတီးက၊ ဘုန်းကြီးသူပျက်၊ ဘုန်းနည်းညက်၏၊ ကြံထက်လိမ္မာ၊ မချို့ရာဘူး၊ (၃၇၂)

## ဆိုလိုရင်း အဓိပ္ပာယ်

အုပ်ချုပ်သူ မင်းနှင့် ပြည်သူများသည် သစ်ပင်တစ်ပင်၏ အကိုင်းအခက်၊ အမြစ်နှင့် ပင်စည်တို့နှင့် တူလှ၏။ ဖြစ်လည်းအတူ၊ ပျက်လည်းအတူ ဖြစ်ကြ၏။ လူတို့တွင်လည်း ထိုနည်းအတိုင်း ဖြစ်၏။ ဘုန်းကြီးသူ အထက်လူကြီးများ ပျက်စီးပြိုလဲခြင်း ခံရလျှင် ဘုန်းနည်းသူ အောက်လူတို့လည်း ညက်ညက်ကြေပျက်စီးကြရ၏။ ထို့ကြောင့် အကြံအစည် ထက်မြက်လိမ္မာစေပြီး မချို့မယွင်း မတိမ်းစောင်းအောင် အားထုတ်ပါလော့။

## ၃၂။ နားမှာဆန့်ကျင် ကလန့်သွင်သို့

မသင့်ပေါက်လွှတ်၊ ထင်တိုင်းရွတ်လည်း၊ အလွတ်ဆင်ခြေ၊ မဝင်စေနှင့်၊ သက်သေသက္ခီ၊ မရှိစကား၊ တရားမအောင်၊ ဟူသောယောင်တီ၊ ကတောင်ကချောက်၊ အထောက်

မထင်၊ ကောင်းကင်လက်ပွေ့၊ ယမ်း၍ဆိုငြား၊ ထိုစကားကား၊ အများတကာ၊ ရှိပညာတို့၊ နားမှာဆန့်ကျင်၊ ကလန့်သွင်သို့၊ မဝင်နားနှင့်၊ နားဝယ်နင့်လိမ့်၊ (၃၆၂)

## ဆိုလိုရင်း အဓိပ္ပာယ်

စကားကို စိတ်ကထင်တိုင်း ဆင်ခြေဆင်လက်များပေးပြီး မပြောပါနှင့်။ သက်သေအထောက်အထားမရှိသော စကားသည် အရာမဝင်ချေ။ ကောင်းကင်ကြီးကို လက်နှင့်ပွေ့ဖက်သလို ရမ်းသမ်း၍ဆိုသော စကားသည် ပညာရှိတို့၏ နားတွင် ကန့်လန့်ဝင်၍ နားထဲမဝင်သည့်ပြင် နားတွင် နင့်ပြီး မကျေမနပ် ဖြစ်တတ်၏။

## ၃၃။ ပွဲလယ်မတင့် လေ့နှယ်လွင့်လိမ့်

အာဂုံယုတ္တိ၊ ထုတ်မရှိဘဲ၊ မိမိလိုရာ၊ ဆိုစပါသော်၊ ပမာမမြောက်၊ ဘယ်မှုလောက်အံ့၊ သေသောက်ယောက်ျား၊ ဥမ္မတ္တ၏၊ စကားသဖွယ်၊ ကြားတိုင်းရယ်လျက်၊ ပွဲလယ်မတင့်၊ လေ့နှယ်လွင့်လိမ့်၊ (၃၆၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ယုတ္တိယုတ္တာမရှိ၊ လိုရာဆွဲ၍ ပြောသောစကားသည် လူအများ လေးစားနာယူဖွယ်မရှိ၊ အချည်းနှီးဖြစ်၏။ ထိုစကားမျိုးသည် အရက်သမား၊ အရူးတစ်ယောက်၏ စကားကဲ့သို့ ကြားရသူတိုင်း ရယ်ဖွယ်ဖြစ်၍ လူပရိသတ်အလယ်တွင် မတင့်မတယ်ဖြစ်ရပြီး ထိုစကားတို့သည်လည်း လေထဲလွင့်သလို ပြောပြီးသည်နှင့် ပျောက်ကွယ်သွားတတ်၏။

## ၃၄။ မင်းမှတည်ရာ မရပါသော်

ပညာရှိလည်း၊ ဣဿရိယ၊ အစိုးရသည့်၊ မင်းမှတည်ရာ၊ မရပါသော်၊ ထိုပညာရောင်၊ ထွန်းမပြောင်ဘူး၊ ရွှေတောင်နားလစ်၊ ရွှေကျေးဖြစ်သို့၊ စင်စစ်မယွင်း၊ မှန်လှလျှင်းခဲ့၊ မြင်းမင်းအဿတိုက်၊ လေလိုလျင်မော၊ နွယ်သန့်ကြောသည့်၊ သိန္ဓောမျိုးစစ်၊ ဖြစ်လင့်တပဲ၊ ဆင်းရဲမဝ၊ မုဆိုးမဥ္၊ မလှစာရေ၊ မှီနေရခိုက်၊ ဖိုးမထိုက်တည့်၊ (၃၆၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မည်မျှပင် ပညာရှိသော်လည်း ထိုသူသည် အစိုးရသည့်မင်းကို အမှီမပြုလျှင် ထိုသူ၏ပညာရောင်သည် မထွန်းမပြောင်ဘဲ ရှိရသည်။ ရွှေတောင်တွင် နားသောကျေးသည် ရွှေကျေးဖြစ်ရသကဲ့သို့ပင်တည်း။ လေကဲ့သို့ လျင်မြန်စွာ ပြေးနိုင်သော သိန္ဓောမြင်းမျိုးပင် ဖြစ်လင့်ကစား ဆင်းရဲသော မုဆိုးမအိမ်တွင် ဖြစ်ရပါမူ အစာရေစာ ဝလင်စွာ မစားရသဖြင့် အဖိုးထိုက်သည့်မြင်းတစ်ကောင် ဖြစ်မလာနိုင်ပေ။ အမှီကောင်းရှိပါမှ တိုးတက်ကြီးပွားရသောသဘောကို နားလည်ရပေမည်။

## ၃၅။ နွယ်သို့မကျင့် ကြာသို့ကျင့်

မင်းခယောက်ျား၊ ထိုအပြားကား၊ ပိုင်းခြားမှတ်ဘိ၊ နွယ်ဇာတိသို့၊ မိမ္မိမှီကာ၊ တည်နေရာကို၊ မှန်စွာမချွတ်၊ ဖျက်ဆီးတတ်နှင့်၊ သတပတ်ကြာ၊ ပဒုမ္မာသို့၊ မှီရာအားကို၊ ထင်ရှားကျက်သရေ၊ တင့်တယ်စေသည့်၊ မသွေမှန်မျို့၊ ထိုနှစ်ဖို့တွင်၊ နွယ်သို့မကျင့်၊ ကြာသို့ကျင့်လျက်၊ သခင့်အကျိုး၊ ယုတ်မညှိုးအောင်၊ အားကြိုးလုံ့လ၊ မလစ်ကြနှင့်၊ (၃၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

အစိုးရမင်းတို့၏ တာဝန်ကို ထမ်းဆောင်နေရသူတို့သည် နွယ်ကဲ့သို့မကျင့်ဘဲ ကြာပင်ကဲ့သို့ ကျင့်ရာ၏။ နွယ်မှာ မိမိတည်ရာ သစ်ပင်ကို ဖျက်ဆီးတတ်၏။ ပဒုမ္မာကြာမှာမူ မိမိတည်ရာ ရေကန်ကို လှပတင့်တယ် ကျက်သရေရှိစေ၏။ ထိုနှစ်မျိုးရှိသည့် အနက် နိုင်ငံ့ဝန်ထမ်းများသည် ကြာသို့ ကျင့်ကြရာ၏။

## ၃၆။ ဆေးလေးငြိမ်သက် မာန်မတက်နှင့်

လိမ္မာယဉ်ကျေး၊ ဆေးလေးငြိမ်သက်၊ မာန်မတက်နှင့်၊ မွေ့ညက်နူတ်ချို၊ စကားဆိုလည်း၊ တောင်လိုဘယ်ခါ၊ မမောက်ရာဘူး၊ နာဖွယ်ပြစ်ကင်း၊ နူတ်သံညင်းနှင့်၊ စောင်းငြင်းအသွင်၊ နာတိုင်းဝင်စေ၊ အချိုတွင်နူတ်၊ အဟုတ်မှန်စွာ၊ ပျားထက်သာရှင့်၊ ဝါစာပိယ၊ သဘာဝကား၊ လောကလူ့ဘော်၊ တုမမြော်အောင်၊ အကျော်နတ်ဆေး၊ နူတ်ချိုအေးက၊ ရွှေပေးမပြီး၊ နားမငြီးတည့်။ (၃၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

မာန်မာနကို ချိုးနှိမ်ပြီး ငြိမ်သက်အေးဆေးစွာ နေထိုင်ပါလော့။ စကားပြောသည့်အခါ သိမ်မွေ့ချိုသာစွာ ပြောပါလေ။ တောင်လိုမောက်မာစွာ မပြောပါနှင့်။ ညင်းညံ့သာယာသော စကားဖြင့် ကြားရသူတိုင်း နားဝင်အောင် ပြောလျှင် ထိုစကားသည် ပျားရည်ထက် ချိုသာပြီး လူတိုင်းချစ်ခင် နှစ်သက်ခြင်းကို ခံရမည်ကား မလွဲချေ။ အဘယ်ကြောင့်ဆိုသော် မာန်မာနမရှိ၊ အပြစ်ကင်း၍ ချိုသာသောစကားသည် တန်ခိုးကြီးလှသည့် နတ်ဆေးတစ်ပါးပင် ဖြစ်သောကြောင့်ပေတည်း။

## ၃၇။ လူမှာလူရေး လွန်ရှုပ်ထွေး၏

တိုင်းခန်းပြည်ရွာ၊ ပြည်ရေးရာထက်၊ လူမှာလူရေး၊ လွန်ရှုပ်ထွေးခဲ့၊ အိမ်ရေးအိမ်ခန်း၊ ဝေတမ်းဝေပုံ၊ ဤနှစ်စုံလည်း၊ လူ့ဘုံလူ့ရပ်၊ ထပ်ထပ်ဖြစ်ပွား၊ လွန်များပြား၏။ (၃၇၃)

## ဆိုလိုရင်း အဓိပ္ပာယ်

တိုင်းရေးပြည်ရေး ကိစ္စများထက် လူရေးလူရာကိစ္စများသည် လွန်စွာရှုပ်ထွေးလှ၏။ ဃရာဝါသ အိမ်မှုကိစ္စသည် ရှုပ်ထွေးလှသကဲ့သို့ အိမ်သားအချင်းချင်း၊ သားသမီးအချင်းချင်းကြားတွင် အမွေဆက်ခံ ခွဲဝေရခြင်း ကိစ္စသည်လည်း နက်နဲရှုပ်ထွေးလှ၏။ ဤကိစ္စနှစ်ရပ်သည် လူ့ဘုံလူ့ရပ် လူ့လောကတွင် အထပ်ထပ်အခါခါ များပြားစွာ ဖြစ်နေကြကုန်၏။

## ၃၈။ မျက်မာန်ရဲရဲ ခွေးနှယ်ခဲ

ဤလူ့ရပ်ဌာန်၊ လွန်ခက်ထန်လျက်၊ မျက်မာန်ရဲရဲ၊ ခွေးနှယ်ခဲ၍၊ အစွဲမပြေ၊ ထဲမကျေဘဲ၊ အမွေဟူက၊ ရှိတတ်ကြ၏၊ ထိုမျှသားချင်း၊ အူတုံဆင်းသား၊ အရင်းအချာ၊ ဉာတကာတို့၊ မေတ္တာပျက်ပြုန်း၊ မုန်းကြသေအောင်၊ စိမ်းသွေရှောင်ခဲ့၊ (၃၇၉)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောက၌ တစ်ဦးနှင့်တစ်ဦး ခွေးပမာ ခက်ထန်ကြမ်းကြုတ်စွာ တိုက်ခိုက်ငြင်းခုံရတတ်သော အမွေကိစ္စသည် ရှိတတ်ကြ၏။ အမွေကြောင့် တစ်အူတုံဆင်း မောင်ရင်းနှမအရင်းအချာများသည်ပင် တစ်ယောက်နှင့်တစ်ယောက် မေတ္တာပျက်ပြီး မုန်းတီးကြကာ သူစိမ်းများအဖြစ်သို့ ရောက်သွားတတ်ကြ၏။ အမွေကိစ္စကို သတိပြုကြရာ၏။

## ၃၉။ ဝါးပေငှက်ပျော ကျူသဘောသို့

ဝါးပေငှက်ပျော၊ ကျူသဘောသို့၊ လောကူပမာ၊ ထင်စွာပြကတော့၊ အမွေ့ဥပဒေ၊ နည်းလေးထွေကို၊ သိစေစေ့ငု၊ မှတ်နိုင်းရှုလော့၊ ဤလူ့ဘဝ၊ လူ့လောက၌၊ မိဘနှစ်ပါး၊ ရှိထင်ရှားစဉ်၊ သားသမီးစု၊ လိုဟုအမွေ၊ မတောင်းစေနှင့်၊ ပေသို့မှတ်ရာ၊ သေမှသာတည့်၊ ထက်ပါအောက်သား၊ ရှိခဲ့ငြားသော်၊ ဝါးနှင့်တူစေ၊ လိုက်သင့်ဝေလော့၊ မွေမခံထိုက်၊ သားမိုက်တို့မှာ၊ သီးရုံသာသို့၊ ပမာငှက်ပျော၊ မှတ်သဘောတည့်၊ (၃၈၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ဝါးပင်၊ ပေပင်၊ ငှက်ပျောပင်၊ ကျူပင်လေးမျိုးကို ပုံပြု၍ လူတို့တွင် အမွေဆက်ခံနည်း လေးနည်းရှိ၏။ မိဘများ အသက်ရှိနေစဉ် သားသမီးတို့ အမွေမတောင်းခံရချေ။ မိဘများမရှိ၊ သေလွန်မှသာ ဝါးပင်နှင့်တူသော လင်ပါ မယားပါသားသမီးများ လက်ရှိသားသမီးများကို အလိုက်သင့် ဝေပေးရမည်။ ပေပင်နှင့်တူသော သားရင်း သမီးရင်းတို့သည် အမွေဆက်ခံနိုင်၏။ ငှက်ပျောပင်နှင့် ကျူပင်နှင့်တူသော သားသမီးများကား အမွေမခံစားထိုက်ချေ။

## ၄၀။ ကိုယ့်ကိုယ်ကိုသာ အကောင်းထင်

လူ့လောကဥ္စ၊ သူများအမိုက်၊ ကိုယ်ဥ္စထင်ကာ၊ သိလွယ်စွာ၏၊ ကိုယ်မှာမိုက်ငြား၊ ကိုယ့်အမှားကို၊ ကိုယ်ကအမြဲ၊ သိနိုင်ခဲစွ၊ ခပဲပုံယင်၊ ဤလူရှင်ကား၊ ကိုယ်ပင်ကိုယ်သာ၊ ကိုယ်လိမ္မာဟု၊ အရာတိုင်းမှတ်၊ ထင်မှားတတ်၏၊ (၃၉၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လောကတွင် သူတစ်ပါး မိုက်မဲသည်ကို ကိုယ်က သိလွယ် မြင်လွယ်ကြ၏။ ကိုယ့်အမိုက်၊ ကိုယ့်အမှားကိုမူ ကိုယ်တိုင်သိနိုင်ခဲလှ၏။ အဘယ်ကြောင့်ဆိုသော် လူဟူသော သတ္တဝါသည် မိမိသည်သာလျှင် အရာရာ၌ တတ်သိသည်။ လိမ္မာသည်ဟု အမြဲထင်မှတ်လေ့ရှိကြကုန်သောကြောင့် ဖြစ်၏။

# ၁၆။ ကြီးပွားကြောင်းတရား

လူ့လောက လူ့ဘဝသို့ ရောက်လာ၊ ရလာသူတိုင်းအတွက် မရှိမဖြစ် ကောင်း ရှိရမည့်အရာများမှာ ပညာ၊ ဥစ္စာ၊ ကျော်စောမှု၊ မိတ်ဆွေ၊ ရာထူးဂုဏ်ရှိန် စသည်တို့ ဖြစ်ကုန်၏။ ထိုထိုသော တရားတို့နှင့် ပြည့်စုံနိုင်စေရန်မှာ သူ့ဘာသာသာသူ ဖြစ်ထွန်းလာမည် မဟုတ်။ မိမိ၏ကံဉာဏ် ဝီရိယနှင့် လောကီရေးရာ လိမ္မာကျွမ်းကျင်မှုတို့ကို ပိုင်နိုင်စွာ အသုံးချ ကျင့်သုံးနိုင်ပါမှ ရရှိနိုင်သော အရာများဖြစ်၏။

ကမ္ဘာ့သမိုင်းစဉ်တစ်လျှောက် ကြီးပွားချမ်းသာသူများကို ကြည့်လျှင် သူတို့ ဘာကြောင့် ကြီးပွားချမ်းသာရသည်ကို နောက်ကြောင်းလိုက်ကြည့်လျှင် အထင်အရှား တွေ့နိုင်ပါ၏။ အချို့မှာ ကိုယ်ကျင့် တည်ကြည်ကောင်းမွန်ကြ၏။ အချို့မှာ ဉာဏ်ပညာ အမြော်အမြင် ကြီးမားကြ၏။ အချို့မှာ လုံ့လ ဇွဲ ဝီရိယ အားသန်ကြ၏။ အချို့မှာ မိတ်ကောင်း ဆွေကောင်းများ ရှိကြ၏။ အချို့မှာမူ ရပြီးသော ဥစ္စာပစ္စည်းများကို စနစ်တကျ ဝေခွဲအသုံးပြုတတ်ကြ၏။ ထိုသူတို့၏ အရည်အသွေးကောင်းများသည် လူ့လောက၌ လူတစ်လုံးသူတစ်လုံးအဖြစ် ကြီးပွားချမ်းသာလိုသူတိုင်း ဆည်းပူးရယူရမည့် ကြီးပွားချမ်းသာကြောင်းတရား ဖြစ်၏။

မဟာသုတကာရီခေါ် မဃဒေဝလင်္ကာသစ်ကြီးကို စီရင်ဖွဲ့ဆိုတော်မူခဲ့သော မန်လည်ဆရာတော်ကြီးသည် လူ့ဘဝတွင် ချမ်းသာကြီးပွားချင်လျက်နှင့် ကြိုးစားလျှင် ကြီးပွားနိုင်မည့် အလားအလာကောင်းများရှိလျက်နှင့် လူစွမ်းလူစ ညံ့ဖျင်းခြင်း စသည့် အကြောင်းအမျိုးမျိုးကြောင့် ဆင်းရဲဒုက္ခရောက်နေကြသူများအပေါ် ကြီးမားသော ကရုဏာထားရှိတော်မူခဲ့၏။ ထို့ကြောင့် ဆရာတော်ကြီးသည် အပေါ်သို့ လှမ်းတက်လိုသူများ အတွက် လှေကားကို အသင့်ထောင်ပေးထားသည့်ပမာ ကြီးမားသော မေတ္တာဖြင့် လောကီ

ကြီးပွားရေး၊ လောကုတ္တရာ ကြီးပွားချမ်းသာရေးတို့အတွက် နည်းမှန် လမ်းကောင်းများကို သူ၏လင်္ကာသစ်ကြီးထဲ၌ အကြောင်းအားလျော်စွာ ထည့်သွင်းစပ်ဆိုထားခဲ့၏။

ထိုထိုသော ကြီးပွားချမ်းသာရေး နည်းလမ်းကောင်းများသည် လောကီဘုံသား လူရှင်တို့အတွက် လမ်းညွှန်အဖြစ်လည်းကောင်း၊ ဆုံးမစာအဖြစ်လည်း မှတ်ယူကာ မိမိတို့ဘဝတွင် လက်တွေ့ကျင့်သုံးလိုက်နာသင့်လှသဖြင့် ထိုကြီးပွားချမ်းသာခြင်းဆိုင်ရာ လမ်းညွှန်၊ ဆုံးမစကားများကို စိစစ်ရွေးချယ်ကာ အောက်တွင် ဖော်ပြလိုက်ပါ၏။ ကျင့်သုံးလိုက်နာသူအားလုံး ကောင်းကျိုးချမ်းသာကို အနေးနှင့်အမြန် ရရှိခံစားကြရမည်မှာ ဧကန်ပင် ဖြစ်ပါ၏။

## ၁။ ပြစ်မှားရှုတ်ချ မပြုရ

ဂုဏာဝယ၊ ဝုဍ္ဍကိုယ်ထက်၊ ဂုဏ်သက်နှစ်ပါး၊ ကြီးသူအားလည်း၊ ပြစ်မှားရှုတ်ချ၊ မပြုရဘူး၊ ဆူးကျဖက်ပေါက်၊ ဖက်ပေါက်ဆူးကျ၊ ဆိုကြသဖွယ်၊ ကိုယ်ဝယ်ချည်းပေ၊ ပြစ်ရောက်ချေ၏၊ (၁၇၆)

### ဆိုလိုရင်း အဓိပ္ပာယ်

မိမိထက် အသက်အားဖြင့်လည်းကောင်း၊ ဂုဏ်အားဖြင့်လည်းကောင်း ကြီးမြတ်သူတို့အား ပြစ်မှားရှုတ်ချခြင်း မပြုရာ။ ပြုမိပါက ဆူးကို ဖက်ပေါက်၊ ဖက်ပေါ်ဆူးကျ ပမာ မိမိသာလျှင် အပြစ်ရောက်ရချေ၏။

## ၂။ နောင်မှာသူ့လက် ပျက်ကြီးပျက်၏

တရားမဲ့သိး၊ ပြုကျင့်ပြီးလျှင်၊ ပွားကြီးသသူ၊ ထိုမျှလူကား၊ နောင်မှာသူ့လက်၊ ပျက်ကြီးပျက်၏၊ အသက်ကိုမျှ၊ မရချမ်းသာ၊ ရှိတတ်စွာခဲ့၊ (၁၈၅)

### ဆိုလိုရင်း အဓိပ္ပာယ်

တရားလက်လွှတ်ပြုသူတို့သည် ပြုစဉ်က မိမိကိုယ်ကို ဟုတ်လှပြီထင်ရသော်လည်း နောင်တစ်ချိန်တွင် သူတစ်ပါး၏လက်တွင် ပျက်စီးရသည်သာ ဖြစ်၏။ အသက်ကိုပင် ချမ်းသာမရ ဖြစ်တတ်ကြ၏။

## ၃။ လင်းပွင့်တိုင်းပြည် သာကြောင်းတည်း

နေလဂြိုဟ်သွား၊ ဖြောင့်သားတစ်ဖြာ၊ မိုးမှန်စွာနှင့်၊ ဩဇာတက်ဖြိုး၊ သီးမျိုးပေါ်ယယ်၊ အန္တရာယ်ကင်းငြိမ်း၊ မုဒိမ်းမထွက်၊ စစ်မက်လည်းကင်း၊ ချင်းချင်းညီညွတ်၊ ဖြောင့်မတ်တရား၊ သုံးပါးရတနာ၊ ရိုသေစွာလျက်၊ သင်္ဃာရဟန်း၊ စောင့်မှန်းအကျင့်၊ ဤဆယ်ဆင့်ကား၊ လင်းပွင့်တိုင်းပြည် သာကြောင်းတည်း၊ (၁၉၁)

## ဆိုလိုရင်း အဓိပ္ပာယ်

တိုင်းကားပြည်ရွာ သာယာကြီးပွားကြောင်းတရား ဆယ်ပါးရှိ၏။ ထိုဆယ်ပါးကား နေလကြိုဟ်တို့ ဖြောင့်ဖြောင့်သွားခြင်း၊ မိုးမှန်ခြင်း၊ မြေဩဇာကောင်း၍ သီးနှံအထွက် ပေါများခြင်း၊ ဘေးအန္တရာယ်ငြိမ်းခြင်း၊ သူခိုးမုဒိမ်းတို့မရှိခြင်း၊ စစ်မက်ကင်းခြင်း၊ အချင်းချင်းညီညွတ်ခြင်း၊ တရားစောင့်၍ ဖြောင့်မတ်ခြင်း၊ ရတနာသုံးပါးကို ရိုသေလေးစားခြင်း၊ ရဟန်းသံဃာတို့ အကျင့်သီလ စောင့်ထိန်းကြခြင်းတို့ပေတည်း။

## ၄။ တိုင်းကားရွှေပြည် သာကြောင်းမည်

လယ်ယာလုပ်မျိုး၊ ပြည့်ဖြိုးပေါစည်၊ ကုန်သည်ဖြင်ပေါ၊ သဘောကျင့်မြတ်၊ မှူးမတ်ပည်းဖြင်၊ ကြားမြင်သုတ၊ သီလရှိမှန်း၊ ရဟန်းသံဃာ၊ အရိယာများပြား၊ ဤလေးပါးလည်း၊ တိုင်းကားရွှေပြည်၊ သာကြောင်းမည်၏။ (၁၉၁)

## ဆိုလိုရင်း အဓိပ္ပာယ်

တိုင်းပြည်သာယာ စည်ပင်ကြောင်းတရားလေးပါးရှိ၏။ ထိုလေးပါးကား လယ်ယာစပါး သီးနှံများ ဖြစ်ထွန်းအောင်မြင်ခြင်း၊ ကုန်သည်များ ပေါများခြင်း၊ ကိုယ်ကျင့်မြင့်မြတ်သော နိုင်ငံ့ဝန်ထမ်း မှူးမတ်များရှိခြင်း၊ အကြားအမြင်၊ ဗဟုသုတနှင့် သီလမြဲမြံသော အရိယာသံဃာများရှိခြင်း တို့ပေတည်း။

## ၅။ ပစ္စည်းဥစ္စာ ရကြောင်းရှာ

ယောက်ျားတံထွာ၊ ဓမ္မတာဖြင့်၊ ပညာဥစ္စာ၊ ရကြောင်းရှာ၍၊ ပျော်ရာမနေ၊ တော်ရာနေမှ၊ အခြေရပြီး၊ ခိုင်းပွားဖြိုးလိမ့်၊ မြေကြီးတောင်ပို့၊ ပျားလဘို့သို့၊ လူတို့ကိစ္စ၊ လူ့လောကဥ္၊ သုတပညာ၊ ဥစ္စာပစ္စည်း၊ ရှာစုနည်းကို၊ နိဿရည်းစံပြု၊ မျှန္နိုင်းရှုလော့၊ (၂၄၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ယောက်ျားတို့ဓမ္မတာနှင့်အညီ ပျော်ရာမှာမနေ၊ တော်ရာမှာနေပြီး ဥစ္စာပစ္စည်းများကို ရှာဖွေရ၏။ ရပြီးသော ဥစ္စာကို ခြများ တောင်ပို့ဖို့ပုံ၊ ပျားများ ပျားလဘို့လုပ်ပုံတို့ကို နည်းယူကာ ပို၍ ကြီးပွားချမ်းသာအောင် ကြိုးစားပါလော့။ ထို့ပြင် လူ့လောကဥ္ မရှိမဖြစ် တတ်မြောက်ထားသင့်သော ပညာဗဟုသုတ၊ ဥစ္စာပစ္စည်း ရှာဖွေစုဆောင်းနည်းများကို စံထားအသုံးပြု၍ ရယူရှာဖွေပါလော့။

## ၆။ ခြောက်ဦးပုဂ္ဂိုလ် စည်းစိမ်တို၏

မိုးသောက်နေပေါ်၊ ကျူးကျော်အိပ်ခြင်း၊ ပျင်းရိကြမ်းကြုတ်၊ သောက်ထုပ်သေစား၊ ဝေးမြေတာသို့၊ သွားလာကိုယ်ထူး၊ အိမ်ယာကျူးဟု၊ ခြောက်ဦးပုဂ္ဂိုလ်၊ စည်းစိမ်တို၍၊ ပျက်ပြိုင်နွမ်းညှိုး၊ ဘုန်းမတိုးဘူး၊ (၂၄၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ရပြီးသော စည်းစိမ်ဥစ္စာ မတည်မြဲသူ ခြောက်ယောက်ရှိ၏။ ထိုခြောက်ယောက်မှာ မိုးသောက်ပြီး နေထွက်သည်ထိ အအိပ်ကျူးသူ၊ ပျင်းရိသူ၊ ကြမ်းကြုတ်သူ၊ သောက်စားမူးယစ်သူ၊ ဝေးရပ်မြေသို့ တစ်ကိုယ်တည်းသွားလာတတ်သူ၊ သူတစ်ပါးအိမ်ယာကို ကျူးကျော်သူတို့ ဖြစ်၏။

## ၇။ မမှန်မြွေဆိုး မှန်ရွှေအိုး

ကောင်းစားဆိုးစား၊ ဤနှစ်ပါးကား၊ အခြားနတ်လူ၊ မည်သူမပြု၊ မိမိမှုတည်း၊ ယခုဝတ္တမာန်၊ ပစ္စုပ္ပန်နှင့်၊ ရှေးလွန်ကြမ္မာ၊ အကြောင်းသာရှင့်၊ ကိုယ့်ဟာကေန်၊ မမှန်မြွေဆိုး၊ မှန်ရွှေအိုးဟု၊ ဆိုရိုးစကား၊ ရှိထင်ရှား၏၊ (၂၄၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ယခုဘဝ၌ ကောင်းစားနေသူ၊ မကောင်းစားဘဲ ဒုက္ခရောက်နေသူတို့သည် အခြားသော နတ်လူတို့က ပြုခဲ့သည်မဟုတ်ဘဲ မိမိပြုခဲ့သော အမှုကြောင့်သာ ဖြစ်၏။ ယခုပစ္စုပ္ပန်နှင့် အတိတ်ကပြုခဲ့သော ကံကြောင့် ဖြစ်ကုန်၏။ ကိုယ့်ပစ္စည်း ကေန်အမှန်ဖြစ်ပါက "မမှန်မြွေဆိုး၊ မှန်ရွှေအိုး"ဟူသော ဆိုရိုးစကားအတိုင်း ရွှေအိုးကို ရကြမည်ဖြစ်ပြီး မမှန်ပါက မြွေဆိုးနှင့် တွေ့ရပြီး အသက်ပါဆုံးရှုံးရတတ်၏။

## ၈။ လက်ငင်းချမ်းသာ လွန်တတ်စွာ

စနေအင်္ဂါ၊ နေ့ရက်ခါနှင့်၊ တာရာဂြိုဟ်မျိုး၊ ကောင်းကင်မိုးက၊ ပြစ်ကျိုးယုတ်မြတ်၊ ဘယ်ပြုတတ်လိမ့်၊ နက္ခတ်ချိန်သင့်၊ ငံ့လင့်ကုန်ကြ၊ လူ့ဗာလတို့၊ ရအံ့ချက်ချင်း၊ လက်ငင်းချမ်းသာ၊ လွန်တတ်စွာ၏၊ (၂၅၀)

## ဆိုလိုရင်း အဓိပ္ပာယ်

စနေ၊ အင်္ဂါ စသော နေ့ရက်များ၊ ကောင်းကင်ရှိ နက္ခတ်ဂြိုဟ်တာရာများသည် လူတစ်ဦး၏ ကောင်းကျိုးဆိုးကျိုးကို မည်သို့မျှ မပြုလုပ်နိုင်ကြချေ။ ထိုသို့ ဘာမျှ မဖန်တီး မပြုလုပ်နိုင်သော နေ့ရက်၊ နက္ခတ်ဂြိုဟ်တာရာများကို ယုံစားငံ့လင့်ကာ လောကီအရေးကို ဆောင်ရွက်နေကြသူ လူ့ဗာလတို့မှာ ယခုပင် ရအံ့ဟု မျှော်လင့်ရင်းနှင့်ပင် လက်ငင်းရအံ့သော စီးပွားချမ်းသာတို့သည် လွန်မြောက်ခဲ့ကြရကုန်၏။

## ၉။ ဆတ်ဆတ်ချမ်းသာ ဆောင်တတ်စွာ

ဤလူတို့တွင်၊ လက်သို့မရောက်၊ တစ်ထောင်လောက်ထက်၊ လက်ရောက်ဥစ္စာ၊ တစ်ပဲသာလည်း၊ ကိုယ်မှာမချွတ်၊ ကျိုးရှိမြတ်၏၊ ဆတ်ဆတ်ချမ်းသာ၊ ဆောင်တတ်စွာရှင့်၊ (၂၅၀)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောက၌ လူတို့သည် မိမိလက်ထဲသို့ မရောက်သေးသော အသပြာတစ်ထောင်ကိုသာ အလေးမူ ဂရုစိုက်ပြီး မိမိလက်ထဲရှိ ငွေတစ်ပဲကို မထေလေးစား ဂရုမပြုဘဲ နေကြ၏။ အမှန်စင်စစ်မူ မိမိလက်ထဲ မရောက်သေးသော ငွေတစ်ထောင်ထက် ယခု မိမိလက်အတွင်းရှိ ငွေတစ်ပဲသည် မိမိကို ချမ်းသာအောင် ကေန်မုချ ဆောင်ကြဉ်းပေးနိုင်၏။

## ၁၀။ သာဓုနရတရားလေးပါး

စွတ်လက်မဖုတ်၊ မဖြုတ်မိတ်ဆွေ၊ ကိလေပါပ၊ မိုက်မောဟနှင့်၊ မိန်းမနိုင်ငံ၊ ဆက်ဆံမလိုက်၊ လူ၌ထင်ရှား၊ ဤလေးပါးကား၊ ပိုင်းခြားစတု၊ မှတ်ကြောင်းပြုသည်၊ သာဓုနရ၊ မြတ်ဓမ္မတည့်၊ (၂၅၅)

## ဆိုလိုရင်း အဓိပ္ပာယ်

စိုပြီးလက်ကို မခြောက်စေခြင်း၊ ပေါင်းသင်းပြီးသော မိတ်ဆွေစစ်ကို လက်တွဲမဖြုတ်ခြင်း၊ မောဟကိလေသာ မထူပြောခြင်း၊ မိန်းမတို့အလိုသို့မလိုက်ခြင်းဟူသော တရားလေးပါးသည် သာဓုနရတရားလေးပါးဟု လူ့လောက၌ ထင်ရှားကုန်၏။ ထိုတရားများသည် မြင့်မြတ်သောတရားများဖြစ်ကြ၏။

## ၁၁။ ဟိတချမ်းသာ၊ ပွားကြောင်းလာ

လူ့ပြည်ဘဝ၊ လူ့လောက၌၊ ထကြွရေးရာ၊ လိမ္မာစွာနှင့်၊ ဖွေရှာရငြား၊ ဥစ္စာများကို၊ ပျက်ပြားမပျောက်၊ ယွင်းမထောက်အောင်၊ စောင့်ရှောက်နိုင်ထ၊ သီလသဒ္ဓါ၊ ပညာရှိပေါင်း၊ မိတ်ကောင်းအမြဲ၊ မှိုဝဲပေါင်းဖော်၊ မမော်မကြွား၊ ပလွှားမဝါ၊ မျှကာသက်မွေး၊ ကျင့်ရေးစတု၊ ဤလေးခုတို့၊ ယခုဒိဋ္ဌ၊ ပစ္စက္ခ၌၊ ဟိတချမ်းသာ၊ ပွားကြောင်းလာ၏၊ (၂၅၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောက၌ ယခု မျက်မှောက်ဘဝ၌ ကြီးပွားချမ်းသာစေနိုင်သည့် အကြောင်းတရားလေးမျိုးရှိ၏။ ထိုလေးပါးကား မိမိထကြွလိမ္မာစွာနှင့် ရှာဖွေ၍ရသော ဥစ္စာများကို မပျောက်ပျက် မကုန်ခမ်းသွားအောင် စောင့်ရှောက်ထိန်းသိမ်းနိုင်ခြင်း၊ သီလသဒ္ဓါ ပညာရှိတို့နှင့် ပေါင်းဖော်ခြင်း၊ မမော်မကြွား၊ မပလွှားဘဲ နေနိုင်ခြင်း၊ မျှတစွာ အသက်မွေးတတ်ခြင်းတို့ ဖြစ်၏။

## ၁၂။ အားသွန်နိစ္စ မလွှတ်ရ

ပညာနှိုင်းညှိ၊ ဆင်ခြင်သိလျက်၊ သတိမလျှော့၊ မမေ့လျော့နှင့်၊ သူတော့်ဥစ္စာ၊ ကျင့်သမ္မာကို၊ ဘယ်ခါမချ၊ ကြိုးလုံ့လလော့၊ ပါပအစု၊ မကောင်းမှုဆို၊ အကုသိုလ်ကို၊

အလိုကျင့်သီး၊ ကျင့်မိပြီးလည်း၊ ပွားပြီးထပ်ကာ၊ မပြုရာရှင့်၊ ပယ်ခွာမနေး၊ မဖြစ်သေးကို၊ ဝေးစေအားသစ်၊ ကုသိုလ်ဖြစ်မှု၊ မဖြစ်ဖြစ်အောင်၊ ကျင့်ဆောင်ကြိုးစား၊ ဖြစ်ပြီးပွားဟု၊ လေးပါးသမ္မပ္ပဓာန်၊ လုံ့လမွန်ကို၊ အားသွန်နိစ္စ၊ မလွှတ်ရဘူး၊ (၂၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

အရာရာကို သတိပညာများဖြင့် ဆင်ခြင်နှိုင်းချိန်၍ ပြုရာ၏။ သူတော်ကောင်းအကျင့်ကို ကြိုးစားပြီး ကျင့်ကြံပါလော့။ မကောင်းမှု အကုသိုလ်တရားများကို မရှောင်နိုင်သဖြင့် ကျင့်မိပြီးသော်လည်း နောက်ထပ်တစ်ဖန် မပြုလုပ်မိစေရန် ကြိုးစားသင့်ကြ၏။ မဖြစ်ရသေးသော အကုသိုလ်ကို ရှောင်ရှားပြီး မဖြစ်ရသေးသည့် ကုသိုလ်တရားများကိုမှု မဖြစ်ဖြစ်အောင် ကြိုးစားကျင့်ဆောင်ပါလော့။ ဤဆိုအပ်ပြီးသော သမ္မပ္ပဓာန်တရားကိုမှု မဖြစ်ဖြစ်အောင် ကြိုးစားကျင့်ဆောင်ပါလော့။ ဤဆိုအပ်ပြီးသော သမ္မပ္ပဓာန်တရား လေးပါးကို အမြဲတစေ လုံ့လဝီရိယကြီးစွာနှင့် အားသွန်ခွန်စိုက် ကျင့်ဆောင် ဖြည့်ဆည်းပါလော့။

## ၁၃။ စွဲသုံးလေ့လာ မလွှတ်ရာ

ဓမ္မောဟဝေ ရက္ခတိဓမ္မစာရိ၊ မွေ့သိမ်နက်ကို၊ ပါဠိထင်ရှား၊ ဟောမြွက်ကြားတိုင်း၊ တရားမထောက်၊ အမှန်စောင့်က၊ စောင့်သည့်တရား၊ စောင့်သူအားကို၊ မမှားဆတ်ဆတ်၊ စောင့်သတတ်တည့်၊ ယွင်းချွတ်မရှိ၊ ဟုတ်လှဘိ၏၊ သုစိပုဘား၊ စကားလေးလုံး၊ စွဲသုံးလေ့လာ၊ မလွှတ်ရာဘူး၊ သမ္မာဝါဒ၊ မြဲမခွနှင့်။ (၂၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

တရားကို စောင့်သူအား တရားက ပြန်စောင့်သည်ဟူသော သိမ်မွေ့နက်နဲသော ဘုရားဟောတရားအတိုင်း တရားကိုစောင့်က ထိုတရားက စောင့်သူကို ဧကန်မလွဲပြန်၍ စောင့်တတ်၏။ ချွတ်ယွင်းမှုမရှိဘဲ မှန်လှ၏။ သုစိပုဘာဟူသော စကားလေးလုံးကို အမြဲလေ့လာပြီး ကျင့်သုံးပါလော့။ တရားကို မြဲမြဲစေပြီး မချွတ်ယွင်းစေနှင့်။

## ၁၄။ ပျားနှင့်ယင်ကို မျက်မြင်ပုံထား

ယောင်တီးယောင်တောင်၊ လူမှုရှောင်၍၊ သျှောင်တကျောကျော၊ ကိုယ်သန့်ကြောလျက်၊ လောကီမမွေတာ၊ တတ်ပညာနှင့်၊ ဥစ္စာရာဖွေ၊ မပြုနေသော်၊ သေအောင်ဒုက္ခ၊ ဆင်းရဲရလိမ့်၊ လောကဥ္စတွင်၊ ပျားနှင့်ယင်ကို၊ မျက်မြင်ပုံထား၊ မောင်ရှုစားလော့၊ ပျားကားအုံပြု၊ အရည်စု၍၊ ထားမှုလိမ္မာ၊ နောင်ချမ်းသာ၏၊ ယင်မှာသော်တုံ၊ ဝမ်းဝရုံမျှ၊ အုံကာသောက်စား၊ စုမထား၍၊ ရှာငြားမပြတ်၊ မရတော်၏၊ (၂၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့ပြုအပ်သော အမှုကိစ္စကို ရှောင်၍ သျှောင်တကျော့ကျော့၊ ကိုယ်ကိုသန့်ပြန့်အောင် ဝတ်ဆင်ကာ ဥစ္စာရှာဖွေခြင်းကို မပြုဘဲနေလျှင် သေသည့်တိုင်အောင် ဆင်းရဲရလိမ့်မည်မှာ ဧကန်ဖြစ်၏။ ပျားကောင်နှင့် ယင်ကောင်ကို မျက်မြင်ပုံစံထားပါလော့။ ပျားသည် အံ့ပြု၍ စုပ်ယူရှာဖွေလာသော ပျားရည်ကို စုဆောင်းထားတတ်သောကြောင့် အစာကို လိုသလို ချမ်းသာစွာ စားသုံးရ၏။ ယင်ကောင်မှာမူကား ရှာဖွေသမျှကို စုမထားဘဲ အကုန်စားပစ်လိုက်သဖြင့် နောင်ရှာမရသောအခါ ငတ်ပြတ်ပြီး သေရ၏။

## ၁၅။ အမှုကိစ္စ ပြီးမြောက်ရန် နည်းလမ်းငါးသွယ်

မျက်မှောက်ဘေးရန်၊ ဖြစ်ခဲ့ပြန်သော်၊ မန္တန်စုပ်ဘိ၊ ပညာရှိနှင့်၊ နှိုင်းညှိတိုင်ပင်၊ ချစ်ခင်စရာ၊ သာယာစကား၊ ပဏ္ဏာဖြား၍၊ ပေးကြားတံစိုး၊ ဆွေမျိုးဆက်နွယ်၊ ဤငါးသွယ်ဖြင့်၊ ကိုယ်ဝယ်ရောက်လာ၊ မှုရေးရာ၌၊ ချမ်းသာရမြဲ၊ မလွဲမှန်လှ၊ (၂၈၃)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိအတွက် ဘေးအန္တရာယ် ရောက်လာသောအခါ နည်းလမ်းငါးသွယ်ဖြင့် ပြီးမြောက်ရန် ကြိုးစားရာ၏။ ယင်းတို့ကား ဂါထာမန္တန်စုပ်ခြင်း၊ ပညာရှိနှင့် တိုင်ပင်ခြင်း၊ ချစ်ခင်ဖွယ်ရာစကားကို ပြောဆိုခြင်း၊ တံစိုးလက်ဆောင်ပေးခြင်း၊ မျိုးနွယ်စပ်ခြင်းတို့ပင်ဖြစ်၏။

## ၁၆။ ကောင်းမှုကောင်းကံ အရင်းခံ၍

လောကီဓမ္မတာ၊ လူတို့ရွာတွင်၊ အိမ်ရာထောင်ပြု၊ လူတစ်စုက၊ ကောင်းမှုကောင်းကံ၊ အရင်းခံ၍၊ သစ္စ ဓမ္မ၊ ဝီရိယနှင့်၊ စာဂဓိတိ၊ လေးပါးရှိက၊ ကင်းဘိအပါယ်၊ နောင်ဝယ်နတ်လူ၊ စိုးမပူတည့်၊ (၂၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

အိမ်ရာထောင်သော လူတို့သည် ကောင်းမှုကောင်းကံကို အရင်းခံ၍သာလျှင် အသက်ရှင်နေထိုင်ကြရ၏။ မှန်ကန် ဖြောင့်မတ်ခြင်း၊ လုံ့လရှိခြင်း၊ စွန့်ကြဲပေးကမ်းတတ်ခြင်း၊ စိတ်နှလုံး တည်ကြည်ဖြောင့်မတ်ခြင်းဟူသော တရားလေးပါးကို ကျင့်သုံးပါလော့။ ထိုအခါ အပါယ်မှလွတ်ပြီး နတ်လူချမ်းသာကို ရနိုင်ကြမည် ဖြစ်၏။

## ၁၇။ လေးဖို့ပြု၍ တစ်စုခံစား

ဤလူတို့ဘောင်၊ အိမ်ယာထောင်တို့၊ မရှောင်ပူချမ်း၊ ကြိုးပမ်းဥစ္စာ၊ ရအောင်ရှာလျက်၊ လေးဖြာခွဲမှု၊ လေးဖို့ပြု၍၊ တစ်စုခံစား၊ နှစ်စုအားလျှင်၊ စီးပွားယှဉ်ရာ၊ တစ်စုမှာမူ၊ လိုခါနောင်ဖို့၊ မချို့ဆောင်ဖွယ်၊ မြေဝယ်မြှုပ်ငြား၊ ပြုအပ်ငြား၏၊ (၂၈၅)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့ဘောင်လောက၌ အိမ်ယာထောင်ကြသူများသည် နေပူမိုးရွာမရှောင် စီးပွားဥစ္စာ ရှာဖွေကြရ၏။ ရလာသော စီးပွားဥစ္စာကို လေးပုံပုံ၍ တစ်ပုံကို သုံးစွဲ၍လည်းကောင်း၊ နှစ်ပုံကို စီးပွားရေးလုပ်ငန်း၌ အရင်းအနှီးလုပ်၍လည်းကောင်း၊ ကျန်တစ်ပုံကို နောင်လိုအပ်သောအခါ သုံးစွဲနိုင်ရန် လုံခြုံစွာ သိမ်းဆည်း၍လည်းကောင်း ထားရာ၏။

## ၁၈။ ပုဂ္ဂိုလ်မြတ်တို့ စီးပွားရှာနည်း

ပဏ္ဍိပုဂ္ဂိုလ်၊ မြတ်ထိုထိုတို့၊ ကိုယ်ကိုနှိမ့်ချ၊ ဓမ္မေနဖြင့်၊ ဓနဥစ္စာ၊ ရအောင်ရှာ၍၊ ချမ်းသာလည်းခံ၊ အသင့်စံလျက်၊ ကောင်းကြံကောင်းပြု၊ ကောင်းမှုရှေးရှု၊ ပေးကြလှူ၏၊ (၂၈၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာရှိပုဂ္ဂိုလ်တို့သည် ကိုယ်ကို နှိမ့်ချ၍ တရားသဖြင့် ဥစ္စာပစ္စည်းတို့ကို ရအောင် ရှာဖွေကြ၏။ ရလာသော စီးပွားဥစ္စာကို ချမ်းသာစွာ စားသုံးကြပြီးလျှင် ကောင်းမှုကုသိုလ်ရရေးကို ရှေးရှု၍ အလှူဒါနပြုကြ၏။

## ၁၉။ သက်ရှည်ကျန်းမာ တေဇာကျော်ဟိုး

သုစရိတ၊ ဓမ္မဟူသည်၊ လူတို့ပြည်ဝယ်၊ သက်ရှည်ချမ်းသာ၊ တေဇာကျော်ဟိုး၊ ဘုန်းတန်ခိုးကို၊ တက်တိုးစေတတ်၊ ဆေးမြတ်ဟုဆို၊ သမ္မာမိုရ်ရိတည့်၊ (၂၈၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ကောင်းစွာ ကျင့်ကြံအပ်သော တရားဟူသည် လူ့လောက၌ အသက်ရှည်ခြင်း၊ ဘုန်းတန်ခိုးကြီးခြင်းတို့ကို တိုးတက်စေတတ်သော ဆေးမြတ်တစ်ပါးဟု ဆိုကြ၏။ ကောင်းစွာကျင့်အပ်သော တရားလည်း ဖြစ်၏။

## ၂၀။ ချမ်းသာခွန်အား သက်ရှည်ပွား၏

ဗြဟ္မစိုရ်လေးဖြာ၊ တည်ကြခါမှာ၊ သတ္တဝါဟူဟူ၊ ဦးမည်းဖြူတို့၊ ရှင်လူခပင်း၊ ရောဂါကင်းလျက်၊ ဘေးရှင်းရန်ကွာ၊ ဆင်းအင်္ဂါနှင့်၊ ချမ်းသာခွန်အား၊ သက်ရှည်ပွား၏၊ (၂၈၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာဟူသော ဗြဟ္မစိုရ်တရားလေးပါးနှင့်အညီ နေထိုင်ကြကုန်သော ရှင်လူအပေါင်းတို့သည် အနာရောဂါကင်းခြင်း၊ ဘေးအန္တရာယ် မရှိခြင်း၊ ရုပ်ဆင်းအင်္ဂါနှင့် ပြည့်စုံခြင်း၊ ချမ်းသာခြင်း၊ ခွန်အားကြီးခြင်း၊ အသက်ရှည်ခြင်း ဟူသော အကျိုးကို ရကြကုန်၏။

## ၂၁။ ပစ္စည်းဥစ္စာ မရှာမမှီး အပျင်းကြီးနှင့်

ပစ္စည်းဥစ္စာ၊ မရှာမမှီး၊ အပျင်းကြီးနှင့်၊ ပွားစီးမပြု၊ ကုသိုလ်မှုလည်း၊ မရှုမမြော်၊ လူဖြစ်ချော်တို့၊ သူတော်သူမြတ်၊ ပရိသတ်ခွင်၊ မဝင်နိုင်တတ်၊ သေခန်းပြတ်သို့၊ လမ်းပြတ် စိတ်ပြတ်၊ လေလွင့်တတ်၏၊ (၂၉၀)

## ဆိုလိုရင်း အဓိပ္ပာယ်

အပျင်းကြီးသဖြင့် ပစ္စည်းဥစ္စာကို မရှာ၊ ကုသိုလ်ကောင်းမှုလည်းမပြုသူတို့သည် လူဖြစ်လာရရုံသာရှိပြီး လူသူပရိသတ်ထဲသို့ မဝင်နိုင်ကြဘဲ လေလွင့်ပျက်စီးတတ်ကြ၏။

## ၂၂။ ကြီးပွားကြောင်းတရား ခြောက်ပါး

လောကီအကျိုး၊ မယုတ်ညှိုးဘဲ၊ တက်တိုးပွားကြောင်း၊ မယားကောင်းနှင့်၊ သား ကောင်းဥစ္စာ၊ လိမ္မာသီတင်း၊ နာကင်းသောအား၊ ဤခြောက်ပါးတည့်၊ (၃၁၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ တိုးတက်ကြီးပွားကြောင်းတရား ခြောက်ပါးရှိကုန်၏။ ထိုခြောက်ပါး ကား မယားကောင်းနှင့် ပေါင်းသင်းရခြင်း၊ သားကောင်းရတနာ ထွန်းကားခြင်း၊ အကျင့်သီလရှိခြင်း၊ ဥစ္စာပစ္စည်း ရှာဖွေနိုင်ခြင်း၊ ယဉ်ကျေးလိမ္မာခြင်း၊ အနာရောဂါ ကင်းခြင်းတို့ပင်တည်း။

## ၂၃။ ကိုယ်နှင့်နီးသူကို ချီးမြှောက်ပါ

ကိုယ်နှင့်နီးက၊ မချီးမွမ်းစောက်၊ ဝမ်းမမြောက်ဘဲ၊ မမြှောက်နိုင်လို၊ ထိုထိုတစ်ပါး၊ ရပ်ဝေးသားမှ၊ မြှောက်စားဝမ်းသာ၊ ချီးတတ်စွာ၏၊ ထိုလူ့ဝါမျိုး၊ လူ့နွားဆိုးအား၊ ပြစ်ကျိုးယုတ်မြတ်၊ ထူးမမှတ်သည့်၊ မသိတတ်သူ၊ လူတစ်ဦးတည့်၊ (၃၁၆)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိနှင့် နီးကပ်နေထိုင်သူကို ဝမ်းမြောက်ဝမ်းသာစွာ မချီးမွမ်း မမြှောက်စားတတ်ကြ ချေ။ တစ်ရပ်တစ်ပါးမှ လာသူကိုသာ ဝမ်းမြောက်စွာ ချီးမွမ်း မြှောက်စားတတ်ကြ၏။ ထိုသို့သော လူမျိုးကား နွားဆိုးကြီးနှင့်တူပြီး အကျိုးအပြစ်၊ အယုတ်အမြတ်ကို မသိတတ် ကြချေ။

## ၂၄။ ခြကိုပုံထား ပျားကိုပုံပြု

ဓနဥစ္စာ၊ ပညာကုသိုလ်၊ ပွားစလိုက၊ ခြကိုပုံထား၊ ပျားကိုပုံပြု၊ ရရာစုလော့၊ လက်မှုနှုတ်မှု၊ ခုခုပညာ၊ ရှိတုံပါက၊ ရောက်ရာရောက်ရာ၊ အရပ်မှာလျှင်၊ မျက်နှာရွှင် လန်း၊ လနှယ်ဆန်း၍၊ ပန်းသို့လည်းပွင့်၊ ပွဲလယ်တင့်၏၊ အသင့်လွယ်ကာ၊ ရဥစ္စာနှင့်၊ ချမ်းသာကိုယ်ရေး၊ သက်မွေးကိစ္စ၊ မခဲကြဘူး၊ (၃၂၁)

**ပဋ္ဌာန်မြားငမောက်စာပေ**

## ဆိုလိုရင်း အဓိပ္ပာယ်

ဓနဥစ္စာ၊ ပညာ၊ ကုသိုလ်တရားများ တိုးပွားစေလိုပါက ခြကိုပုံထား၊ ပျားကို ပုံပြုကြပြီး ရရာကိုစုဆောင်းကြပါလော့။ လက်မှု နှုတ်မှု တစ်ခုခုကို တတ်မြောက်ထားပါက ရောက်ရာအရပ်တွင် မျက်နှာရွှင်လန်းလျက် ပစ္စည်းဥစ္စာ ရှာဖွေရေး၊ အသက်မွေးရေး၊ စိတ်ချမ်းသာကိုယ်ချမ်းသာရေးတို့ကို အခက်အခဲမရှိ လွယ်ကူစွာ ရရှိနိုင်ပါ၏။

## ၂၅။ ဖွင့်လှစ်ထင်စွာ မပြရာ

အခါအခါ၊ မရောက်ရာ၌၊ ပညာမိမိ၊ ရှိသည်အဖြစ်၊ ကိုယ့်သနစ်ကို၊ ဖွင့်လှစ် ထင်စွာ၊ မပြရာဘူး၊ မာဝိဘာဝယိ၊ မိန့်ပါဠိတိုင်း၊ တေမိလောင်းလျာ၊ မဆွံ့အလည်း၊ ဆွံ့အံ့ပင်းယောင်၊ အဟန်ဆောင်ရှင့်၊ ကြောင်လက်သည်းဝှက်၊ ပြင်မထွက်ဘဲ၊ ထဲနက်ထားသို၊ ပဟိုရ်ရွှေစည်၊ တီးတိုင်းမြည်သို့၊ (၃၂၃)

## ဆိုလိုရင်း အဓိပ္ပာယ်

အချိန်အခါ မရောက်သေးလျှင် မိမိ၏ပညာရှိသောအဖြစ်ကို မည်သည့်အခါမှ မပြရာ။ မာဝိဘာဝယိဟူ၍ ပါဠိတော်လာသည့်အတိုင်း ဘုရားအလောင်း တေမိမင်းသားသည်ပင် ဆွံ့အပင်းယောင် အယောင်ဆောင်ခဲ့၏။ ကြောက်လက်သည်းများသည် အရေးကိစ္စပေါ်လာသောအခါမှ အပြင်ကို ထုတ်ပြီး ရွှေပဟိုရ်စည်ကြီး တီးခတ်သလို အများသိစေရန် ဖွင့်လှစ်ထင်စွာ ပြရာ၏။

## ၂၆။ နည်းကောင်းမည်ထ ကျင့်ဝမ္မ

ရှာဖွေဥစ္စာ၊ ဤလူ့ရွာဝယ်၊ ချမ်းသာဖြစ်ကြောင်း၊ ဉာဏ်အပေါင်းကား၊ နည်းကောင်းမည်ထ၊ ကျင့်ဝမ္မတည့်၊ ရသည့်ချမ်းသာ၊ အရာရာကို၊ ကောင်းစွာမယွင်း၊ စောင့်ရှောက်ခြင်းကား၊ မည်လျှင်းအတ္ထ၊ ပဌအာရုံ၊ စည်းစိမ်ပုံ၌၊ ပြည့်စုံတိုင်းသာ၊ လိုရာရှင်အား၊ ခံစားနိုင်ဘိ၊ ဂုဏ်သတ္တိကား၊ မည်ရှိကာမ၊ တိဝဂ္ဂထည့်၊ လောကဥပဒေ၊ မလစ်စေနှင့်၊ တထွေထိုမှ၊ ဘဝငြိမ်းရာ၊ နောင်သံသာဝယ်၊ နတ်ရွာနိဗ္ဗာန်၊ အမွန်ထင်ရှား၊ မြတ်တရားလည်း၊ မည်ငြားမောက္ခ၊ တိဝဂ္ဂ၌၊ ထည့်ကမုန်စွာ၊ ဤလေးဖြာကား၊ ကျမ်းလာမိန့်မြွက်၊ စတုဝဂ်တည့်၊ ပျိုသက်နုစဉ်၊ တိဝဂ်ယှဉ်လျက်၊ ပညာရင့်ပြီး၊ သက်ဝယ်ကြီး၍၊ သေနီးအိုခါ၊ နိဗ္ဗာန်ရှာလော့၊ (၃၂၃)

## ဆိုလိုရင်း အဓိပ္ပာယ်

လောကီလူ့ရွာဝယ် ချမ်းသာကြီးပွားကြောင်းတရားဟူသော ဓမ္မ၊ ရသည့်ဥစ္စာကို မပျက်မယွင်းအောင် ကောင်းစွာ စောင့်ရှောက်ခြင်းဟူသော အတ္ထ၊ စည်းစိမ်ချမ်းသာကို ခံစားစံစားခြင်းဟူသော ကာမဟူ၍ တရားသုံးပါးရှိ၏။ ထိုတရားတို့ကို လောက အစဉ်အလာ ရှိသည့်အတိုင်း မလစ်ဟင်းပါစေနှင့်။ တစ်ဖန် နောင်သံသရာဝယ် နတ်ရွာ

န်ဗွာန်လားရာရောက်ရာ ကျင့်စဉ်ကား မောက္ခဖြစ်၏။ ထိုတရားလေးပါးရှိသည့်အနက် အထက်ပါသုံးမျိုးကို ပျိုးရွယ်စဉ်ကာလ၌ ကျင့်သုံးလိုက်နာပြီး ကျန်မောက္ခကျင့်စဉ်ကိုမူ ဉာဏ်ပညာ ရင့်ကျက်သော သေခါနီး အိုမင်းသောအခါ ကောင်းစွာ ရှာဖွေကျင့်ကြံပါလော့။

## ၂၇။ ကိုယ့်ရမ္မက်ဖြင့် ကိုယ်ပျက်ကြမြဲ

သံတွေခဲကို၊ သံထဲကဖြစ်၊ သံအညစ်ဖြင့်၊ စင်စစ်ပျက်ပြုန်း၊ သံချေးဖြုန်းသို့၊ နှိုင်းနှုန်းမယွက်၊ ကိုယ့်ရမ္မက်ဖြင့်၊ ကိုယ်ပျက်ရမြဲ၊ မချွတ်လွဲတည့်။ (၃၂၄)

## ဆိုလိုရင်း အဓိပ္ပာယ်

သံကို သံထဲက ဖြစ်လာသော သံချေးကဖျက်သကဲ့သို့ လူကိုလည်း သူ၏အတွင်း ရင်ထဲမှ ဖြစ်လာသည့် လောဘရမ္မက်က ဖျက်ဆီး၍ မိမိပင် ပျက်စီးရမည်မှာ အမှန်မလွဲ ဖြစ်၏။

## ၂၈။ မည့်ိုးစင်စစ် ပွားကြောင်းဖြစ်

အရတော်ပြန်၊ လူဖြစ်မှန်သော်၊ လက်မွန်ဦးစွာ၊ ကင်းအနာနှင့်၊ ရောဂါမစပ်၊ မြတ်သောလာဘ်ကို၊ လိုအပ်သည်သာ၊ ထိုနောက်မှာလျှင်၊ ငါးဖြာပဥ္စသီ၊ ထိန်းစောင့်ညီလျက်၊ ထိုပြီနောက်တိ၊ ပညာရှိထံ၊ နည်းခံဆုံးမ၊ နောက်မှတစ်ပါး၊ မြင်ကြားရှာဖွေ၊ နောက်ပေသုစရိုက်၊ ကိုယ်၌မကွာ၊ တည်စေရာ၏၊ တစ်ဖြာထိုမျှ၊ ခနရှာခြင်း၊ မပျင်းလုံ့လ၊ ဝီရိယကို၊ ဖြစ်ထစေရာ၊ ဤခြောက်ဖြာကား၊ လူ့ရွာ၌မို၊ လူဟုပြီတို့၊ လောကီလောကုတ်၊ မယုတ်အကျိုး၊ တိုးထက်ထိုး၍၊ မည့်ိုးစင်စစ်၊ ပွားကြောင်းဖြစ်၏၊ (၃၂၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့ဘဝကို ရလာသူတိုင်းသည် ရှေးဦးစွာ အနာရောဂါကင်းခြင်းဟူသည့် လာဘ်ကို ရယူနိုင်ရန် လိုအပ်၏။ ထို့နောက် ငါးပါးသီလ မြဲမြံစွာ စောင့်ထိန်းရန် လိုအပ်၏။ တစ်ဖန် ပညာရှိထံ ဆုံးမမှုခံယူရန်လို၏။ တစ်ဖန် အကြားအမြင် ဗဟုသုတ ရှာဖွေစုဆောင်းရန်လို၏။ တစ်ဖန် မိမိကိုယ်၌ စရိုက်ကောင်းများ တည်နေရန် ကြိုးစား၍ ဖြည့်ကျင့်ရာ၏။ ထို့နောက်တွင် မပျင်းမရိဘဲ ဥစ္စာခန ရှာဖွေသိမ်းဆည်းရာ၏။ ဤတရား ခြောက်ပါးကား လူတို့အတွက် လောကီ လောကုတ္တရာ နှစ်ဖြာသောအကျိုးကို ပေးပြီး မိမိဘဝ တိုးတက်ကြီးပွားကြောင်းတရားများလည်း ဖြစ်ပေ၏။

## ၂၉။ ပညာဥစ္စာ ရကြောင်းတရား

ပညာရှိထံ၊ ရိုကျိုးနှံ၍၊ နည်းခံသင်မှ၊ ပညာရ၏၊ ထကြွဝီရိယ၊ ဥဋ္ဌာနဖြင့်၊ လုံ့လရှိမှ၊ ဥစ္စာရ၏၊ မခွဲနှုတ်လျှာ၊ မှန်ကန်စွာလျှင်၊ သစ္စာတည်မှ၊ ကျော်စောရ၏၊ ကိုယ်ကဥစ္စာ၊ စွန့်လွှတ်ကာလျှင်၊ မေတ္တာရှေး၍၊ ပေးကမ်းတတ်မှ၊ မိတ်ဆွေရ၏။ (၃၂၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ ပညာရှိထံ နည်းနာခံပြီး သင်ယူမှ ပညာကို ရနိုင်၏။ ထကြွလုံ့လ ဝီရိယနှင့် ကြိုးစားလုပ်ဆောင်မှ ဥစ္စာကို ရနိုင်၏။ စကားကို မှန်ကန်စွာ ပြောဆို၍ သစ္စာတည်မှ ကျော်စောခြင်းကို ရနိုင်၏။ သူတစ်ပါးအပေါ် မေတ္တာထား၍ ပေးကမ်းစွန့်ကြဲတတ်မှ မိတ်ဆွေအပေါင်းအသင်းကို ရနိုင်၏။

## ၃၀။ တောင်းရမ်းတတ်က လူမုန်းခံရ

မာတာပိတာ၊ မိနှင့်ဘပင်၊ ဖြစ်ထစေကာ၊ ခါခါမပြတ်၊ တောင်းရမ်းတတ်က၊ လေးမြတ်မဲ့စွာ၊ စေတနာနှင့်၊ မေတ္တာမပွား၊ လွန်မုန်းခါး၏၊ (၄၂၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ သူတစ်ပါး၏ ပစ္စည်းကို တောင်းရမ်းလေ့ရှိခြင်းသည် မကောင်းချေ။ အဘယ်ကြောင့်ဆိုသော် မိမိ၏ မိရင်းဘရင်းပင်ဖြစ်စေကာမူ မကြာခဏ တောင်းရမ်းလာပါက စေတနာမထား မေတ္တာမပွားနိုင်သဖြင့် သားသမီးတို့၏ ခါးခါးသီးသီး မုန်းတီးခြင်းကို ခံရတတ်သောကြောင့် ဖြစ်၏။ အခြားသူများအဖို့ကား အဘယ်ဆိုဖွယ်ရာ ရှိတော့အံ့နည်း။

## ၃၁။ တောင်းတတ်သူသည် ငိုသောမည်၏

ဂုဏ်ဝါမကောင်း၊ မျက်နှာရောင်း၍၊ တောင်းတတ်သူသည် ငိုသောမည်၏၊ မကြည်မဖြူ မပေးသူလည်း၊ ထို့တူခေါ်လေ့၊ ပြန်၍ငိုသည်၊ သူပင်မည်၏၊ စိတ်ကြည်မနူး၊ နှစ်ဦးနှစ်ဝ၊ ဟူသမျှပင်၊ ဒေါသမလွတ်၊ (၄၂၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ကိုယ့်ကိုယ်ကို နှိမ့်ချ၍ တောင်းတတ်သူသည် ငိုနေသောသူနှင့် တူ၏။ ထို့အတူ တောင်းသည်ကို မကြည်မဖြူ မပေးနိုင်သူသည် ပြန်၍ ငိုပြနေသူနှင့် တူ၏။ ထို့ကြောင့် တောင်းသူရော တောင်းသည်ကို မပေးသူပါ အပြစ်မှ မလွတ်ကြချေ။

# ၁၇။ မနာလို ဝန်တိုမှုနှင့် ဒေါသတရား

လူတစ်ဦးတစ်ယောက်အား ပစ္စုပ္ပန် မျက်မှောက်တွင်သာမက လာမည့်သံသရာ အဆက်ဆက်၌ ဒုက္ခကြီးစွာ ပေးနိုင်သည့် အကုသိုလ်စိတ်တို့တွင် မနာလိုဝန်တိုစိတ်နှင့် ဒေါသတရားတို့သည် ထိပ်ဆုံးမှ ပါဝင်နေ၏။ မျက်မှောက်ဘဝ၌ပင် ဒေါသကြောင့် မိတ်ပျက်ရ၏။ မိဘဆရာသမားတို့အား စော်ကားကျူးလွန်၏။ ကြမ်းတမ်းသော ဖရုသ ဝါစာတို့ဖြင့် ယိုးစွပ်၏။ ဆဲဆို၏။ မကောင်းမှုဟူသမျှကို လွယ်လင့်တကူ ပြုကျင့်ကြ၏။ ဆင်းရဲပင်ပန်းစွာ နေရ၏။ နောင်သံသရာဘဝ၌မူ ဆိုဖွယ်ရာမရှိတော့ပြီ။ အပါယ်လေးပါး သာလျှင် လားရာရှိကြကုန်၏။

မနာလိုဝန်တိုမှုတို့သည်လည်း ဒေါသ၊ လောဘ၊ မောဟတို့မှ မွေးထုတ်ပေးလိုက်သော အကုသိုလ်တရားများ ဖြစ်၏။ တစ်စုံတစ်ယောက်က မိမိထက် သာလွန်သွားလျှင် ဖြစ်စေ၊ ပိုမိုချမ်းသာလျှင်ဖြစ်စေ အလိုလိုနေရင်း သူ၏သာလွန်ခြင်း၊ ပြည့်စုံချမ်းသာခြင်းကို မရှုစိမ့် မလိုလားတတ်သော သဘောရှိကြ၏။ ထိုမှလွန်လျှင် ထိုသူ၏ ချမ်းသာပြည့်စုံခြင်း၊ မိမိထက် သာလွန်နေခြင်းကိုပင် မာန၊ အာဃာတတို့ကို အရင်းပြုကာ ဖျက်လိုဖျက်ဆီး လုပ်လိုကြ၏။ မိမိအတွက်လည်း အကျိုးမရှိ၊ သူတစ်ပါးအတွက်လည်း အကျိုးမမြင်၊ နှစ်ဦးနှစ်ဖက်လုံး ဆုံးရှုံးနစ်နာရကုန်၏။

ဤလောက၌ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်အတွက်လည်းကောင်း၊ အုပ်စု၊ အသင်းအဖွဲ့၊ နိုင်ငံတစ်နိုင်ငံနှင့် ကမ္ဘာကြီးတစ်ခုလုံးအတွက်လည်းကောင်း ကြီးပွားချမ်းသာပြီး ငြိမ်းချမ်းသာယာစေလိုလျှင် ထိုမနာလိုဝန်တိုမှုနှင့် ဒေါသတရားများ ထိန်းသိမ်းစောင့်ရှောက် ထားနိုင်ရန် အရေးကြီးလှ၏။ ဝန်တိုမှုနှင့် ဒေါသတို့မရှိလျှင် မေတ္တာတရားသည် အလိုလိုဖြစ်ထွန်းလာမည် ဖြစ်၏။

ဤသဘောကိုသိ၍ လူသတ္တဝါတိုင်းအတွက် ဒေါသနှင့် ဝန်တိုမှုတို့ကို ချုပ်တည်းထိန်းသိမ်းထားနိုင်ရေးကို ဖော်ညွှန်းနည်းပေးလိုသဖြင့် ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် သူ၏မဃဒေဝလင်္ကာသစ်ကြီးထဲတွင် မနာလိုဝန်တိုမှုနှင့် ဒေါသတရားဆိုင်ရာ အဆိုအမိန့်များကို စာဖတ်သူတို့ စဉ်းစားဝေဖန် လိုက်နာကျင့်သုံးနိုင်ရန် ရေးဖွဲ့လမ်းညွှန်

ထား၏။ ယင်းတို့မှ စာဖတ်သူတို့ ပစ္စုပ္ပန် သံသရာ နှစ်ဖြာသောအကျိုးများစေခြင်းငှာ လင်္ကာသုံးသပ်ချက်အဆိုအမိန့်အချို့ကို ဖော်ပြလိုက်ပါသည်။

လူတိုင်းဝန်တိုမှုနှင့် ဒေါသတရားကို ထိန်းသိမ်းနိုင်ပြီး အချင်းချင်းမေတ္တာထားနိုင်ကြပါစေ။

## ၁။ ယွင်းဖောက်အလို ဝန်မတိုနှင့်

သူ့ကို ချီးမြှောက်၊ ကိုယ့်ဂုဏ်မြောက်၏၊ ယွင်းဖောက်အလို၊ ဝန်မတိုနှင့်၊ သူ့ကိုဂုဏ်နှိမ့်၊ ကိုယ့်ဂုဏ်နိမ့်၏၊ စည်းစိမ်အရာ၊ သူ့ချမ်းသာ၌၊ ဣဿာမပြု၊ ဝမ်းမြောက်ရှုလော့၊ (၁၈၅)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ပါးကို ချီးမြှောက်လျှင် ကိုယ့်ဂုဏ်လည်း မြင့်၏။ မနာလို ဝန်တိုခြင်း မပြုပါနှင့်။ သူတစ်ပါး၏ဂုဏ်ကို နှိမ့်လျှင် ကိုယ့်ဂုဏ်လည်း နိမ့်ရာ၏။ သူတစ်ထူး စည်းစိမ်ချမ်းသာ၌ ဝန်တိုခြင်းမပြုဘဲ ဝမ်းမြောက်ပါလော့။

## ၂။ ဝမ်းတွင်လှိုက်ဆူ မငြူစူနှင့်

သူ၌ပြည့်စုံ၊ စည်းစိမ်ပုံကို၊ မြင်တုံဘိလည်း၊ မျက်စိဘူးဝင်၊ မရှုချင်အောင်၊ ဝမ်းတွင်လှိုက်ဆူ၊ မငြူစူနှင့်၊ (၁၉၇)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ပါး၏ စည်းစိမ်ဥစ္စာ ပြည့်စုံခြင်းကိုမလိုလား၊ မမြင်ချင်အောင် ငြူစူ ဝန်တိုခြင်း မပြုပါနှင့်။

## ၃။ မလှကျိုးမဲ့ ဂုဏ်ချို့တဲ့

ဗာလအလို၊ သဝန်တိုနှင့်၊ ကိုယ်ကိုထောင်လွှား၊ အမြတ်ထား၍၊ သူ့အားနှိမ့်ချ၊ ပြုတတ်ကြမူ၊ မလှကျိုးမဲ့၊ ဂုဏ်ချို့တဲ့လျက်၊ ကဲ့ရဲ့ဘေးဒဏ်၊ ကိုယ်ကိုပြန်ပြီး၊ ဧကန်မုချ၊ ဒုက္ခကိုယ်မှာ၊ ရောက်တတ်စွာခဲ့၊ (၂၀၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ဝန်တိုခြင်းမရှိပါနှင့်။ မာန်မာနထား၍ သူ့ကိုနှိမ့်ချလျှင် ကိုယ့်မှာသာ အကျိုးမဲ့ဖြစ်ရတတ်၏။ မိမိသာ ဆင်းရဲဒုက္ခရောက်ရမည်မှာ ဧကန်ဖြစ်၏။

## ၄။ ပဋိဃာတ မျက်ဒေါသ

ပဋိဃာတ၊ မျက်ဒေါသဖြင့်၊ ပြင်းပြလွန်ကြမ်း၊ မီးနှင့်ယမ်းသို့၊ ပရမ်းပတာ၊ မဖြစ်ရာဘူး၊ စာနာဉာဏ်ရှု၊ ဆင်ခြင်ပြုလော့၊ နှုတ်မှုနှင့်သာ၊ ငြိမ်းသင့်ရာကို၊ လက်ပါခဲ့ကြား၊ ရန်ကြီးပွား၏၊ (၂၀၃)

**ပဏ္ဍာမြားမောက်စာပေ**

## ဆိုလိုရင်း အဓိပ္ပာယ်

ပြင်းထန်ကြီးမားသော အမျက်ဒေါသဖြင့် မီးပေါ်ယမ်းကျသည့်ပမာ ပရမ်းပတာ မဖြစ်သင့်ချေ။ အရာရာကို ဉာဏ်ဖြင့် ပြုသင့်၏။ လောကဥ္ဇ နှုတ်ဖြင့် ညှိနှိုင်းပြောဆို၍ ပြီးသင့်သောကိစ္စကို လက်ပါခဲ့ပါက ရန်သည် ပို၍ကြီးမားလာနိုင်၏။

## ၅။ ဝန်တိုစိတ်က မရှိရဘူး

စွန့်လွှတ်မကင်း၊ ပေးကမ်းခြင်းကား၊ အချင်းခပ်သိမ်း၊ မှုမျိုးငြိမ်း၍၊ သူစိမ်းသူကျက်၊ စည်ကြီးကြက်သို့၊ နှစ်သက်သဘော သင့်လိုက်လျောလော့၊ လောကီပုဂ္ဂိုလ်၊ လူထိုထိုလည်း၊ အလိုလိုက်ကြ၊ ကြိုက်ကြသည်ချည်း၊ ဖြစ်သတည်းရှင့်၊ ပိတ်ဆည်းပိတ်နည်း၊ အထည်းကုတ်ရှိ၊ ဝန်တိုစိတ်က၊ မရှိရဘူး၊ ဆုပ်ကပြိုကွဲ၊ ကြဲကလုံးတတ်၊ ဆိုရိုးမှတ်၏။ (၂၀၉)

## ဆိုလိုရင်း အဓိပ္ပာယ်

စွန့်လွှတ်ပေးကမ်းခြင်းသည် အမှုကိစ္စအဝဝကို ငြိမ်းစေနိုင်၏၊ သူစိမ်းသူကျက်များအားလုံးကလည်း နှစ်သက်သဘောကျကြ၏။ အလိုလိုက်လျှင် ကြိုက်ကြ၏။ ထို့ကြောင့် ဝန်တိုစိတ်မရှိစေရာ။ ပေးကမ်းခြင်းမရှိ၊ မိမိပစ္စည်းကို ဆုပ်ထားသူသည် အပေါင်းအသင်းမရှိ။ စွန့်ကြဲတတ်သူသာ အပေါင်းအသင်း မိတ်ဆွေများနှင့် တစ်စည်းတစ်လုံးတည်း ရှိတတ်၏။

## ၆။ စည်းစိမ်သာမှု မိစ္ဆာတရား ပွားတတ်ကြ

သူ့ထက်ကိုယ်က၊ ဣဿရနှင့်၊ ဘောဂဥစ္စာ၊ စည်းစိမ်သာမှု၊ မိစ္ဆာတရား၊ မောဟပွား၏။ (၂၃၂)

## ဆိုလိုရင်း အဓိပ္ပာယ်

သူက မိမိထက် တန်ခိုးအာဏာ၊ စည်းစိမ်ဥစ္စာ သာလွန်နေပါက လူတို့သည် ထိုသူတို့အပေါ် မကောင်းသော မောဟများပွား၍ မနာလို ဖြစ်တတ်ကြ၏။

## ၇။ သတိကင်းလျက် ဒေါသဖျက်

ဉာဏ်ပင်ရှိလည်း၊ သတိကင်းလျက်၊ ဒေါသဖျက်ရှင့်၊ ယုတ်တတ်နိုင်းဆ၊ သတိမ၍၊ တည်းတွဆင်ခြင်၊ မျက်မလျင်နှင့်၊ မြော်မြင်မရှိ၊ မျက်ဟုန်ဖိ၍၊ မိမိတို့မွေး၊ သိမ်းခွေးလိမ္မာ၊ မြေပါကျေးသား၊ သားမယားကို၊ စဉ်းစားမပြု၊ သတ်မိမှုကြောင့်၊ ရင်ထုမနာ၊ ကြီးစွာနောင်တ၊ ပူပန်ရ၏၊ (၂၃၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့တွင် ဉာဏ်ပင်ရှိသော်လည်း ဒေါသကြောင့် ပျက်စီးတတ်၏။ အရာရာကို တွေးဆင်ခြင်၍ အမျက်ဒေါသကို ထိန်းချုပ်ရာ၏။ ထိုသို့မဟုတ်မူ၍ ဒေါသဖြင့် မဆင်

မခြင်ပြုမိပါက သိန်းငှက်၊ ခွေးလိမ္မာ၊ မြေပါ၊ ကျေးသား၊ မယဲားကို သတ်မိသူကဲ့သို့ နောင်တကြီးစွာ ရတတ်ကြ၏။

## ၈။ သာဓုထပ်မျှ ချီးမွမ်းကြ

ရထားစက်ဟုန်၊ လည်သုန်သုန်ကို၊ မတုန်မလှုပ်၊ တည်စေချုပ်သို့၊ ဟုပ်ဟုပ် အမျက်၊ ကောခုစက်ကို၊ ဉာဏ်လက်သိမ်းအုပ်၊ လည်မလှုပ်အောင်၊ ထိန်းချုပ်နိုင်ငြား၊ ထိုသူ့အားလျှင်၊ ဘုရားတကာ၊ အရိယာတို့၊ လွန်စွာမငြီး၊ ဘဝင်တီးအောင်၊ ကောင်းချီး ခေါ်ပြု၊ သာဓုထပ်မျှ၊ ချီးမွမ်းကြ၏။ (၂၃၄)

## ဆိုလိုရင်း အဓိပ္ပာယ်

စက်ရထား၏ အရှိန်ပြင်းစွာ လည်ပတ်နေသောဘီးကို တည်တံ့သွားအောင် ပြုလုပ်နိုင်သကဲ့သို့ မိမိ၌ဖြစ်နေသော အမျက်ဒေါသကိုလည်း ထိန်းချုပ်နိုင်ရာ၏။ ထိုသူကို ဘုရားအစရှိသော အရိယာ သူတော်ကောင်းတို့သည် ကောင်းချီးသြဘာပေး၍ သာဓုခေါ်ကာ ချီးမွမ်းကြ၏။

## ၉။ လောဘဒေါသ မောဟအဟုန်

လောဘဒေါသ၊ မောဟအဟုန်၊ ဆတ်ဆတ်ခုန်၍၊ သံတုန်အူလှိုက်၊ မမူထိုက်ရှင့်၊ သူမိုက်သဘော၊ စရိုက်ပြောလျက်၊ ကုဋ္ဋော်မမွဲ နဇာနာတိ၊ အစရှိသား၊ ပါဠိဒေသနာ၊ ဟောမိန့်မှာတိုင်း၊ မှန်စွာစင်စစ်၊ ဒေါသဖြစ်က၊ ကျိုးပြစ်တရား၊ မသိငြားဘူး၊ (၂၃၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လောဘ၊ ဒေါသ၊ မောဟဟူသော အကုသိုလ်တရားများဖြင့် အရာရာ၌ သံတုန် အူလှိုက် မိုက်မဲစွာမပြုရာ။ မြတ်စွာဘုရား ဟောကြားတော်မူခဲ့သည့်အတိုင်း ဒေါသ အမျက်ဟူသော တရားသည် ဘာကိုမျှ မဆင်ခြင် မစဉ်းစားနိုင်ဘဲ ပရမ်းပတာပြုတတ်၏။ ဒေါသ၏ အပြစ်၊ ဒေါသထိန်းချုပ်နိုင်ခြင်း၏အကျိုးကို မသိနိုင်တော့ချေ။

## ၁၀။ မရှောင်စိတ်က မျက်ဒေါသ

ရေနိမ့်ရာစီး၊ မီးမြင့်ရာလောင်၊ ဆိုသောယောင်သို့၊ မရှောင်စိတ်က၊ မျက်ဒေါသနှင့်၊ မာနလွန်စွာ၊ မယစ်ရာဘူး၊ (၂၃၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ရေသည် နိမ့်ရာသို့ စီးသွားတတ်၏။ မီးသည် မြင့်ရာကို လောင်တတ်၏။ ထို့အတူ အမျက်ဒေါသသည် မည်သူ့အားမျှမရွေး အားလုံးကို ဒုက္ခပေးတတ်၏။ ထို့ကြောင့် မာနထောင်လွှားကာ ဒေါသနှင့် မပြုလုပ်ရာ။

## ၁၁။ သွားကိုပြ၍ ဒေါသမျက်ဆူ

မှုနည်ယုတ်မာ၊ ကြမ်းကြုတ်စွာဖြင့်၊ ဣဿာသဘော၊ ပြန့်ပြောများသူ၊ ခွေးနှင့်တူ၏၊ ခွေးဟူတုံက၊ လူမလူနှင့်၊ ဟိနဥက္ကဋ္ဌ၊ ယုတ်မြတ်လူရှင်၊ ပျိုအိုသွင်လည်း၊ မြင်မြင်သမျှ၊ သွားကိုပြ၍၊ ဒေါသမျက်ဆူ၊ ဟိန်းငြူစူ၏၊ (၂၃၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ယုတ်မာကြမ်းတမ်း၍ ဝန်တိုမှုများသူသည် ခွေးနှင့်တူ၏။ အဘယ်သို့နည်းဟူမူကား ခွေးသည် လှသူ၊ ရုပ်ဆိုးသူ၊ မြင့်မြတ်သူ၊ ပျိုသူ၊ အိုသူဟူ၍ မရွေးဘဲ တွေ့တိုင်းသောလူကို သွားကိုဖြဲပြ၍ ဒေါသဖြင့် ဟောင်တတ်သောကြောင့်ပေတည်း။

## ၁၂။ လဆုတ်သဘော ရွှေ့ရွှေ့လျော

ဆန္ဒာဒေါသ၊ ဘယာမောဟာ၊ လွန်ဆိုးစွာသား၊ လေးဖြာဂတိ၊ လိုက်စားငြိက၊ သီရိနွမ်းညှိုး၊ ဘုန်းမတိုးဘူး၊ တန်ခိုးသိမ်ဖျင်း၊ သတင်းညှဲ့ယုတ်၊ လဆုတ်သဘော၊ ရွှေ့ရွှေ့လျော၍၊ နစ်မျောဘဝ၊ ပါယ်တွင်းကျရှင့်၊ (၂၃၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ဆန္ဒ၊ ဒေါသ၊ ဘယာ၊ မောဟဆိုသော ဂတိလေးမျိုးကို မလိုက်စားရာ။ လိုက်စားမိပါက ဘုန်းကျက်သရေ၊ တန်ခိုးတေဇာများ ညှိုးနွမ်းယုတ်ညံ့ပြီး ဆုတ်သောလဝန်းကဲ့သို့ တစ်စတစ်စ ကျဆင်းကာ နောက်ဆုံးတွင် အပါယ်သို့ပင် ကျရောက်ရမည် ဖြစ်၏။

## ၁၃။ ကြမ်းကြုတ်ဝစန နှုတ်ဓားမ

ယုတ်မာစကား၊ ဒေါသအားဖြင့်၊ ပြစ်မှားချွတ်လွဲ၊ မစွပ်စွဲနှင့်၊ စွပ်စွဲဖရည်၊ ဆဲဆိုခုတ်သား၊ ကြမ်းကြုတ်ဝစန၊ နှုတ်ဓားမတည့်၊ သူများကိုယ်မှာ၊ အရာမရှိ၊ မခိုက်ထိဘူး၊ မိမိကိုယ်သာ၊ ဖြစ်တတ်စွာ၏၊ (၂၅၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ဒေါသတရား ရှေ့ထားပြီး ယုတ်မာသောစကားနှင့် သူတစ်ပါးကို မစွပ်စွဲပါနှင့်။ ကြမ်းကြုတ်စွာ ဆဲဆိုသောစကားသည် ဓားမကဲ့သို့ ထက်ပြီး သူများကို မထိခိုက်ဘဲ မိမိကိုယ်ကို ပြန်ပြီးထိခိုက်တတ်၏။

## ၁၄။ ဒေါသအမှု ပြစ်မှားပြုက

အပြစ်မဲ့ဘိ၊ သီလရှိသား၊ တိရစ္ဆာန၊ အဟိတ်မျှလည်း၊ ဒေါသအမှု၊ ပြစ်မှားပြုက၊ ယခုဘဝ၊ ဤဒိဋ္ဌပင်၊ ဒုက္ခဖြစ်ဆိုး၊ မကောင်းကျိုးဖြင့်၊ မိုးကြိုးလောင်မီး၊ ကျပျက်စီး၏၊ (၂၅၇)

**ပဏ္ဍာမြားမောက်စာပေ**

## ဆိုလိုရင်း အဓိပ္ပာယ်

အပြစ်မဲ့ပြီး သီလရှိသူ လူကိုမဆိုထားနှင့်၊ တိရစ္ဆာန်မျှကိုပင် ဒေါသရှေ့ထားပြီး မပြစ်မှားရာ။ ပြစ်မှားပါက ယခုဘဝ၌ပင် မိုးကြိုးပစ်ခြင်း၊ လောင်မီးကျခြင်းကို ခံရကာ ပျက်စီးရ၏။

## ၁၅။ ဝါစာဖရုသ် ဓားနှယ်ခုတ်

တရားကိုယ်မှာ၊ စဉ်မခွာနှင့်၊ ဝါစာဖရုသ်၊ ဓားနှယ်ခုတ်လျက်၊ ကြမ်းကြုတ်မျက်ရှိန်၊ နှုတ်ပုဆိန်ဖြင့်၊ မမြိန်ငေါက်ဆတ်၊ သူယုတ်မြတ်အား၊ ပြောတတ်ကုန်ဘိ၊ လူပါပိတို့၊ မိမိကိုယ်ကို၊ အပျက်လို၍၊ တူးဖြိုဆက်ဆက်၊ မိမိဖျက်သည်၊ မည်တံ့လတ်၏၊ (၂၆၃)

## ဆိုလိုရင်း အဓိပ္ပာယ်

တရားကိုစောင့်ပါ။ ပုဆိန်ဓားသွားကဲ့သို့ ထက်သော ကြမ်းကြုတ်သည့် စကားဖြင့် သူယုတ်တို့သည် သူမြတ်တို့အား ပြောဆိုတတ်ကြ၏။ ထိုလူမိုက်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင် ဖျက်ဆီးနေသကဲ့သို့ ဖြစ်၏။

## ၁၆။ ဒေါသပယ်ခွာ မျက်နည်းစွာ

ဒေါသပယ်ခွာ၊ မျက်နည်းစွာလျက်၊ ရတနာတစ်ဆူ၊ ဘသည်းအူလျှင်၊ ဗိုလ်လူများစွာ၊ သတ္တဝါအား၊ မေတ္တာသနား၊ ကိုယ်မခြားအောင်၊ တရားဂုဏ်နှစ်၊ မြဲစေရစ်လော၊ (၂၆၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ဒေါသတရားကို ဖယ်ရှားပြီး အများဗိုလ်လူ သတ္တဝါအပေါင်းအား ချစ်ခင်သနားခြင်းရှိပါလော့၊ ထိုသို့ မိမိကိုယ်နှင့်မခြား လူအများကို ချစ်ခင်သနားတတ်သော တရားဂုဏ်နှင့် မြဲစေပါလော့၊ (၂၆၃)

## ၁၇။ အမျက်မထွက်က အောင်ပွဲရ

လောင်ခြစ်ပွက်ဆူ၊ မျက်ထွက်သူကို၊ တုံ့မူအမျက်၊ ပြန်မထွက်က၊ အောင်ခက်နိုင်ခဲ၊ စစ်မြေထဲဝယ်၊ အောင်ပွဲရသည်၊ သူဟုမည်ရှင့်၊ မကြည်စိတ်စက်၊ အမျက်ထွက်သူ၊ ထိုသည့်လူနှင့်၊ အတူပြန်လျက်၊ မျက်မာန်ထွက်သော်၊ ရှေ့ထက်နောက်လူ၊ မိုက်သောဟူ၏၊ (၂၆၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ကိုယ့်အပေါ် အမျက်ဒေါသနှင့် ဆက်ဆံပြောဆိုလာသူကို ကိုယ်က အမျက်မထွက်ဘဲ နေနိုင်ပါက ထိုသူသည် စစ်မြေပြင်၌ အောင်ပွဲရသူနှင့်တူ၏။ အကယ်၍ အမျက်ထွက်နေသူကို မိမိက ပြန်၍ အမျက်ထွက်ပါက ထိုသူသည် ရှေ့လူထက်ပို၍ မိုက်မဲသူဖြစ်၏။

**ပဏ္ဍာမြေးငမောက်စာပေ**

## ၁၈။ ဆဲသူလူနွမ်း သွမ်းသာသွမ်း၏

ကျိုးပြစ်မသိ၊ မရှိဉာဏ၊ မိုက်ဝါဒနှင့်၊ လူ့ဗာလမျိုး၊ လနေမိုးကို၊ မျက်ငြိုးငြူစူ၊ ဆဲရေးမူလည်း၊ ဆဲသူလူနွမ်း၊ သွမ်းသာသွမ်း၏၊ သွားလမ်းအညီ၊ ရာသီပက္ခ၊ ကာလမရွေ့၊ သာလေ့ပူလေ့၊ ရွာမြဲလေ့တိုင်း၊ ပြကတေ့အရိုး၊ လနေမိုးတို့၊ နွမ်းညှိုးဂုဏ်ဝါ၊ ဘယ်ပျက်ရာလိမ့်၊ (၂၆၃)

## ဆိုလိုရင်း အဓိပ္ပာယ်

အကျိုးအပြစ်ကိုမသိ၊ ပညာမဲ့လူမိုက်တို့သည် လ၊ နေ၊ မိုးတို့ကို မျက်ငြိုးငြူစူပြီး ဆဲရေးသော်လည်း ဆဲသူသာ မောပန်းပြီး လူသွမ်းတစ်ယောက်ဖြစ်ရ၏။ အဘယ်ကြောင့်ဆိုသော် ကိုယ်က ဆဲရေးနေသော်လည်း လ၊ နေ၊ မိုးတို့သည် လုံးဝဂရုမစိုက်ကြဘဲ မိမိတို့၏ ရာသီဓမ္မတာ အလေ့အတိုင်း သာမြဲ၊ ပူမြဲ၊ ရွာမြဲပင်ဖြစ်၍ ၎င်းတို့၏ဂုဏ်ကို လုံးဝမထိခိုက်နိုင်ချေ။

## ၁၉။ အပယ်ဆတ်ဆတ် လားစေတတ်

မချစ်လူများ၊ မပွားနှလုံး၊ ဆိပ်တုံးပြည့်ဆူ၊ မြွေဟောက်တူသို့၊ ရန်သူဖြင်ပေါ်၊ အပြစ်ပြောလျက်၊ သေသောနောက်ဝယ်၊ အပါယ်ဆတ်ဆတ်၊ လားစေတတ်ဟု၊ ဟောမှတ်ဖော်ပြ၊ အက္ကောသ၏၊ ပဋ္ဌဒေါသာ၊ ဒေသနာကို၊ သေချာပိုင်းဆစ်၊ ဆင်ခြင်းစစ်လော့၊ (၂၆၃)

## ဆိုလိုရင်း အဓိပ္ပာယ်

အမျက်ဒေါသ ကြီးမားသူတို့၏ အပြစ်များကား ငါးမျိုးရှိသည်ဟု ဗုဒ္ဓမြတ်စွာက ဟောမြွက်ထား၏။ ထိုငါးပါးမှာ လူအများ၏ မုန်းတီးခြင်းကိုခံရခြင်း၊ အဆိပ်ပြင်းသော မြွေဟောက်နှင့်တူခြင်း၊ ရန်သူပေါ်ခြင်း၊ အပြစ်ဒုစရိုက်ထူပြောခြင်း၊ သေပြီးနောက် အပါယ်ငရဲသို့ ကျရောက်ရခြင်းတို့ ဖြစ်ကုန်၏။

## ၂၀။ ပဋိဃာတ်မျိုး ရန်မပျိုးနှင့်

ပဋိဃာတ်မျိုး၊ ရန်မပျိုးနှင့်၊ ရန်ငြိုးမထား၊ တရားမွေ့ညက်၊ မေတ္တာသက်၍၊ ရန်ဖက်မမူ၊ ဧရးမယူက၊ ရန်သူမဖြစ်၊ ချစ်ထက်ချစ်၏၊ (၃၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ဒေါသတရား ရှေ့ထားပြီး တစ်ဦးအပေါ်၌ ရန်စမပျိုးပါနှင့်။ ရန်ငြိုးကိုလည်း မထားပါနှင့်။ တရား၌ မွေ့လျော်သက်ဝင်ပြီး မေတ္တာထားကာ မည်သူ့ကိုမျှ ရန်ဖက်မပြုပါနှင့်။ ထိုသို့ ရန်ကို မတုံ့ပြန်သဖြင့် မိမိသည် ထိုသူ၏ ရန်သူမဖြစ်သည်သာမက တစ်ဦးကိုတစ်ဦး ပိုလို့ပင် ချစ်တတ်ကြ၏။

# ၁၈။ ချီးမွမ်းခြင်း

ပေးကမ်းခြင်းသည် အောင်မြင်ထမြောက်စေသော နည်းလမ်းတစ်ခု ဖြစ်သည်ကို ဖော်ကျူးလို၍ ရှေးပညာရှိများက **"ပေးကမ်းခြင်းဖြင့် အောင်ရာ၏"** ဟု ဆိုခဲ့ကြ၏။ ပေးကမ်းခြင်းဖြင့် တစ်ဖက်လူ၏ စိတ်နှလုံးကို ဆွဲဆောင်သိမ်းသွင်းရာ၌ အလွယ်တကူ အထိရောက်ဆုံးဖြစ်၍ လူချစ်လူခင် ပေါများစေသော နတ်ဆေးတစ်ပါးအဖြစ် မှတ်ယူထားကြ၏။ ပေးကမ်းခြင်းဟူသည် စွန့်ကြဲခြင်း၊ သူတစ်ဖက်သား၏ အလိုဆန္ဒကို ဖြည့်ဆည်းပေးခြင်း၊ သူ့အလိုသို့လိုက်ခြင်း၊ ချီးမွမ်းခြင်း၊ ကြည့်ရှုမစခြင်းဟူ၍ အစိပ္ပာယ်အမျိုးမျိုး ရှိရာ ယင်းတို့အထဲတွင် ချီးမွမ်းခြင်းသည် အမြင့်မားဆုံးနှင့် တန်ဖိုးအရှိဆုံး ဖြစ်၏။

ပေးကမ်းချီးမွမ်းခြင်းသည် အခြေအနေ၊ အခါအခွင့်၊ လူပုဂ္ဂိုလ်၊ အချိန်အခါကို လိုက်၍ ပြုရသော သူတော်သူမြတ်တို့၏ အလေ့အလာ၊ အကျင့်သိက္ခာတစ်မျိုးဖြစ်သဖြင့် လူတိုင်းနှင့် ထိုက်တန်အပ်စပ်သော အရာတစ်ခု မဟုတ်ချေ။ ချီးမွမ်းသူဘက်ကရော၊ ရယူသူဘက်ကပါ အနေအထားမှန်ပါမှ အဆင်ပြေ ပြီးမြောက်နိုင်သော အရာတစ်ခုဖြစ်ပါ၏။

ချီးမွမ်းသူဘက်မှ ထိုသူအား ချီးမွမ်းနိုင်လောက်သော အတွေးအခေါ်၊ ခံယူချက်နှင့် အကြောင်းရင်းရှိဖို့ လိုအပ်သကဲ့သို့ ချီးမွမ်းခံရသူဘက်ကလည်း ချီးမွမ်းခြင်းနှင့် ထိုက်တန်သော ဂုဏ်ဒြပ်အရည်အသွေးရှိရန်လည်း လိုအပ်၏။

ထိုသို့မဟုတ်လျှင် မျောက်ကိုချစ်၍ လည်မှာခြူဆွဲပေးမိသူကဲ့သို့ နားငြီးရုံသာ အဖတ်တင်ပြီး မည်သည့်အကျိုးကိုမျှ ရနိုင်မည်မဟုတ်ချေ။ ထို့ကြောင့် ချီးမွမ်းထိုက်သူ၊ ချီးမွမ်းရလောက်သော အရည်အသွေးရှိသူ၊ ချီးမွမ်းလိုက်ခြင်းအားဖြင့် ချီးမွမ်းသူနှင့် ချီးမွမ်းခံရသူ နှစ်ဦးစလုံးအတွက် ဂုဏ်တက်ပြီး အကျိုးများနိုင်သူတို့ကိုသာ စိစစ်ရွေးချယ်ကာ ချီးမွမ်းသင့်ကြ၏။

အခြားတစ်ဖက်မှလည်း ချီးမြှောက်သင့်သူကို မချီးမြှောက်ဘဲ ပစ်ပယ်ထားခြင်း၊ ချီးမြှောက်သော်လည်း မတန်မရာ နည်းပါးစွာ ချီးမြှောက်ခြင်းတို့သည်လည်း မပြုမိအောင် ဆင်ခြင်သင့်သော အချက်များဖြစ်၏။

ကျယ်ဝန်းထွေပြားလှသော လူ့လောကီ ဓလေ့အစဉ်အလာများထဲ၌ တစ်ခုအပါအဝင်ဖြစ်သည့် ချီးမြှောက်ခြင်းကို စိတ်ထင်ရာ အရမ်းကာရော မပြုသင့်ဘဲ ဆင်ခြင်တိုင်းထွာပြီးမှ ပြုသင့်လှ၏။

ထိုသဘောကို လူအများ သိရှိနားလည်ပြီး ခံယူကျင့်သုံးနိုင်ရန် ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် သူ၏မဃဒေဝလင်္ကာသစ်ကြီးတွင် မှတ်ဖွယ်၊ ကျင့်သုံးဖွယ်များအဖြစ် ဇာတ်နိပါတ် သက်သေဖုံထုံးများနှင့်တကွ ဖော်ထုတ်ညွှန်ပြထားခဲ့၏။ ယင်းတို့ကို ဆုံးမဩဝါဒကဲ့သို့တစ်မျိုး၊ ကျင့်သုံးဖွယ်နီတိများကဲ့သို့တစ်ဖုံ၊ သင်ခန်းစာ ရယူဖွယ် သံဝေဂများအဖြစ် တစ်နည်း ဉာဏ်အမြော်အမြင်ကြီးမားသူပီပီ ရေးဖွဲ့သိကုံးထားခဲ့၏။

ထိုထိုသော ကျင့်ဖွယ်၊ ရှောင်ဖွယ်၊ လိုက်နာဖွယ်နီတိများထဲမှ သင့်နိုးရာရာ နီတိများကို ကောက်နုတ်ရွေးချယ်ကာ ဤအပိုင်းတွင် ဖော်ပြလိုက်ရပေသည်။

## ၁။ ပမာမပြု ညီမရှုနှင့်

ယောက်ျားမိန်းမ၊ ဟူသမျှအား၊ နှိုင်းဆမျှော်ရှု၊ ချီးမြှောက်မှုလည်း၊ နေရွှေတောင်၊ ထူးမဆောင်ဘဲ၊ ရွှေရောင်ချည်းသာ၊ ထင်စေပါသို့၊ ပမာမပြု၊ ညီမရှုနှင့်၊ လူဟုလည်းကောင်း၊ မည်တံုရှောင်း၍၊ ဥကျွောင်းရှိခြင်း၊ တူကြလျှင်းလည်း၊ ရည်ချင်းသတ္တိ၊ တူမရှိဘူး၊ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ရွှေတောင်ကြီးသည် အမြဲတမ်း ရွှေရောင်ချည်းသာ ထင်နေသော်လည်း မိမိနှင့် စပ်ဆိုင်နေသမျှသော ယောက်ျား မိန်းမဟူသမျှသည် အရည်အချင်းအားဖြင့် အတူတူ ချည်းမဟုတ်၊ တစ်ဦးနှင့်တစ်ဦး ကွဲပြားခြားနားမှုများ ရှိနေတတ်ကြသည်။ ထို့ကြောင့် သူတို့အား တစ်တန်းစားတည်းအဖြစ် မမှတ်ယူရာချေ။ ပခုံးနှစ်ဖက်ကြားမှ ဦးခေါင်းပေါက်သည့်လူအချင်းချင်းသည်လည်း လူချင်းတူသော်လည်း အရည်အသွေး၊ ဂုဏ်သတ္တိချင်း မတူညီကြချေ။ မတူညီသည့်အလျောက် သင့်မြတ်လျော်ကန်သလို အရည်အချင်းအလိုက် ချီးမြှောက်ရာ၏။

## ၂။ မျောက်ကိုချစ်ငြား ခြုံဆွဲမှားသို့

သဒ္ဒါလွန်မြောက်၊ ကျွန်ကိုမြှောက်က၊ မျောက်ကိုချစ်ငြား၊ ခြုံဆွဲမှားသို့၊ နားမချမ်းသာ၊ ဖြစ်တို့ရာ၏၊ ပညာနှင့်မျှ၊ ချီးမြှင့်ကလည်း၊ ယထာဝါဒီ၊ မိန့်တိုင်ညီရှင့်၊ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

စေတနာ သဒ္ဓါတရား လွန်ကဲ၍ မိမိအောက် ကျေးကျွန်ကို မြှောက်စားခြင်း မပြုရာ။ ထိုသို့ပြုပါက မျောက်ကို ချစ်သဖြင့် ခြုံဆွဲပေးလိုက်သည့် လူကဲ့သို့ နားငြီးဖွယ်ရာနှင့် တွေ့ကြုံတတ်၏။ သူတို့၏ အရည်အချင်း၊ ပညာအဆင့်အတန်းအလျောက်၊ သင့်သလို ချီးမြှောက်ခြင်းသည်သာလျှင် ချင့်ချိန်စဉ်းစားတတ်သူတို့၏ အဆိုအမိန့်နှင့် လျော်ကန်သင့်မြတ်သည်သာ ဖြစ်၏။

## ၃။ ချလွယ်မြှောက်လွယ် မပြုလွယ်ရာ

ခပင်းထိုမျှ၊ ကျေးကျွန်စသည်၊ စိတ်ချရခြင်း၊ မရှိလျှင်းဘဲ၊ မြင်းနောက်ပြန်စီး၊ ထီးရှေ့ကကွယ်၊ ဆိုသဖွယ်သို့၊ ချလွယ်မြှောက်လွယ်၊ မပြုလွယ်ရာ၊ ရွေးချယ်စစ်ခြင်း၊ မလစ်ဟင်းနှင့်၊ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိအောက်ရှိ ကျေးကျွန် အခိုင်းအစေဟူသမျှကို ဘယ်သောအခါမျှ စိတ်ချခြင်း မရှိပါစေနှင့်။ မြင်းကို နောက်ပြန်စီးသလို၊ ထီးကို ရှေ့ကကွယ်ပြီး ဆောင်းသလိုဖြစ်သလို၊ ကြုံသလို မိမိကျေးကျွန်များအပေါ် နှိမ့်လွယ်၊ မြှောက်လွယ်ခြင်းမရှိပါစေနှင့်၊ သေသေချာချာ စိစစ်ရွေးချယ်ပြီးမှ ချီးမြှောက်ခြင်း နှိမ့်ချခြင်းတို့ကို ပြုရာ၏။

## ၄။ ဆင်မှာဆင်ကြီး ကြက်ကြီးကြက်သာ

ဆင်မှာဆင်ကြီး၊ ကြက်ကြီးကြက်သာ၊ သင့်တန်စွာ၏၊ အရာမတန်၊ အမြှောက်လွန်က၊ ကိုယ့်ကျွန်ကိုယ်ဖျက်၊ ကိုယ်နှိပ်စက်၍၊ ကိုယ့်ကြက်ကိုယ်သတ်၊ ဖြစ်ရတတ်၏၊ (၁၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဆင်ကို ဆင်ကြီး၊ ကြက်ကို ကြက်ကြီးနှင့်သာ ချည်သင့်လှ၏။ အကယ်၍ ကိုယ့်အောက်လူကို မတန်မရာ မြှောက်စားမိပါက ကိုယ့်ကြက်ကို ကိုယ်တိုင်သတ်မိသလို ကိုယ့်ကျွန်ကို ကိုယ်ဖျက်မိတတ်၏။

## ၅။ ဂုဏ်ရှင်လည်သွမ်း ဂုဏ်လည်နွမ်း

မျိုးဇာတ်ယုတ်မာ၊ ကင်းပညာနှင့်၊ သမ္မာမဟဲ့၊ ဂုဏ်မဲ့ပေါ်တွင်၊ ဂုဏ်ကိုတင်က၊ ဂုဏ်ရှင်လည်းသွမ်း၊ ဂုဏ်လည်းနွမ်းခဲ့၊ (၁၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မျိုးရိုးဇာတိ နိမ့်ကျယုတ်မာပြီး ပညာမဲ့သူ၊ ဘုန်းသမ္မာမရှိသူတို့အား မမြှောက်စားရာ။ မည်သို့သော ဂုဏ်အရည်အချင်းမျှ မရှိသူကို ဂုဏ်ကိုတင်ကာ ချီးမြှောက်ခြင်းပြုမိ

ပါက ဂုဏ်တင်ပေးသူလည်း အရှုံးအသွမ်းဖြစ်၊ ထိုဂုဏ်သည်လည်း ညစ်နွမ်းရမည်သာ ဖြစ်၏။

## ၆။ သူ့ကိုချီးမြှောက် ကိုယ့်ဂုဏ်မြောက်

သူ့ကိုချီးမြှောက်၊ ကိုယ့်ဂုဏ်မြောက်၏၊ ယှဉ်းဖောက်အလို၊ ဝန်မတိုနှင့်၊ သူ့ကို ဂုဏ်နိမ့်၊ ကိုယ်ဂုဏ်နိမ့်၏၊ စည်းစိမ့်အရာ၊ သူ့ချမ်းသာ၌၊ ဣဿာမပြု၊ ဝမ်းမြောက် ရှုလော့၊ (၁၈၅)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ထူးအား ချီးမြှောက်ခြင်းသည် မိမိ၏ကျေးဇူးဂုဏ် မြင့်မားအောင် ပြုခြင်းပင် ဖြစ်၏။ သူတစ်ထူး၏ ဂုဏ်ကျေးဇူးကို နိမ့်ချခြင်းသည် မိမိ၏ဂုဏ် နိမ့်ကျအောင် ပြုလုပ်သည်နှင့်တူ၏။ ထို့ကြောင့် သူတစ်ပါး၏ စည်းစိမ်ဥစ္စာ ချမ်းသာမှုအပေါ်၌ မနာလိုဝန်တိုခြင်းမရှိစေဘဲ ဝမ်းမြောက်ဝမ်းသာ ရှိပါစေလော့။

## ၇။ ကျေးစားမပျက် ချီးမြှောက်ချက်ကြောင့်

ရှေးခါသော်က၊ သံဝရဟု၊ မင်းလုလ္ဘွေတုံး၊ အငယ်ဆုံးလျက်၊ နှလုံးမွေ့သိမ်၊ ရွှေအိမ်နန်းရိပ်၊ စိုးစံနိုပ်သော်၊ ကိုးကျိပ်ကိုးပါး၊ နောင်တော်များကို၊ ကျေးစားမဖျက်၊ ချီးမြှောက်ချက်ကြောင့်၊ ဝန်းယှက်ပတ်ခြံ၊ စောင့်ရံညီညွှာ၊ ဘေးရန်ကွာ၍၊ ဗာရာပြည်ကြီး၊ ခိုင်စည်ဖြိုး၏၊ (၁၈၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအခါက ဗာရာဏသီမင်းတွင် သားတော်တစ်ရာရှိရာ သံဝရမင်းသားသည် အငယ်ဆုံးဖြစ်၏။ သူသည် ဘုရင်ဖြစ်သောအခါ နောင်တော်ကိုးကျိပ်ကိုးယောက်တို့အား ရှိရင်းကျေးစားနယ်စား ရာထူးများကို မနုတ်သိမ်းဘဲ ဆက်လက်ချီးမြှောက် ပေးအပ်ထားသောကြောင့် နောင်တော်မင်းသားများ၏ စောင့်ရှောက်ဝန်းရံခြင်းကို ခံရသဖြင့် ဗာရာဏသီပြည်ကြီးသည် ဘေးအန္တရာယ်ဝေးကွာ၍ တိုင်းပြည်ကြီးလည်း ဖွံ့ဖြိုးခိုင်မာခဲ့ရ၏။

## ၈။ လူ့ဗိုလ်မြတ်လေး ရှိနုတ်ဆေး

သင်္ဂြိုဟ်ဓမ္မ၊ သင်္ဂဟကား၊ ဒိဋ္ဌတမလွန်၊ နှစ်တန်ခိုင်ဖြိုး၊ အကျိုးကြီး၏၊ ထီးလို မင်းလို၊ များကြည်ညိုသည့်၊ လူ့ဗိုလ်မြတ်လေး၊ ရှိနုတ်ဆေးတည့်၊ (၁၈၅)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ပါးအား ပေးကမ်း ချီးမြှောက်ခြင်းဟူသည့် သင်္ဂဟတရားသည် ယခုဘဝ မှာရော တမလွန်ဘဝမှာပါ အကျိုးကျေးဇူးများလှ၏။ ထိုပေးကမ်းချီးမြှောက်ခြင်းဖြင့်

အများ၏ ကြည်ညိုလေးစားမှုကိုခံရပြီး တွေ့ကြုံရသမျှသော လူဗိုလ်ပရိသတ်တို့၏ ချစ်ခင်မြတ်နိုးခြင်းကိုလည်း ခံရ၏။ ပေးကမ်းချီးမြှောက်ခြင်းသည် နတ်ဆေးသဖွယ် အစွမ်းထက်လှ၏။

## ၉။ ချီးမြှောက်မဲ့လျှင်း မပြုလျှင်းနှင့်

ဆင်မြင်းရထား၊ ဖိုးများကမ္ဗလာ၊ သိခဲစွာကို၊ ပညာထူးမြတ်၊ သိနိုင်တတ်သည့်၊ ရာပြတ်သုခမိန်၊ မတ်ကဝိန်အား၊ နှိုင်းချိန်မဆ၊ လေးကြိမ်ကျအောင်၊ မလှနည်းပါး၊ သပြာအားဖြင့်၊ ရှစ်ပြားမျှသာ၊ ပေးတတ်စွာသည်၊ ဆတ္တာသည်သား၊ မင်းအလားသို့၊ ဂုဏ်အားထိုက်လျော်၊ မမြော်မထောက်၊ ချီးမြှောက်မဲ့ခြင်း၊ မပြုလျှင်းနှင့်၊ (၁၈၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ဆတ္တာသည်သားဘဝမှ မင်းဖြစ်လာသူသည် ထူးမြတ်သော ဉာဏ်ပညာရှိသည့် ရာပြတ်အမတ်ကြီး သုခမိန်ကို ချီးမြှောက်သောအားဖြင့် အလွန်နည်းပါးလှသည့် ငွေအသပြာရှစ်ပြားကို လေးကြိမ် လေးခါတိုင်အောင် ပေးဖူး၏။ ထိုငွေရှစ်ပြားသည် ရာပြတ်အမတ်ကြီး၏ ပညာဉာဏ် ဂုဏ်သိက္ခာနှင့် နှိုင်းယှဉ်လျှင် လွန်စွာနည်းပါးလှ၏။ ဤသို့ ဆတ္တာသည်သား မင်း၏ ပေးကမ်းချီးမြှောက်သကဲ့သို့ ဂုဏ်အရည်အချင်းကို မမြော်ရှု မထောက်ထားဘဲ ချီးမြှောက်ခြင်းကို မပြုပါနှင့်။

## ၁၀။ စိခြယ်ထိးဓား ရာမြှောက်စား၍

နီးရင်းကပ်ရံ၊ မင်းတို့ထံ၌၊ စိမ်ခန့်ထား၊ မတ်ယောက်ျားကား၊ မြင်ကြားရှိခြင်း၊ အဆင်းအကျင့်၊ ရဲရင့်လုံ့လ၊ ကိစ္စပြီးစီး၊ အားကြီးခိုင်မာ၊ ဥစ္စာမမက်၊ ရှစ်ချက်အင်္ဂါစုံ၊ ကုံလုံပြည့်သူ၊ ထိုသည့်လူကို၊ ကောက်ယူရွေးချယ်၊ ဖောင်းစလွယ်နှင့်၊ စိခြယ်ထိးဓား၊ ရာမြှောက်စား၍၊ ထံပါးတွင်းပြင်၊ ညီလာခွင်၌၊ ထွက်ဝင်စေမှု၊ မင်းသုံးပြုလော့၊ (၁၈၆)

## ဆိုလိုရင်း အဓိပ္ပာယ်

မင်း၏ထံခစား၍ ပြည်ရေးကိစ္စ စီမံဆောင်ရွက်နေကြသည့် အမတ်ယောက်ျားများ ထဲမှ အကြားအမြင်များခြင်း၊ လုံ့လဝီရိယနှင့် သတ္တိရှိခြင်း၊ အရေးကိစ္စ ပြီးအောင် ဆောင်ရွက်တတ်ခြင်း၊ ပစ္စည်းဥစ္စာ မမက်မောခြင်း စသည့်အင်္ဂါရှစ်ရပ်နှင့် ပြည့်စုံသူများကို ကောက်ယူရွေးချယ်၍ အရည်အသွေးအားလျော်စွာ ချီးမြှင့်မြှောက်စားကာ မင်းညီလာခံ၌ ထွက်ဝင်ခစားစေရာ၏။

## ၁၁။ မြှောက်စားအမှု မယုတ်ချနှင့်

ကိုယ်အောက်တန်းတူ၊ အထက်သူဟု၊ မှတ်ယူမြဲသို၊ သုံးပုဂ္ဂိုလ်တွင်၊ အောက်ကို သနား၊ တန်းတူအားမူ၊ မြှောက်စားအမှု၊ မယုတ်ချနှင့်၊ ထက်ကသူမှာ၊ ရိုသေရာ၏။ (၁၉၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိထက်နိမ့်ကျသူ၊ မိမိနှင့်တန်းတူ၊ မိမိထက်ကြီးမြင့်သူဟူ၍ သုံးမျိုးရှိရာ မိမိထက် နိမ့်ကျသူအပေါ် သနားကြင်နာရာ၏။ မိမိနှင့်တန်းတူပုဂ္ဂိုလ်အား ချီးမြှောက်ရာ၏။ မိမိထက်ကြီးမြင့်သူကိုမူ ရိုသေလေးစားရာ၏။

## ၁၂။ သနားချီးမြှောက် စောင့်ရှောက်အပ်ရာ

ဥစ္စာရှိမဲ့၊ ဉာဏ်ဟဲ့ဉာဏ်ပါ၊ အားကြီးအားငယ်၊ လူတို့ဝယ်လည်း၊ မပယ်အပ်စွ၊ ဣသရဖြင့်၊ စိုးရသူကား၊ ဆင်းရဲသားကို၊ သနားချီးမြှောက်၊ စောင့်ရှောက်အပ်ရာ၊ လူ့တံထွာတည့်၊ (၁၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

ဥစ္စာပစ္စည်း ရှိသည် မရှိသည်ဖြစ်စေ၊ ဉာဏ်ပညာ ရှိသည် မရှိသည်ဖြစ်စေ၊ ထိုပုဂ္ဂိုလ်အသီးသီးကို မဖယ်ရှားအပ်ချေ။ အများကို အုပ်စိုးစီမံနေရသူသည် ဆင်းရဲသား များအား သနား၍ ပေးကမ်းချီးမြှောက် စောင့်ရှောက်ရသည်မှာ လူတို့ပြုရမြဲဓမ္မတာပင် ဖြစ်၏။

## ၁၃။ ဂုဏ်မဲ့သသူ ဂုဏ်ပေးမှုလည်း

ဤလူ့ရွာဝယ်၊ သမ္မာချို့တဲ့၊ ဘုန်းမဟဲ့၍၊ ဂုဏ်မဲ့သသူ၊ ဂုဏ်ပေးမှုလည်း၊ ဂုဏ်မယူလို၊ မကြည်ညိုဘူး၊ ခွေးကိုပတ္တမြား၊ ပေးသောလားတည့်၊ မခြားပုံသေ၊ ဖြစ် တတ်ချေ၏၊ (၂၇၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလူ့ရွာလောကတွင် ပါရမီချို့တဲ့၍ ဘုန်းကံနည်းပါးသူများ ရှိကြကုန်၏။ ထိုသူတို့အား ချီးမြှင့်မြှောက်စားလို၍ ဘွဲ့ထူးဂုဏ်ထူးကို ပေးသော်လည်း ထိုသူတို့သည် ပေးသော ဂုဏ်ထူးဘွဲ့ထူးကို မရယူလိုကြချေ။ ထိုသူများအဖို့ ပေးအပ် ချီးမြှင့်အပ်သော ဂုဏ်ကို ခွေးသည် မိမိအားပေးသော ပတ္တမြားကို အမဲရိုးတစ်ချောင်းလောက်သော်မျှ တန်ဖိုးမထား၊ မလိုချင်သည့်နည်းတူ မရယူလိုကြချေ။ ထို့ကြောင့် ပေးအပ်သောဂုဏ်နှင့် မထိုက်တန်သူကို ဘယ်သောအခါမျှ မပေးအပ် မချီးမြှောက်ရာ။

## ၁၄။ မျက်နှာလည်းရ ဝမ်းလည်းဝ

ရှေးယခင်က၊ ဝံနှင့်မျောက်ကျား၊ သုံးကောင်သားတို့၊ ဝံကားညီမျှ၊ သုံးဖို့ပြု၍၊ သုံးစုခွဲဝေ၊ အမဲဝေသော်၊ အသေလတ်လတ်၊ ကျားကိုက်သတ်၏၊ ကျွန်ဝတ်သိစွာ၊ မျောက်လိမ္မာမူ၊ မညာကိုယ့်တွက်၊ အကုန်ဆက်ပြီး၊ သက်သက်ကျားမင်း၊ စားပြီးလျှင်းမှ၊ စားကြွင်းကိုမျှ၊ စားကြတုံပါ၊ သက်ချမ်းသာလျက်၊ မျက်နှာလည်းရ၊ ဝမ်းလည်းလှနှင့်၊ မျောက်လှလိမ္မာ၊ ဟူစပါ၏၊ (၃၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအခါက ဝက်ဝံ၊ မျောက်နှင့်ကျားတို့သည် အတူနေကြရာ တစ်နေ့တွင် အမဲတစ်ကောင်ကိုစားရန် ခွဲဝေကြ၏။ ထိုအခါ ဝက်ဝံက အမဲတစ်ကောင်လုံးကို သုံးပုံပုံ၍ ဝေရာ ကျားက မကျေနပ်၍ ဝံကို ကိုက်သတ်လိုက်၏။ လိမ္မာသော မျောက်ကမူ ရှိသမျှ အမဲတစ်ကောင်လုံးကို ကျားအားစားစေ၍ ကျား၏စားကြွင်းစားကျန်ကိုသာ စား၏။ မျောက်သည် အသက်လည်းချမ်းသာ၊ ဝမ်းလည်းဝသွားရ၏။ ထို့ကြောင့် ထိုမျောက်ကို ကြီးသူအပေါ် ချီးမြှောက်၍ မိမိအသက်ချမ်းသာအောင် ကြံစည်နိုင်သော မျောက်လိမ္မာဟု ဆိုစမှတ်ပြုကြ၏။

## ၁၅။ ကိုယ်ကချီးမြှောက် မင်းဖြစ်မြောက်လည်း

ကိုယ်ကချီးမြှောက်၊ မင်းဖြစ်မြောက်လည်း၊ မလောက်မလား၊ မခန့်ညားဘဲ၊ စကားမချေ၊ မရှိစေနှင့်၊ မထေမဲ့မြင်၊ ဘုန်းကံရှင်အား၊ စိတ်တွင်သော်မှ၊ မကြံရတည့်၊ (၃၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိက ကူညီချီးမြှောက်ခဲ့သောကြောင့် မင်းအဖြစ်သို့ ရောက်ခဲ့ရစေကာမူ ထိုမင်းအပေါ် မလေးမစား၊ မခန့်ညားခြင်း မပြုရာ။ မကျေနပ်သောစိတ်နှင့် စကားကို တင်စီး၍ မပြောဆိုသင့်ပေ။ ရှေးဘုန်းရှေးကံကြောင့် မင်းဖြစ်လာသူအား စိတ်နှင့်သော်မျှ မပြစ်မှားရာ၊ မကြံစည်ရာချေ။

# ၁၉။ ပေါင်းသင်းဆက်ဆံရေး

လူဟူသော သတ္တဝါသည် တစ်ဦးတည်းနေ၍မရ။ မိဘ၊ မောင်နှမ၊ ဆွေမျိုးဉာတကာများအပြင် အခြားသော လူ့အဖွဲ့အစည်းများနှင့် အချင်းချင်း အပြန်အလှန်ဆက်ဆံပေါင်းသင်းပြီး နေထိုင်ကြရ၏။ ထို့ကြောင့် လူတကာနှင့် အဆင်ပြေအောင် ပေါင်းသင်းဆက်ဆံနိုင်ရေးသည် လူဟူသော သတ္တဝါများအတွက် လွန်စွာအရေးကြီးလှ၏။

လောက၌ လူတို့သည် အမျိုးမျိုးရှိကြ၏။ ပညာရှိ သူတော်ကောင်း၊ သူယုတ်၊ လူမိုက်ဟူ၍ အစားစားရှိကြ၏။ ပညာရှိ သူတော်ကောင်းတို့မှာ နှလုံးကောင်း၊ စိတ်ဖြောင့်သူများဖြစ်ကြ၍ ပေါင်းသင်းဆက်ဆံရာ၌ ပြဿနာမရှိသော်လည်း သူယုတ်၊ လူမိုက်တို့မှာမူ ပညာမဲ့၍ စိတ်သဘောမဖြောင့်မတ် မမှန်ကန်သူများဖြစ်ကြရာ ၎င်းလူမိုက်များနှင့် ဆက်ဆံပေါင်းသင်းခြင်းသည် မိမိအတွက် အန္တရာယ်ဆိုးကျိုးသာ ရနိုင်၏။ ထိုအန္တရာယ်မှ ရှောင်ကြဉ်နိုင်ရန် တစ်ခုတည်းသော နည်းလမ်းသည် မည်သူသည် လူမိုက်ဖြစ်သည်၊ ကွေ့ကောက်ဆိုးဝါးသော သဘောရှိသည်ကို သိအောင်လေ့လာ၍ ဝေးစွာ ရှောင်ကြဉ်ကြရန်သာ ဖြစ်၏။

တစ်ဖက်ကလည်း အများနှင့် ပေါင်းသင်းဆက်ဆံရာ၌ သူ့သဘော ကိုယ့်သဘောကို ညီညွတ်မျှတစွာထား၍ တတ်အားသမျှ လိမ္မာပါးနပ်စွာ ထိတွေ့ဆက်ဆံနိုင်ရေးသည်လည်း လူတိုင်းအတွက် လိုအပ်သော အရည်အသွေးတစ်ရပ်ဖြစ်၏။ သို့မှသာ လောက၌ လူဖြစ်လာရသည့် အခိုက်အတန့်ကလေးတွင် ချမ်းမြေ့ပျော်ရွှင်စွာ နေထိုင်နိုင်မည် ဖြစ်၏။

ဤသဘောကို ပေါ်လွင်ထင်ရှားစေပြီး လူ့လောကရှိ လူအချင်းချင်း မည်သို့ပေါင်း မည်သို့ဆက်ဆံ၊ မည်သို့လေ့လာအကဲခတ်၊ မည်သို့ရှောင်ရှားရမည့်အချက်များကို

စာဖတ်သူများ လေ့လာမှတ်သားနိုင်ရန် ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် သူ၏ မဃဒေဝလင်္ကာသစ်ကြီးတွင် လမ်းညွှန်ဆုံးမထားပေ၏။ လူ့လောကဌ် နှလုံးချမ်းမြေ့စွာ နေထိုင်ဆက်ဆံလိုသူများသည် ဆရာတော်ကြီး၏ လမ်းညွှန်ချက်များကို လိုက်နာကျင့်သုံးရန်သာ ဖြစ်၏။

ဆရာတော်ကြီး၏ လမ်းညွှန်ဆုံးမမှုများသည် သူ၏လင်္ကာသစ်ကြီးတစ်စောင်လုံးတွင် ရေတွက်၍ မနိုင်အောင် များလှပေရာ ယင်းတို့အထဲ ကောင်းနိုးရာရာ အချက်အချို့ကို စာရှုသူများ နည်းယူမှတ်သားနိုင်ရန်အလို့ငှာ ဤအခန်းတွင် ထည့်သွင်းဖော်ပြထားပါ၏။ လေ့လာဖတ်ရှုကြပါကုန်။

## ၁။ ဂုဏာဝုမှာ ပစာယန လေးစားကြ

ရှေးဝယ်သောခါ၊ တောဟေမာဌ်၊ ပညာမြော်မြင်၊ ခါမျောက်ဆင်တို့၊ ညောင်ပင်တစ်ခု၊ သက်သေပြု၍၊ ဂုဏာဝုမှာ၊ ပစာယန၊ ကျင့်ကုန်ကြကြောင့်၊ လူမျှမတန်၊ တိရစ္ဆာန်လျက်၊ နတ်ထံမှချ၊ ရောက်ကုန်ကြ၏။ (၁၇၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအခါက ဟိမဝန္တာတောဌ် ခါ၊ မျောက်၊ ဆင်ဟူသော တိရစ္ဆာန်သုံးကောင်သည် ညောင်ပင်ကြီးတစ်ပင်ကို အမှီပြုပြီး သက်ကြီးသူကို သက်ငယ်သူက ရိုသေလေးစားနေရာ ထားကာနေကြ၏။ ဤသို့ အသက်၊ ဂုဏ်အားဖြင့် ကြီးသူငယ်သူတို့သည် တစ်ဦးကို တစ်ဦး လေးစားချစ်ကြည်စွာ နေထိုင်ကြသောကြောင့် သေလွန်သွားသောအခါ နတ်ပြည်သို့ ရောက်ကြရကုန်၏။

## ၂။ ဆွေချင်းမျိုးချင်း သွေးစပ်လျှင်းက

ဆက်ဆက်မယွင်း၊ နွယ်သက်ဆင်းလျက်၊ ဆွေချင်းမျိုးချင်း၊ သွေးစပ်လျှင်းက၊ သူ့သင်းသူ့ဘက်၊ နေတုံ့လျက်လည်း၊ နှိပ်စက်လွှမ်းမိုး၊ ကိုယ့်ဆွေမျိုး၏၊ အကျိုးမဲ့ကို၊ ကဲ့ရဲ့ဆိုသော်၊ မလိုစိတ်မှာ၊ မသက်သာဘူး၊ ဂုဏ်ဝါအထူး၊ ချီးကျူးမြှောက်ကာ၊ ပြောသောခါဌ်၊ သာယာစိတ်က၊ ဝမ်းမြောက်ကြ၏၊ (၁၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

တစ်ဦးနှင့်တစ်ဦး သွေးစပ်ကာ ဆွေမျိုးတော်စပ်သူတို့သည် အနေဝေး၍ နေကြသော်လည်း မိမိဆွေမျိုး၏ အကျိုးမဲ့ကို ပြောဆိုကဲ့ရဲ့လာသည်ကို ကြားရလျှင် စိတ်ထဲက မသက်မသာ ရှိတတ်ကြ၏။ ထိုသို့မဟုတ်ဘဲ မိမိ ဆွေမျိုး၏ဂုဏ်ကို ချီးကျူးဂုဏ်တင် ပြောဆိုလာပါက စိတ်ထဲက သာယာဝမ်းမြောက်ကြမြဲ ဖြစ်၏။

## ၃။ သွေးနီးရာကပ် ကျောချင်းအပ်

ဒေါသမကင်း၊ မျိုးဆွေချင်းတို့၊ ဝမ်းတွင်းမကြေ၊ ရှိနေတပြီး၊ အရေးကြီးက၊ သွေးနီးရာကပ်၊ ကျောချင်းအပ်၍၊ ပေါင်းစပ်မချွတ်၊ ဖြစ်တတ်ကြ၏။ (၁၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိတို့ဆွေမျိုးသားချင်းတို့အတွင်း၌ အချင်းချင်းစိတ်ဝမ်းကွဲပြား၍ မုန်းတီးနေကြသော်လည်း တကယ်အရေးကြီးလာသောအခါ စိတ်ဝမ်းကွဲပြားမှုများ ပပျောက်ပြီး ကျောချင်းကပ် ရင်ချင်းအပ်ကာ တစ်စုတစ်စည်းတည်း ဖြစ်သွားတတ်ကြ၏။

## ၄။ ငယ်ဖော်ငယ်ပေါင်း ဟောင်းတိုင်းကောင်း

အဝတ်ပုဆိုး၊ တန်ဆာမျိုးကား၊ တိုး၍တိုး၍၊ တစ်နေ့တစ်ခါ၊ လဲပါတုံရှောင်း၊ သစ်တိုင်းကောင်း၏၊ အပေါင်းအဖော်၊ ဟူတုံသော်မူ၊ ငယ်ဖော်ငယ်ပေါင်း၊ ဟောင်းတိုင်းကောင်း၏၊ (၁၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

အဝတ်တန်ဆာတို့မည်သည် သစ်တိုင်းကောင်းသဖြင့် တစ်နေ့တစ်မျိုး လဲပြီး ဝတ်ဆင်လေကောင်းလေဖြစ်၏။ သို့သော် အပေါင်းအဖော်တို့သည်ကား ဟောင်းတိုင်းကောင်းသဖြင့် ငယ်ပေါင်းကြီးဖော်များနှင့် ပေါင်းဖော်ရခြင်းသည် ကောင်းလှချေ၏။

## ၅။ ငယ်ကပေါင်းသင်း ချစ်အပ်သက်တူ

ငယ်ကပေါင်းသင်း၊ ကျွမ်းဝင်ခြင်းဖြင့်၊ နီးရင်းမိုကပ်၊ ချစ်အပ်သက်တူ၊ ဤသူတစ်ဦး၊ ကိုယ့်ကျေးဇူးကို၊ အထူးမပြတ်၊ ပြုတတ်တုံမြောက်၊ ထိုနှစ်ယောက်တို့၊ ယွင်းဖောက်စိုးစိ၊ ဖြစ်သာရှိလည်း၊ ခံဘိသည်းညည်း၊ ကျေးဇူးပည်း၏၊ (၁၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ငယ်စဉ်ကပင် ရင်းရင်းနှီးနှီး၊ ချစ်ချစ်ခင်ခင်နေခဲ့ရသူတစ်ဦး၊ ကိုယ့်ကျေးဇူးကို အမြဲမပြတ် ပြုတတ်သူတစ်ဦး။ ထိုသူနှစ်ဦးစလုံးသည် မိမိအကျိုးကိုဆောင်သူတို့ချည်းသာဖြစ်၍ သူတို့သည် မိမိအပေါ် တစ်စုံတစ်ရာ ဖောက်ပြားပြစ်မှားခဲ့ခြင်းရှိပါကလည်း အပြစ်မယူဘဲ သည်းခံရာ၏။

## ၆။ တင်းလွန်းလျှင်ပြတ် မာလွန်းဆတ်၏

အာဏာမထန်၊ မျက်မာန်မပြင်း၊ မယဉ်လွန်းနှင့်၊ တင်းလွန်းလျှင်ပြတ်၊ မာလွန်းဆတ်၏၊ ပွတ်လွန်းလည်းစင်၊ တင်လွန်းလည်းမောက်၊ မြှောက်လွန်းလည်းကြွ၊ နှိမ်လွန်းကျခဲ့၊ (၁၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

မာန်မာနဥ္စ ယစ်မူးပြီး အာဃာတမပြု အမျက်ဒေါသမပြင်းထန်ပါစေနှင့်။ မည်သည့်နေရာ၌မဆို တင်းလွန်းလျှင်ပြတ်၊ မာလွန်းလျှင်ဆတ်ပြီး ကွဲအက်တတ်၏။ ထို့အတူ ပွတ်လွန်းပါက စင်ကြယ်ပြောင်လက်လာတတ်ပြီး အပေါ်သို့ တင်ပါများလည်း မို့မောက်လာတတ်၏။ မြှောက်ပင့်လွန်းလျှင်လည်း ကြွတက်လာပြီး၊ နှိမ့်လွန်းလျှင်လည်း အောက်သို့ကျသွားတတ်၏။ ထို့ကြောင့် ပေါင်းသင်းဆက်ဆံသည့်အခါ၌ လွန်ကဲမှုကို သတိပြုကြရန် အရေးကြီးလှ၏။

## ၇။ ငယ်ပေါင်းငယ်ချစ် ကောင်းဆုံးဖြစ်

လူဟုဆိုက၊ ရုပ်ကိုမကြည့်၊ စိတ်ကိုကြည့်လော့၊ သူ၏သဘော လိုက်လျော ပေါင်းသင်း၊ နီးနှော်ခြင်းဖြင့်၊ မကင်းဉာဏ၊ နှိုင်းချင့်ဆရှင့်၊ ရှေးကချစ်ခင်၊ ကျွမ်းဝင်မိတ်ဟောင်း၊ ငယ်ပေါင်းငယ်ချစ်၊ ကောင်းဆုံးဖြစ်၏။ (၁၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ၏သဘောကို သိလိုလျှင် ရုပ်ကိုမကြည့်ဘဲ စိတ်ကိုသာ ကြည့်ပါလော့။ သူနှင့် လိုက်လျောစွာ ဆက်ဆံပေါင်းသင်းခြင်းဖြင့် ထိုသူ၏သဘောကို သိအောင် ဉာဏ်ဖြင့် နှိုင်းချိန်စဉ်းစားရာ၏။ ယုံကြည်စိတ်အချရဆုံးနှင့် အကောင်းဆုံးသော မိတ်ဆွေသည်ကား ငယ်စဉ်ကပင် ခင်မင်ကျွမ်းဝင်ဖူးသော ငယ်ပေါင်းမိတ်ဟောင်းများပင် ဖြစ်၏။

## ၈။ မိတ်ဆွေ ခင်ပွန်းစစ်

ဤလောက၌၊ သတ္တဖဝါး၊ အတူသွားက၊ မည်ငြားမိတ်စစ်၊ ခင်ပွန်းဖြစ်၏၊ ဆယ့်နှစ်လှမ်းသော်၊ အဖော်သဟဲ၊ လခွဲဉာတိ၊ မည်ဘိမပျက်၊ ထိုထက်လွန်စွာ၊ ရက်ကြာကာလ၊ ပေါင်းဖက်ကြမူ၊ အတ္တသမာ၊ မှန်စွာထိုလူ၊ ကိုယ်နှင့်တူ၏။ (၁၈၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လောကတွင် ခုနစ်ဖဝါးခန့်ဝေးအောင် အတူသွားဖူးလျှင် အဆွေခင်ပွန်းဖြစ်၏။ တစ်ဆယ့်နှစ်လှမ်းမျှ အတူသွားဖူးလျှင် ထိုသူသည် အပေါင်းအဖော်ဖြစ်၏။ လခွဲလဝက်ကြာအောင် အတူနေဖူးလျှင် ဆွေမျိုးဉာတိဖြစ်၏။ ထိုထက်လွန်၍ ကြာအောင် ပေါင်းဖော်နေထိုင်ဖူးလျှင်မူ ထိုသူသည် မိမိကိုယ်နှင့်ထပ်တူ ယုံကြည်စိတ်ချရသူ ခင်ပွန်းစစ်ဖြစ်၏။

## ၉။ ချိုစေသူ့နား ချဉ်မခါးအောင်

ချိုစေသူ့နား၊ ချဉ်မခါးအောင်၊ စကားကျစ်လျစ်၊ အဆစ်ဆစ်၌၊ မထစ်မထုန်၊ မအုန်မထိုင်း၊ မရိုင်းမဆတ်၊ ရှဲခတ်ကိုက်စား၊ သစ်ပျဉ်ပြားနှယ်၊ ပြတ်သားသိမ်မွေ့၊ ချောမွေ့ပြေပြစ်၊ မာန်မယစ်ဘဲ၊ ပြစ်ပြစ်ခြေခြေ၊ လူဗိုလ်ခြေအား၊ သံခြေနှုတ်ညင်း၊

ရွှေစောင်းညှင်းသို့၊ မပြင်းမပြ၊ သာချမ်းမြလျက်၊ ပျပျရှင်ပျော၊ ဆိုမိန့်ပြောလော့၊ (၂၁၁)

## ဆိုလိုရင်း အဓိပ္ပာယ်

စကားပြောသည့်အခါ သူ့နားမခါးဘဲ နားဝင်အောင် ရှင်းလင်း ယဉ်ကျေးစွာ ပြောပါ။ မာန်မထားဘဲ ညင်းညင်းသာသာ၊ ချောချောမွေ့မွေ့၊ ရှင်ရှင်ပျပျ ပြောပါ။ သို့မှသာ မိမိပြောသောစကားမှတစ်ဆင့် မိမိအား လေးစားချစ်ခင်လာရာ၏။

## ၁၀။ ချစ်ခင်သမှု မိတ်မပြုနှင့်

ပေါ်ချောနှုတ်လွှင်၊ မာယာဆင်လျက်၊ မခင်မရဲ၊ မိတ်သဟဲကား၊ ဝမ်းထဲမလာ၊ ကျိုးမဲ့ရှာ၍၊ မေတ္တာမပွား၊ မိတ်တရားကို၊ ဖျက်ငြားချေမှု၊ စိတ်မရှုနှင့်၊ ပေါင်းစုယှဉ်ပူး၊ နှစ်ဦးကြုံတွေ့၊ မြင်၍မပြုံး၊ နှလုံးမသာ၊ ကြားပါတုံလျက်၊ နှစ်သက်မရှိ၊ မျက်စိဆိုလှည့်၊ မကြည့်ခလို၊ ကြည်ညိုမပြု၊ ဆန့်ကျင်မှုသာ၊ မျှော်ရှုသဖြင့်၊ ပြောဆိုကျင့်သား၊ မသင့်ဝမ်းတွင်း၊ နှလုံးသွင်းနှင့်၊ ယင်းသို့လက္ခဏာ၊ ပုဂ္ဂိုလ်မှာလျှင်၊ သဟာကျွမ်းဝင်၊ ချစ်ခင်သမှု၊ မိတ်မပြုနှင့်၊ (၂၁၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ဝမ်းထဲစိတ်ထဲကမပါ၊ အပေါ်ယံနှုတ်ဖြင့် ခင်မင်ဟန်ပြသောသူတစ်ဦး၊ မိမိ၏ အကျိုးမဲ့ကိုသာ ရှေ့ရှု၍ မေတ္တာမထားနိုင်သူတစ်ဦး၊ မိတ်ဆွေတို့ကျင့်ရာသော ဝတ္တရားကို မလိုက်နာ ချေဖျက်သူတစ်ဦး၊ နှစ်ဦးတွေ့ဆုံသောအခါ မပြုံးမရွှင်၊ နှလုံးမသာဘဲ နေသူတစ်ဦး၊ မိမိ၏ကောင်းသောသတင်းကို ကြားလျှင် နှစ်သက်ခြင်းမရှိသူတစ်ဦး၊ မိမိအားမကြည်ညိုဘဲ ဆန့်ကျင်တတ်သူတစ်ဦး၊ အမူအကျင့်သဘောထား ဆိုးညံ့သူ တစ်ဦး၊ ယင်းသို့သော လက္ခဏာရှိသူတို့အား မိတ်ဆွေအပေါင်းအသင်းတစ်ယောက် အဖြစ် မပေါင်းသင့်ပါလေနှင့်။

## ၁၁။ ထံပါးတွင်းပြင် ကျွမ်းမဝင်နှင့်

ပညာမျက်စိ၊ မျိုးဇာတိက၊ မရှိသူအား၊ အနီးထား၍၊ ထံပါးတွင်းပြင်၊ ကျွမ်းမဝင် နှင့်၊ (၂၁၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာလည်းမရှိ၊ မျိုးရိုးဇာတိလည်း မကောင်းသူကို မိမိအနီးတွင်ထား၍ အတွင်းကိစ္စ၊ အပြင်ကိစ္စ၊ ကိုယ်ရေးကိစ္စများ၌ အကျွမ်းတဝင် ဆက်သွယ်ဆောင်ရွက်ခြင်း မပြုပါနှင့်။

## ၁၂။ နွတ်ကဘုရား လက်ကားယား

သမ္မာကင်းထ၊ ကျင့်ပါပနှင့်၊ နွတ်ကဘုရား၊ လက်ကားယားဖြင့်၊ တရားမစောင့်၊ စိတ်မဖြောင့်သား၊ သူကောင်းလက္ခဏာ၊ အပေါ်ဝါလျက်၊ ယုတ်မာစရိုက်၊ မိစ္ဆာလိုက်သည့်၊ ကျီးမိုက်ဗာလ၊ ခမ္ဗိကသို့၊ စာရမကောင်း၊ လူတစောင်းလည်း၊ မပေါင်းဖြစ်သာ၊ လွဲသွေရာ၏။ (၂၁၆)

## ဆိုလိုရင်း အဓိပ္ပာယ်

အကျင့်စရိုက်မကောင်းသူ၊ အပြောနှင့်အလုပ်မညီသူ၊ စိတ်ဓာတ်မရိုးဖြောင့်သူ၊ အပေါ်ယံ ကောင်းဟန်ပြ၍ အတွင်းယုတ်မာသူ၊ တစ်ဖို့ကိုသာသိသူတို့ကို မပေါင်းပါနှင့်။

## ၁၃။ ကောက်သော်ကောက်ချင်း မြွေနှင့်တွင်းသို့

မသူတော်လျှောက်၊ သူကကောက်မူ၊ ကောက်သော်ကောက်ချင်း၊ မြွေနှင့်တွင်းသို့၊ ကောက်လျင်းတုံမှ၊ ဤလောက၌၊ ကိစ္စပြီးလို၊ ရှေးအဟိုက၊ သံကိုကြွက်စား၊ သားကို စွန်ချီ၊ ရွှေနီကားကြေး၊ ရင်သွေးမျောက်ဖြစ်၊ လူစစ်တသီး၊ သမီးဆိတ်မ၊ ပုံကိုဆ၍၊ ဝက်ဝကီ၊ ပလီဉာဏ်ဆိုး၊ ထိုလူမျိုးကို၊ အိုးရွဲ့စလောင်း၊ ပိတ်တုံရှောင်းသို့၊ စောင်းလျှင် စောင်းတူ၊ တည့်မူတည့်လိုက်၊ မှုချင်းထိုက်လော့။ (၂၁၇)

## ဆိုလိုရင်း အဓိပ္ပာယ်

တစ်ဖက်လူက မိမိအား မတရားပြုလာသော် မိမိကလည်း သူလုပ်သလို လုပ်ပါ။ တွင်းသည် မည်သို့ပင် ကောက်နေစေကာမူ မြွေသည် တွင်းထဲသို့ အလိုက်သင့် ဝင်နိုင်သကဲ့သို့ပင်တည်း။ ရှေးက သံကို ကြွက်စားသည်ဆိုသောကိစ္စ၊ သားငယ်ကို စွန်ချီသွားသည်ဆိုသောကိစ္စ၊ ရွှေကနေကြေးနီဖြစ်သွားသည်ဆိုသောကိစ္စ၊ သားက မျောက်ဖြစ်သွားသည်ဆိုသောကိစ္စ၊ သမီးဘဝမှ ဆိတ်မဖြစ်သွားသည်ဟူသောကိစ္စများနှင့် စပ်လျဉ်းသော ပုံသက်သေများကို ထောက်ရှုပြီး ဉာဏ်နီဉာဏ်နက်တို့ဖြင့် မိမိအား ထိုးနှက်လာသော ဖြစ်ရပ်များအား အိုးရွဲ့ကို စလောင်းရွဲ့နှင့် ဖုံးရသကဲ့သို့ အကောက်ကို အကောက်ချင်း၊ အစောင်းကို အစောင်းချင်း၊ အတည့်ကို အတည့်ချင်း ရင်ဆိုင်ဖြေရှင်းပါလော့။

## ၁၄။ နှစ်သက်ကြည်ညို ပေါင်းဖက်ကြို

မိမိအကျိုး၊ ဆောင်သည်ပိုးကာ၊ ဆွေမျိုးမဟူ၊ မည်သူမဆို၊ ချစ်ကြည်ညိုလော့၊ အဟိုရှေးက၊ ညွှန်၌ကျသား၊ သီဟရာဇာ၊ ကေသရာကို၊ ယက်ကာမြေခွေး၊ သက်ကယ် ပေး၍၊ သားမြေးခုနစ်ဆက်၊ ချစ်မပျက်အောင်၊ နှစ်သက်ကြည်ညို၊ ပေါင်းဖက်ကြို၏။ (၂၂၀)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိအကျိုးကို ဆောင်ရွက်သည်ပိုးသူဖြစ်လျှင် ဆွေမျိုးမှုမဟုတ်၊ မည်သူ့ကိုမဆို ချစ်ကြည်ညိုကြပါလော့။ ရှေးအခါက ညွန်အိုင်ထဲကျနေသော ခြင်္သေ့ကြီး၏ အသက်ကို ကယ်ဆယ်ပေးဖူးသူ မြေခွေးငယ်ကို ခြင်္သေ့မင်းက ကြည်ညိုချစ်ခင်စွာ ပေါင်းသင်းဆက်ဆံခဲ့သဖြင့် မြေခွေးနှင့် ခြင်္သေ့တို့သည် သားမြေးခုနစ်ဆက်တိုင်အောင် ချစ်မပြယ်ဘဲ ပေါင်းသင်းဆက်ဆံနိုင်ခဲ့ကြ၏။

## ၁၅။ ကိုယ်ကမပါ တောကလာ

အမြစ်အဉ၊ ဆေးအစုကား၊ တစ်ခုသော်မျှ၊ ကိုယ်ကမပါ၊ တောကလာလျက်၊ ချမ်းသာဆောင်တတ်၊ ကျိုးရှိမြတ်၏။ (၂၂၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ခန္ဓာကိုယ်၌ ဖြစ်ပွားသော အနာရောဂါအတွက် ဆေးဝါးဟူသော သစ်ဉ၊ သစ်ဖု တို့သည် ကိုယ်ခန္ဓာထဲက ဖြစ်လာသည်မဟုတ်။ အလွန်ဝေးကွာသော တောတောင်များ ထဲမှသာ ဖြစ်လာကြကုန်၏။ ၎င်းဆေးဝါးတို့သည် ကိုယ်နှင့်မဆိုင်သော်လည်း ကိုယ် ခန္ဓာကျန်းမာခြင်းဟူသော အကျိုးကို ဆောင်နိုင်သဖြင့် မြင့်မြတ်လှသောအရာများ ဖြစ်ကြ၏။

## ၁၆။ သူ့ကိုလွန်ကျူး မာန်မရှူးနှင့်

သူ့ကိုလွန်ကျူး၊ မာန်မရှူးနှင့်၊ အထူးမချွတ်၊ မေတ္တာညွတ်၍၊ ဗြဟ္မဒတ်မင်း၊ ကျင့်ခြင်းပုံတူ၊ မျက်ရှိသူကို၊ မရှုအမျက်၊ မွေ့ညက်သာယာ၊ အောင်စေရာ၏၊ မေတ္တာ ရှေ့ထား၊ မရငြားသော်၊ ကျားနှင့်ဆိတ်မ၊ စိတြဂိဝါ၊ များစွာခိုသင်း၊ ငုံးခပင်းတို့၊ မကြွင်းကိုယ်စီ၊ ပိုက်ကွန်ချီသို့၊ ညီညီညာညာ၊ သက်စွန့်ရာ၏။ (၂၂၁)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ပါးအပေါ် မာန်မာနမထားရာ။ ဗြဟ္မဒတ်မင်းအား၊ ပုံသက်သေပြု၍၊ မေတ္တာထား၍၊ ဆက်ဆံရာ၏။ အမျက်ရှိသူကို သိမ်မွေ့ချိုသာမှုဖြင့် အောင်နိုင်ရာ၏။ အကယ်၍ မေတ္တာထား၍မှမရလျှင် ကျားနှင့်ဆိတ်မ၊ စိတြဂိဝါခိုမင်း အမှူးပြုသော ခိုအပေါင်းတို့ကဲ့သို့လည်းကောင်း မိမိတို့အမျိုးချင်း စည်းလုံးညီညွတ်စွာဖြင့် အသက်စွန့်ကာ အနိုင်ယူပါလော့။

## ၁၇။ နှိုင်းဆ၍သာ ယုံတို့ရာ

အကြင်လူ၌၊ စရိုက်မိုက်ထိုင်း၊ ဇာတိရိုင်းကား၊ ဖျိုင်းသူတော်ယောင်၊ ကြောင် သူတော်တု၊ ကျင့်ပြုတတ်စွ၊ အပေါ်လှလည်း၊ အပဈေးသုံး၊ ရွှေရောင်ဖုံးလျက်၊ ကြေးတုံး ပမာ၊ များလှစွာ၏၊ ထင်ရာထင်မိ၊ မျက်စိဒိဋ္ဌ၊ မြင်သမျှလည်း၊ မုချချည်းသာ၊ မဟူရာရှင့်၊ တူကာရုံမျှ၊ ရှိတတ်ကြခဲ့၊ နှိုင်းဆ၍သာ၊ ယုံတို့ရာ၏။ (၂၂၈)

**ပဏ္ဏမြားငမောက်စာပေ**

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကဌ် မိုက်မဲသောသူတို့သည် သူတော်ယောင်ဆောင်ထားကြသည့် ဖျင်း၊ ကြောင်တို့ကဲ့သို့ အပေါ်ယံကသာ ကောင်းဟန်ဆောင်ထားပြီး အတွင်း၌ကား ဆိုးဝါးလှချေ၏။ ထိုသူတို့သည် ထင်မိထင်ရာ လုပ်တတ်၏။ ထို့ကြောင့် မျက်စိနှင့် မြင်ကာမျှနှင့် လူကောင်းတစ်ယောက်အဖြစ် မမှတ်ယူပါနှင့်။ နှိုင်းချိန်စဉ်းစားပြီးမှသာ ယုံကြည်သင့်ကြ၏။

## ၁၈။ တစ်ဦးကိုမျှ မယုံရ

ပညာမရှိ၊ ခိတိမဲ့လျှင်း၊ သမ္မာကင်းတို့၊ ခံတွင်းနှုတ်သာ၊ ချိန်ခွင်လျှာသို့၊ ပါလွယ်လိုက်လွယ်၊ သာလျော့လွယ်၏၊ အကယ်တူစွာ၊ တွေ့ရာစိမ်းရှမ်း၊ မစုံစမ်းဘဲ၊ ချီးမွမ်းလွယ်ချင်၊ ပြစ်တင်လွယ်တတ်၊ ယုက်မြတ်အတူ၊ လျစ်လျူချည်းသာ၊ လူမှာအထူး၊ ထိုသုံးဦးတွင်၊ တစ်ဦးကိုမျှ၊ မယုံရဘူး၊ (၂၂၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လောကဌ် ပညာမရှိသူ၊ စိတ်တည်ကြည်ခြင်းမရှိသူ၊ ရိုးသားဖြောင့်မတ်ခြင်းမရှိသူတို့သည် ကိုယ်ပိုင်ခံယူချက်မရှိ၊ ပါလွယ် တိမ်းလွယ်တတ်ကြ၏။ တစ်ဦးတစ်ယောက်အပေါ် စုံစမ်းခြင်းမရှိဘဲ ချီးမွမ်းလွယ် ကဲ့ရဲ့လွယ်တတ်ကြ၏။ ထိုလူသုံးဦးအနက် တစ်ဦးကိုမျှ ယုံကြည်စိတ်ချခြင်းမရှိစေနှင့်။

## ၁၉။ ဝါဒညစ်ညမ်း လူစိမ်းရှမ်းကို ကျွမ်းမဝင်ရာ

သူမိုက်နှင့်ပေါင်း၊ သူကောင်းလည်းပျက်၊ ကျင့်ယွင်းပျက်ခဲ့၊ သစ်ရွက်ငါးပုပ်၊ ထုပ်သည့်ပမာ၊ မချွတ်ရာတည့်၊ နွယ်လာအရိုး၊ အမျိုးမတူ၊ အယူမမျှ၊ ဝါဒညစ်ညမ်း၊ လူစိမ်းရှမ်းကို၊ ကျွမ်းမဝင်ရာ၊ (၂၂၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်နှင့် ပေါင်းဖော်မိလျှင် သူတော်ကောင်းသည်ပင် ငါးပုပ်ကို ထုပ်သော သစ်ရွက်ကဲ့သို့ ပျက်စီးတတ်၏။ ထို့ကြောင့် မျိုးရိုးမကောင်း၊ အယူဝါဒညစ်ညမ်းသည့် လူစိမ်းများကို မပေါင်းဖော်ရာချေ။

## ၂၀။ ကောင်းသောသူနှင့် ပေါင်းဖက်သင့်

လူတို့သဘော၊ မနောစင်ဖြူ၊ ကောင်းသောသူနှင့်၊ ပေါင်းဖက်သင့်က၊ ကောင်းကျင့်ကောင်းမူ၊ မကောင်းသူနှင့်၊ အတူပေါင်းမူ၊ မကောင်းတုကို၊ လိုက်ပြုတတ်စွ၊ (၂၃၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့သဘောသည် ကောင်းသူနှင့် ပေါင်းဖော်လျှင် မိမိလည်းကောင်းလာပြီး၊ အကယ်၍ မကောင်းသူနှင့် ပေါင်းဖက်မိပါက ထိုသူ၏ အမူအကျင့်အတိုင်းလိုက်၍ ပြုတတ်ကြကာ မိမိလည်း မကောင်းသူဖြစ်ရ၏။

## ၂၁။ တံငါ့အိမ်ပါး တံငါလား

ဤလောကဥ္ဌ၊ တံငါ့အိမ်ပါး၊ တံငါလားဟု၊ ဆိုငြားမှန်ဘိ၊ ယွင်းမရှိတည့်၊ တစ်မိဝမ်းအောင်း၊ ရသေ့ကျောင်းနှင့်၊ ဆိုးကောင်းယုတ်မာ၊ ခိုးသူရွာသို့၊ ရောက်ရှာကုန်ကြ၊ သူ့ဝနှစ်ကောင်၊ ကျေးညီနောင်တို့၊ တစ်ကောင်မှာသော်၊ သူတော်အလေ့၊ သိမ်မွေ့လိမ္မာ၊ တစ်ကောင်မှာမူ၊ ဝါစာဖရုသ်၊ ကြမ်းကြုတ်စရိုက်၊ ရုန့်ရင်းမိုက်ရှင့်၊ (၂၃၇)

### ဆိုလိုရင်း အဓိပ္ပာယ်

ဤလောကဥ္ဌ တံငါ့အိမ်ပါး တံငါလားဆိုသောစကားသည် မှန်လှချေ၏။ တစ်ဝမ်းတွင်းမှ ပေါက်ဖွားလာသူ ကျေးညီနောင်တို့ပင် တစ်ကောင်မှာ ရသေ့ကျောင်းသခ်မ်းသို့ ရောက်ခဲ့၍ အမူအရာ ယဉ်ကျေးသိမ်မွေ့၏။ ခိုးသူရွာဥ္ဌ ရောက်ရသော အခြားတစ်ကောင်မှာမူ နှုတ်ကြမ်း၊ စရိုက်ကြမ်းနှင့် ရုန့်ရင်းကြမ်းကြုတ်သောအဖြစ်သို့ ရောက်ရ၏။

## ၂၂။ သရက်ချိုမြ ကွယ်ပအပြီး အခါးသီး၏

တိရစ္ဆာန်မျိုး၊ ဓာတ်နွယ်ရိုးလျက်၊ အဆိုးအကောင်း၊ ဖော်ပေါင်းလေ့လာ၊ မြင်ရာတုခိုး၊ ကောင်းဆိုးရိုင်းယဉ်၊ ဂုဏ်ထူးယှဉ်၏၊ ဝိညာဉ်မဲ့ဘိ၊ စိတ်ရှိသတ္တဝါ၊ မဟုတ်စွာသေး၊ တမာခွေးတောက်၊ မြစ်လျှောက်ရောယှက်၊ တူနှောဖက်၍၊ သရက်ချိုမြ၊ ဘဏ္ဍရလည်း၊ ကွယ်ပအပြီး၊ အခါးသီး၏။ (၂၃၇)

### ဆိုလိုရင်း အဓိပ္ပာယ်

တိရစ္ဆာန်များသည် မျိုးရိုးဓာတိ၊ အပေါင်းအဖော်တို့ကိုလိုက်ပြီး အကောင်းအဆိုး၊ အရိုင်း အယဉ်တို့ ဖြစ်လာရ၏။ အသက်မရှိသော တမာပင်၊ ခွေးတောက်ပင်တို့အနီး၌ ပေါက်ရောက်သော အရသာချိုမြလှသည့် ဘဏ္ဍရသရက်ပင်သည်ပင် တမာ၊ ခွေးတောက်တို့၏ အမြစ်များနှင့် ထိတွေ့ ရောယှက်မိသဖြင့် အချိုသီးများပျောက်ပြီး အခါးသီးများ သီးရချေ၏။

## ၂၃။ ဓာတ်ချင်းသင့်လျော် ပေါင်းကြဖော်

ယုတ်မြတ်ဓမ္မတာ၊ သတ္တဝါကား၊ တံငါချင်းချင်း၊ မုဆိုးချင်းတို့၊ မယွင်းအယူ၊ သဘောတူသို့၊ မသူတော်ချင်း၊ သူတော်ချင်းသာ၊ ဓာတ်ချင်းသင့်လျော်၊ ပေါင်းကြဖော်၏၊ (၂၃၈)

### ဆိုလိုရင်း အဓိပ္ပာယ်

သတ္တဝါဟူသမျှတွင် အယုတ်အမြတ်မရွေး၊ ဓာတ်တူ၊ သဘောတူသူအချင်းချင်းသာ ပေါင်းဖော်လေ့ရှိကြ၏။ တံငါအချင်းချင်း၊ မုဆိုးအချင်းချင်း၊ လူမိုက်အချင်းချင်း၊ သူတော်ကောင်းအချင်းချင်း ပေါင်းဖက်ကြသကဲ့သို့ပင်တည်း။

## ၂၄။ မပေါင်းအပ်သော ဗာလမိတ်ဆွေ

လောကလူတွင်၊ ရန်သူမှန်စွာ၊ ဖြစ်စေကာမူ၊ ပညာရှိကာ၊ မြတ်တုံစွ၏၊ ဗာလအစစ်၊ မိတ်ပင်ဖြစ်လည်း၊ အပြစ်သာပြု၊ ကျိုးမဟုတ်ဘူး၊ (၂၃၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ မိမိ၏ရန်သူပင် ဖြစ်စေကာမူ ထိုသူသည် ပညာရှိသူဖြစ်ပါက အကျိုးအမြတ် ရှိနိုင်၏။ အကယ်၍ ထိုသူသည် မိမိ၏မိတ်ဆွေရင်းချာပင် ဖြစ်သော်လည်း ပညာမဲ့ လူ့ဗာလတစ်ယောက်ဖြစ်ခဲ့လျှင်မူ မိမိအဖို့ အပြစ်သာများပြီး အကျိုးမရှိနိုင်ချေ။

## ၂၅။ အသွင်မတူ အိမ်သူမဖြစ်

အသွင်မတူ၊ အိမ်သူမဖြစ်၊ သူမိုက်ညစ်လည်း၊ မိုက်ညစ်ချင်းသာ၊ လူသမ္မာလည်း၊ သမ္မာချင်းချင်း၊ ပေါင်းကြသင်း၏၊ ပြုခြင်းမူခြင်း၊ နှလုံးသွင်းဖြင့်၊ ဇာတ်ချင်းမလျော်၊ သူမတော်နှင့်၊ သူတော်မြတ်ယုတ်၊ သဘောထုတ်က၊ သမုဒ္ဒရာ၊ ဤမှာထိုဘက်၊ ကမ်းနှစ်ဖက်နှင့်၊ ဘဝဂ်ဝီစိ၊ ဟူဘိမက၊ ပမာပြ၍၊ မမျှနိုင်ရာ၊ ဝေးကြကွာ၏၊ (၂၅၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ အသွင်အပြင်မတူလျှင် အိမ်သူမဖြစ်ဟူသော စကားအတိုင်း လူမိုက်လည်း လူမိုက်ချင်းချင်း၊ လူကောင်းများလည်း လူကောင်းချင်းချင်း၊ ပေါင်းသင်းဆက်ဆံလေ့ ရှိကြကုန်၏။ အပြုအမူချင်း၊ စိတ်သဘောချင်း၊ ဇာတ်ချင်းမတူကြသည့် သူတော်ကောင်းနှင့် သူယုတ်မာတို့သည် သမုဒ္ဒရာ၏ ဤမှာဘက်ကမ်းနှင့် ထိုမှာဘက်ကမ်းတို့ ဝေးကွာသကဲ့သို့လည်းကောင်း၊ ဘဝဂ်နှင့်၊ အဝီစိတို့ဝေးကွာသကဲ့သို့လည်းကောင်း ဝေးကွာလှချေ၏။

## ၂၆။ သူကောင်းတစ်ယောက် ပြစ်တင်ကြောက်လော့

တရားမကြိုက်၊ လျှာဒုစရိုက်နှင့်၊ လူမိုက်တစ်သောင်း၊ ချီးမွမ်းရှောင်းလည်း၊ သူကောင်းတစ်ယောက်၊ ပြစ်တင်ကြောက်လော့၊ ရှေ့နောက်မဆ၊ လူ့ဗာလတို့၊ ဂုဏဒေါသ၊ နှစ်ဝကျိုးပြစ်၊ စိစစ်မြော်မြင်၊ မဆင်ခြင်ဘူး၊ ဆိုချင်မက်မော၊ ဆိုလျှင်ဆောဖြင့်၊ သဘောအလိုက်၊ တုတ်နှင့်ရိုက်သို့၊ သူမိုက်ချီးမွမ်း၊ ဂုဏ်နာနွမ်း၏၊ (၂၆၁)

## ဆိုလိုရင်း အဓိပ္ပာယ်

တရားနည်းလမ်းမကျသော စကားများဖြင့် လူမိုက်ပေါင်း တစ်သောင်းက ချီးမွမ်းနေသော်လည်း သစ္စာစကားကို ဆိုတတ်သည့် သူတော်ကောင်းတစ်ယောက်၏ ကဲ့ရဲ့ပြစ်တင်ခြင်းကို ကြောက်ပါလော့။ လူမိုက်တို့သည် အကျိုးအပြစ်၊ အရှေ့အနောက်ကို မဆင်ခြင်ဘဲ ပြောလိုရာကိုသာ လူမိုက်တို့သဘောအတိုင်း တုတ်နှင့်ရိုက်သကဲ့သို့ ပြောတတ်ခြင်းကြောင့် လူမိုက်တို့၏ ချီးမွမ်းစကားသည် မိမိ၏ဂုဏ်သိက္ခာကိုသာ ညစ်နွမ်းစေ၏။

## ၂၇။ မသူတော်နှင့် မပေါင်းနှင့်

တရားမမြော်၊ မသူတော်ကို၊ ပေါင်းဖော်သမျှ၊ ဒုက္ခညီးညီး၊ လောင်သည့်မီးသို့၊ ပျက်စီးတတ်စွာ၊ မချမ်းသာဘူး၊ ဆရာမိဘ၊ ဆုံးမစကား၊ မလိုက်ကြားလည်း၊ ပျက်ပြားဆင်းရဲ၊ ဖြစ်မြဲကေန်၊ မသွေလှန်တည့်၊ (၂၆၂)

### ဆိုလိုရင်း အဓိပ္ပာယ်

တရားမရှိသော သူယုတ်တို့နှင့် ပေါင်းဖော်ခြင်းဟူသမျှသည် လောင်သည့်မီးပမာ ပျက်စီးဖို့သာ ဖြစ်၏။ ထိုသူယုတ်တို့နှင့် ပေါင်းဖော်သူသည် မိဘဆရာတို့၏ ဆိုဆုံးမမှုကို မလိုက်နာကြသူများဖြစ်၍ နောက်ဆုံးတွင် ပျက်စီးဆင်းရဲရမည်မှာ ကေန်ဖြစ်၏။

## ၂၈။ စိတ်ထားတစ်မျိုး နှုတ်တစ်မျိုး

ခွေးငှက်အသံ၊ နားယံကြားခါ၊ သိလွယ်စွာခဲ့၊ လူ့ရွာလူသား၊ လူ့စကားမူ၊ ကြား၍နိုက်နဲ၊ သိနိုင်ခဲ၏၊ ၀မ်းထဲတစ်ပါး၊ ပြင်တစ်ခြားနှင့်၊ စိတ်ထားတမျိုး၊ နှုတ်တစ်မျိုးတည့်၊ (၂၆၃)

### ဆိုလိုရင်း အဓိပ္ပာယ်

ခွေး၊ ကြက်၊ ငှက် စသည့်သတ္တ၀ါတို့၏ အသံကို နားတွင် ကြားရရုံနှင့် သိလွယ်၏။ လူတို့၏စကားသံကိုကား သိရှိနိုင်ရန် ခက်ခဲလှ၏။ အဘယ်ကြောင့်ဆိုသော် လူဆိုသည့် သတ္တ၀ါသည် စိတ်ထဲ ၀မ်းထဲက ဖြစ်နေသိနေသည့်အတိုင်း ထုတ်ဖော်ခြင်း မရှိဘဲ စိတ်ထဲရှိသည်ကတစ်မျိုး၊ နှုတ်ကပြောသည်ကတစ်မျိုး ကွဲပြားနေတတ်သောကြောင့် ဖြစ်၏။

## ၂၉။ လူကြွားပြောတန် လူသန်မကြွား

ရေမပြည့်သား၊ အိုး၏ပမာ၊ သွက်သွက်ခါရှင့်၊ နှုတ်လျှာရွှင်ရွှင်၊ မိုးဖျင်ဖျင်သို့၊ ဖြင်ဖြင်စကား၊ တဘွားဘွားနှင့်၊ လူကြွားပြောတန်၊ လူသန်မကြွား၊ မောင်မှတ်သားလော့၊ မြင်ကြားသုတ၊ ဉာဏအရာ၊ အလိမ္မာနှင့်၊ ပညာသိမြော်၊ ရှိပါသော်လည်း၊ တော်မှန်ဖြောင့်ခဲ့၊ ၀မ်းထဲသစ္စာ၊ တော်ဖြောင့်ပါလည်း၊ လိမ္မာနည်းပါး၊ ဉာဏ်မြင်ရှားခဲ့၊ ရှည်လျားရောယှက်၊ လူ့ထဲနက်ကို၊ ပေါင်းဖက်သမှု၊ သိအောင်ပြုလော့၊ (၂၆၃)

### ဆိုလိုရင်း အဓိပ္ပာယ်

ပညာမဲ့သော လူမိုက်တို့သည် နှုတ်သွက် လျှာသွက်နှင့် စကားကို တဘောင်ဘောင် ပြောတတ်ကြ၏။ လူကြွားတို့သည် ဤသို့စကားများစွာ ပြောကြ၍ ပညာရှိတို့မှာမူ ကြွား၀ါပြောဆိုခြင်း မရှိကြချေ။ လူတို့အထဲတွင် ပညာဗဟုသုတတို့ ရှိသော်လည်း ဖြောင့်မတ်မှန်ကန်ခဲလှ၏။ တော်မှန်ဖြောင့်မတ်ပြန်ပါလည်း အသိပညာ အလိမ္မာနည်းလှ ပြန်၏။ ထို့ကြောင့် လူ့သဘောကို သိအောင်ပြု၍ ဆက်ဆံပေါင်းသင်းပါလော့။

## ၃၀။ ပိယသဟာ ရေနှင့်ကြာသို့

ပုထုဇန၊ ထိုမျှပုဂ္ဂိုလ်၊ များလူဗိုလ်တို့၊ မလိုမကောင်း၊ လိုလျှင်ကောင်းရှင့်၊ အဟောင်းအသစ်၊ လူအိုဖြစ်လည်း၊ မချစ်မလှ၊ ချစ်လျှင်လှ၏၊ လောကဓမ္မတာ၊ လူ့တံထွာတည့်၊ ပညာစက္ခု၊ မျှော်ထောက်ရှုလော့၊ ယခုဝတ္တမန်၊ ပစ္စုပ္ပန်ဒိဋ္ဌ၊ ဤဘဝဌ်၊ ဟိတအထူး၊ ကျေးဇူးပြုထွေ၊ ပုဗ္ဗေကတ၊ တကွမကင်း၊ ချစ်ရင်းပါကြ၊ ကြောင်းနှစ်ဝကြောင့်၊ ပိယသဟာ၊ ရေနှင့်ကြာသို့၊ မေတ္တာနှုးဆွတ်၊ ချစ်ကြတတ်ဟု၊ မြတ်သမ္ဗုဒ္ဓ၊ ဟောဖော်ပြရှင့်၊ (၃၁၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ပုထုဇဉ်တို့၏ သဘာဝအတိုင်း မလိုမကောင်း၊ လိုလျှင်ကောင်းတတ်ကြ၏။ မချစ်လျှင်မလှ၊ ချစ်လျှင် လှကြ၏။ ဤသည်မှာ လူ့သဘောတံထွာပင်ဖြစ်၍ အရာရာတွင် ပညာမျက်စိဖြင့် ဆင်ခြင်ကြည့်ရှုကြရာ၏။ ယခုဘဝတွင် တစ်ဦးကိုတစ်ဦး ကောင်းကျိုးပြုမှု၊ ရှေးဘဝက ရေစက်ပါလာမှုတို့ကြောင့် တွေ့ဆုံပေါင်းသင်းကြရသဖြင့် ရေနှင့်ကြာလို တစ်ဦးကိုတစ်ဦး မေတ္တာထား ချစ်ခင်နေကြရခြင်းပင် ဖြစ်၏ဟု မြတ်စွာဘုရားက ဟောမြွက်ခဲ့၏။

## ၃၁။ နတ်လူချစ်ဆေး ရှုတိုင်းမွေး

ဗြဟ္မစိုရ်လေးဆူ၊ တရားဟူသည့်၊ နတ်လူချစ်ဆေး၊ ရှုတိုင်းမွေးကို၊ မြတ်လေးဆောင်လွယ်၊ ကင်းမပယ်နှင့်၊ ဝမ်းဝယ်မပြတ်၊ ထားစေတတ်လော့၊ (၃၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာဟူသည့် ဗြဟ္မစိုရ်တရားလေးပါးသည် နတ်လူအပေါင်း ချစ်စေနိုင်သည့်ဆေး ဖြစ်၏။ ထိုတရားများကို မဖယ်ရှားဘဲ လေးစားမြတ်နိုးစွာ ဆောင်ထားကြပါကုန်လော့။

## ၃၂။ စိန်နှင့် သံပုရာ အဆိပ်စာ

ကောင်းဆိုးစစ်၍၊ ကျိုးပြစ်ရှုမျှော်၊ သိမြင်မြော်လော့၊ သူတော်မဟုတ်၊ သူယုတ်တို့၌၊ တစ်ခိုက်မျှဖြင့်၊ ပေါင်းမိသင့်က၊ စိန်နှင့်သံပုရာ၊ အဆိပ်စာသို့၊ မိစ္ဆာတိမ်းပါး၊ ယူဖောက်ပြား၍၊ တရားမလျှော်၊ မှားချွတ်ချော်၏၊ (၃၂၀)

## ဆိုလိုရင်း အဓိပ္ပာယ်

အကောင်းအဆိုး၊ အကျိုးအပြစ်တို့ကို သိမြင်တတ်အောင် ကြိုးစားပါလော့။ သူတော်ကောင်းမဟုတ်သော လူယုတ်မာတို့နှင့် ခေတ္တခဏ ပေါင်းသင်းမိခြင်းသည် စိန်နှင့် သံပုရာတွေ့သလို အဆိပ်ဖြစ်တတ်၏။ မကောင်းသော အယူဝါဒနှင့် အကျင့်ဖောက်ပြန် ပျက်စီးတတ်ချေ၏။

## ၃၃။ ဆိုချင်တတ်တိုင်း နှုတ်မရိုင်းနှင့်

မိမိကိုယ်ကို၊ ကြီးမြင့်လိုမူ၊ မောက်မိုမောက်ကြွား၊ မပလွှားရာ၊ စကားကြွပ်ဆတ်၊ မတ်မတ်နင်သင်၊ မဆင်ခြင်ဘဲ၊ ဆိုချင်တတ်တိုင်း၊ နှုတ်မရိုင်းနှင့်၊ မကိုင်းညွတ်လို၊ မိုက်မုန်ယို၍၊ မင်းကိုမာန၊ မထောင်ရဘူး၊ (၃၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိကိုယ်ကို ကြီးပွားလိုလျှင် စကားမောက်ကြွား၊ မပလွှားဘဲ၊ ကြွပ်ဆတ်ရိုင်းပျသောစကားကို မဆင်မခြင်ဘဲ မပြောပါနှင့်။ နှုတ်ထွက်စကားကိုလည်း ပြောချင်ဆိုချင်တိုင်း ရိုင်းရိုင်းစိုင်းစိုင်းမပြောရာ။ မိမိအထက်အကြီးအကဲများကို မိုက်မဲသောစိတ်ဖြင့် ဆန့်ကျင်ကာ မာန်မာန မထောင်ရချေ။

## ၃၄။ စကားကျိုးကား ဆက်နိုင်ခဲ၏

ဤလောက၌၊ လုံ့လဆော်နှိုး၊ အားထုတ်ကြိုး၍၊ သံကျိုးသံပြတ်၊ ဆက်နိုင်တတ်၏၊ ယွင်းချွတ်ခေါ်ရိုး၊ စကားကျိုးကား၊ ကျောက်ကျိုးမလွဲ၊ ဆက်နိုင်ခဲ၏။ (၃၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလူ့လောကတွင် ကြိုးစားအားထုတ်၍ သံအကျိုးအပြတ်များကို ပြန်၍ ဆက်စပ်လိုလျှင် ပြန်ဆက်အောင်လုပ်နိုင်၏။ ချွတ်ချော်တိမ်းပါး ယွင်းချွတ်သွားသော စကားကျိုးကိုမူ ပြန်၍ ဆက်စပ်နိုင်ရန် ခဲယဉ်းလှ၏။

## ၃၅။ မပေါင်းသင်းထိုက်သူ

အခြေမရှိ၊ ဇာတိမကောင်း၊ ပလောင်းပလဲ၊ အပေါ်ချွဲနှင့်၊ မမြဲနှုတ်လျှာ၊ ဝါစာဆန်းပြား၊ ချောစားတတ်စွာ၊ သူယုတ်မာကို၊ မေတ္တာရှောက်ရှက်၊ ပေါင်းဖက်တူရော၊ မနိုးနှောနှင့်၊ (၃၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

အခြေအနေ ဇာတိမကောင်းသူတို့သည် အပေါ်ယံချွဲပြီး ပလောင်းပလဲ ပြောဆိုတတ်ကြ၏။ ထိုသို့သဘောရှိသော သူယုတ်မာကို မေတ္တာထား၍ ပေါင်းဖက်ရောနှောခြင်းမပြုရာ။

# ၂၀။ သစ္စာ မေတ္တာ ခန္တီ

လူနှင့် လူ့လောကကို မလိုလားအပ်သည့် ဘေးဒုက္ခမျိုးစုံပေးနေသောအရာတို့တွင် လောဘ၊ ဒေါသ၊ အာဃာတနှင့် မာနတို့သည် ထိပ်ဆုံးက ပါဝင်နေ၏။ အဖျက်အင်အားများလည်း ဖြစ်၏။ အကုသိုလ်တရားများလည်း ဖြစ်၏။ ယင်းတရားများ စည်ကားပွားများလေလေ၊ ဤလူ့လောကကြီးသည် တိရစ္ဆာန်ဘုံလောကကြီးအဖြစ်သို့ တရွေ့ရွေ့ နီးကပ်လာလေလေ ဖြစ်၏။

ထိုအဖျက်အကုသိုလ်တရားတို့၏ ဆန့်ကျင်ဘက်တရားတို့မှာ သစ္စာ၊ မေတ္တာ၊ ခန္တီတို့ဖြစ်ကြကုန်၏။ လောကကြီးတစ်ခုလုံး အေးချမ်းသာယာပြီး ဝပြောစည်ပင်စေသည့် အပြုအင်အားများ ဖြစ်ကြကုန်၏။ ကုသိုလ်တရားများဖြစ်၍ လူပုဂ္ဂိုလ်တစ်ဦးစီအား ကာယသုခ၊ စိတ္တသုခ နှစ်ဖြာသောသုခတို့နှင့် ပြည့်စုံလာအောင် ဖန်တီးပေးနိုင်သဖြင့် လိုလားအပ်သော စိတ်အရည်အချင်းများဖြစ်၏။ ထိုတရားများ စည်ပင်ပြန့်ပွားလေလေ လူ့ကမ္ဘာကြီးသည် ပို၍ပျော်ရွှင်ချမ်းမြေ့ဖွယ်ကောင်းလေလေ ဖြစ်၏။

ရခဲဖြစ်ခဲလှသော လူ့ဘဝကို ရလာသူတိုင်းသည် ဖော်ပြပါ အဖျက်အင်အား အကုသိုလ်တရားများကို ဖယ်ရှားငြိမ်းသတ်ရန် လို၏။ အပြုအင်အား ကုသိုလ်တရားတို့ကို ထွန်းကားစည်ပင်ရန် ပွားများအားထုတ်ကြရန် လို၏။

ထိုသို့ မကောင်းသည်ကိုပယ်၊ ကောင်းသည်ကို ဆောင်ယူနိုင်ရန်အတွက် ဒေါသ၊ အာဃာတ၊ မာနတို့ကို ချေဖျက်ဖယ်ရှားပေးနိုင်သော သစ္စာ၊ မေတ္တာ၊ ခန္တီတရားတို့၏ အကျိုးအာနိသင်ကို သိရှိနားလည်ထားရန် လို၏။ သစ္စာ၊ မေတ္တာ၊ ခန္တီတို့၏ အပြုအင်အား တန်ခိုးအရှိန်အဝါများကို သိရှိနားလည်ထားမှသာ ထိုတရားတို့ ပွားများရန် အားထုတ်နိုင်ကြမည် ဖြစ်၏။

မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးကို ရေးသားစီရင်သူ ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် သူ၏လင်္ကာသစ်ကြီးထဲ၌ မာန၊ ဒေါသတို့၏ အပြစ်နှင့် သစ္စာ၊ မေတ္တာ၊ ခန္တီတို့၏အကျိုးတို့ကို နိပါတ်၊ ရာဇဝင်၊ နီတိအမျိုးမျိုးမှ သာဓကများဖြင့် ဖွင့်ဆိုရေးသားထား၏။ မှန်ကန်ဖြောင့်မတ်ခြင်း သစ္စာ၏တန်ခိုး၊ ချစ်ခြင်းမေတ္တာ၏ အကျိုးပေးမှု၊ သည်းခံခြင်း ခန္တီတရား၏ ကြီးမားသော အာနိသင်စွမ်းပကားတို့ကို နည်းအသွယ်သွယ်၊ ပရိယာယ်အဝဝဖြင့် သက်သေသာဓကများစွာဖြင့် ဆုံးမလမ်းညွှန်ထား၏။ မှတ်လွယ်၊ ကျက်လွယ်၊ နှလုံးသွင်းလွယ်စေရန် နီတိများသဖွယ် ရေးခြယ်စီကုံးထားပေ၏။

သစ္စာ မေတ္တာ ခန္တီ ဆိုင်ရာ လမ်းညွှန်နီတိများစွာထဲမှ အမျိုးကောင်းသား၊ အမျိုးကောင်းသမီးတို့အတွက် သင့်နိုးရာရာ လမ်းညွှန်မှုအချို့ကို ဤအပိုင်းတွင် ထုတ်နုတ်တင်ပြထားပါ၏။ မိမိအကျိုး၊ လူ့လောကအကျိုးကို လိုလားသူ ရှင်လူအပေါင်းတို့က ဤလမ်းညွှန်နီတိများမှတစ်ဆင့် မိမိတို့ဘဝ တိုးတက်မြင့်မားအောင် ကြံဆောင်အားထုတ်နိုင်ကြပါစေ။

## ၁။ သစ္စာမြင်းမိုရ် နှုတ်သံချို

ဦးကိုင်စိုးလစ်၊ မင်းလျှင်ဖြစ်က၊ မင်းစစ်ဓမ္မတာ၊ ထုံးစံလာတိုင်း၊ သစ္စာမြင်းမိုရ်၊ နှုတ်သံမှိုဖြင့်၊ မယိမ်းယွက်၊ ထိပ်ဝယ်နှက်သို့၊ ဆောင်ရွက်မြဲစွာ၊ တည်တံ့ပါလော့၊ (၁၇၅)

## ဆိုလိုရင်း အဓိပ္ပာယ်

လူအများကို စိုးပိုင်အုပ်ချုပ်နေသော အကြီးအကဲ၊ မင်းဖြစ်ပါက မင်းတို့၏ ထုံးစံ ဓမ္မတာအတိုင်း သစ္စာတရားကို မြင်းမိုရ်တောင်မင်းကဲ့သို့ ကြီးမားမြဲမြံစွာ ထားရာ၏။ နှုတ်ထွက်စကားသည်လည်း သံမှိုနှက်ထားသကဲ့သို့ မြဲမြံခိုင်မာစွာ ထားရာ၏။

## ၂။ သည်းခံနိုးကြား သနားထကြွ

သည်းခံနိုးကြား၊ သနားထကြွ၊ နိစ္စမသွေး၊ ခွဲဝေရှုတတ်၊ ခြောက်ပါးမှတ်သား၊ သူမြတ်တို့ဂုဏ်၊ ကျေးဇူးဟုန်လည်း၊ မသုန်ကျင့်ထ၊ ပြည့်စေမှတည့်၊ (၁၇၇)

## ဆိုလိုရင်း အဓိပ္ပာယ်

သည်းခံခြင်း၊ ထကြွနိုးကြားခြင်း၊ သနားကြင်နာတတ်ခြင်း၊ ဝေဖန်တတ်ခြင်း ဟူသော သူမြတ်တို့၏ ဂုဏ်ခြောက်ပါးတို့နှင့် အကြီးအကဲလုပ်သူတို့သည် ပြည့်စုံရာ၏။ ထိုဂုဏ်ခြောက်ပါးနှင့် ပြည့်စုံအောင် ကျင့်ကြံအားထုတ်ထားနိုင်မှသာ လူတကာတို့၏ အကြီးအကဲမည်၏။

## ၃။ မနောထဲသို့ ဝမ်းတွင်မျိုး

ချစ်ခြင်းဟူသော လူ့သဘောလည်း၊ မနောထဲသို့၊ ဝမ်းတွင်မျိုလျက်၊ ကျွန်ကို ချစ်ရာ၊ ကွယ်သောခါတည့်၊ စေပါယောက်ျား၊ သူရင်းငှားအား၊ စားသည့်အခိုက်၊ သားဦ္ခအိပ်ခါ၊ မယားမှာမူ၊ တန်ဆာဝတ်စား၊ ပေးစဉ်များနှင့်၊ ပျော်ပါးသော်မှ၊ ယုယထင်စွာ၊ ပြအပ်စွာ၏၊ (၁၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ချစ်ခြင်းဟူသောမေတ္တာကို ထင်ရှားစွာမပြဘဲ ဝမ်းတွင် မျိုသိပ်ထားရာ၏။ ကျေးကျွန်ကို နောက်ကွယ်တွင်လည်းကောင်း၊ အခိုင်းအစေ သူရင်းငှားကို စားသည့်အခါတွင်လည်းကောင်း၊ သားသမီးကို အိပ်သောအခါတွင်လည်းကောင်း၊ မယားကိုမူ အဝတ်တန်ဆာ ဆင်ပေးစဉ်နှင့် ပျော်ပါးစဉ်တွင်လည်းကောင်း မေတ္တာကိုပြရာ၏။

## ၄။ သည်းခံအပ်သူနှစ်ဦး

ငယ်ကပေါင်းသင်း၊ ကျွမ်းဝင်ခြင်းဖြင့်၊ နှီးရင်းမိုက်ကပ်၊ ချစ်အပ်သက်တူ၊ ဤသူ တစ်ဦး၊ ကိုယ့်ကျေးဇူးကို၊ အထူးမပြတ်၊ ပြုတတ်တုံမြောက်၊ ထိုနှစ်ယောက်တို့၊ ယိုယွင်း စိုးစိ၊ ပြစ်သာရှိလည်း၊ ခံဘိသည်းညည်း၊ ကျေးဇူးပည်း၏၊ (၁၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကဌ် ငယ်စဉ် ကလေးဘဝမှစ၍ ရင်းနှီး ချစ်ကျွမ်းဝင်ခဲ့သူနှင့် မိမိ ကျေးဇူးကို အမြဲမပြတ် ပြုတတ်သူ၊ ဤသူနှစ်ယောက်တို့အား ချို့ယွင်းအားနည်းမှုရှိ၍ မိမိအပေါ် အပြစ်တစ်စုံတစ်ရာ ပြုခဲ့သော်လည်း ခံအပ်၏။

## ၅။ ချစ်ခြင်းဟူသည် ရွှေမဥ္ဈူ

မေတ္တာအရင်း၊ ချစ်မကင်းဘဲ၊ ချစ်ခြင်းဟူသည်၊ ရွှေမဥ္ဈူနံ့၊ ထုံပျံ့မခမ်း၊ ချစ်ကြည် လန်း၍၊ ချစ်ပန်းလှိုင်ကြစေကုန်လော့။ (၁၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

တစ်ဦးကိုတစ်ဦး မေတ္တာအရင်းခံ၍ ချစ်သောချစ်ခြင်းမေတ္တာတရားသည် မဥ္ဈူ သက နတ်ပန်းကဲ့သို့ လှိုင်ပျံ့သင်းကြိုင်လှ၏။ ထိုမေတ္တာချစ်ပန်းကို ထာဝရ လန်းဆန်း မွှေးကြိုင်နေကြစေရာ၏။

## ၆။ ကြည်ဖြူဝမ်းတွင်း ပစ်မကွင်းနှင့်

ကျဉ်းကြပ်ဆောင်ရွက်၊ ရောင်းရင်းဘက်နှင့်၊ အသက်ကယ်သူ၊ ညီးပူဒုက္ခ၊ ရိုက်လာလ က၊ မစသူ၊ ညီကူပင့်ထောက်၊ မင်းဖြစ်မြောက်အောင်၊ တင်မြှောက်သသူ၊ သုံးယောက် လူကို၊ ကြည်ဖြူဝမ်းတွင်း၊ ပစ်မကွင်းနှင့်၊ (၁၈၂)

ပဉ္စာမြားငမောက်စာပေ

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိဘဝ အကျဉ်းအကြပ်ထဲရောက်စဉ် မိမိနှင့်အတူ ရင်ဆိုင်ပေးသော ရောင်းရင်းဘက်၊ အသက်ကယ်ပေးသူ၊ မိမိဘဝညှိုးနွမ်းပူဆာ ဆင်းရဲဒုက္ခရောက်နေစဉ် မိမိအား ထိုဒုက္ခမှ လွတ်မြောက်အောင် ကူညီမစပေးသူ၊ မိမိကို မင်းအကြီးအကဲဖြစ်အောင် တင်မြှောက်ပေးခဲ့သူ၊ ဤလူသုံးယောက်ကို ဘယ်သောအခါမှ ပစ်ပယ်မထားဘဲ စိတ်ထဲဝမ်းထဲ၌ ကြည်ဖြူစွာ ဆက်ဆံပေါင်းသင်းပါလော့။

## ၇။ မဖြုတ်သစ္စာ တော်တည့်ရာ

မြစ်ရေညာဆန်၊ သတ္တဗ္ဘန်က၊ ယုဂန်မြင်းမိုရ်၊ ကွဲပြိုချအက်၊ တိုက်စက္ကဝါ၊ မြေကမ္ဘာလည်း၊ လန်ကာထက်အောက်၊ ပြန်မှောက်စေမူ၊ အယူမယုတ်၊ သူတော်နှုတ်ကား၊ မဖြုတ်သစ္စာ၊ တော်တည့်ရာ၏၊ (၁၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

မြစ်မရေသည် အောက်မှ အထက်အညာသို့ ဆန်၍စီးပါစေ၊ မြင့်မိုရ်တောင်ကြီး အက်ကွဲကာ ပြိုကျပါစေ၊ တစ်သောင်းသော စကြဝဠာနှင့် ကမ္ဘာမြေကြီးသည် အထက်အောက်မှောက်၍ လန်သွားပါစေ၊ သူတော်ကောင်းတို့၏ နှုတ်ထွက်စကားသည် ဘယ်သောအခါမှ ယွင်းဖောက်ခြင်းမရှိ။ ထာဝရ မှန်ကန်ဖြောင့်မတ်နေရာ၏။

## ၈။ သစ္စာဖွဲ့တည်း မေတ္တာစည်းက

သာဖြားလိမ္မာ၊ ပေးအရာနှင့်၊ သစ္စာဖွဲ့တည်း၊ မေတ္တာစည်းက၊ ယမ်းပည်းစေတတ်၊ ကောင်းစွာညွတ်၏၊ (၁၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတစ်ဦးတစ်ယောက်အား သာယာချေင်စွာ ဆွဲဆောင်စည်းရုံး၍ လိမ္မာစွာ ဆက်ဆံပါ။ ထိုက်သင့်သော ရာထူးဌာနန္တရ အဆောင်အယောင်များကို ပေးပါ။ ထိုသူ့အပေါ် သစ္စာတည်ပြီး မေတ္တာထားပါ။ ဤတရားတို့သည် မိမိအပေါ် ညွတ်တွားရိုသေစေနိုင်သော အကြောင်းတရားများ ဖြစ်၏။

## ၉။ ကြည်ညို့မေတ္တာ စောင့်နိုင်ရာ

သူ့ကိုစောင့်မှ၊ သူကကိုယ့်ကို၊ ကြည်ညို့မေတ္တာ၊ စောင့်နိုင်ရာ၏၊ ရှေးခါသော်က၊ သံဝရဟု၊ မင်းလုရွှေတုံး၊ အငယ်ဆုံးလျက်၊ နလုံးမွေ့သိမ်၊ ရွှေအိမ်နန်းရိပ်၊ စိုးစံနိုင်သော်၊ ကိုးကျိပ်ကိုးပါး၊ နောင်တော်များကို၊ ကျေးစားမပျက်၊ ချီးမြှောက်ချက်ကြောင့်၊ ဝန်းယုက်ပတ်ခြံ၊ စောင့်ရန်ညီညာ၊ ဘေးရန်ကာ၍၊ ဗာရာပြည်ကြီး၊ ခိုင်စည်ဖြိုး၏၊ (၁၈၅)

## ဆိုလိုရင်း အဓိပ္ပာယ်

သူ့အပေါ်မှာ ကိုယ်က ကြည့်ရှုစောင့်ရှောက်နိုင်ပါမှ သူက တစ်ဖန် ကိုယ့်ကို ပြန်ပြီး စောင့်ရှောက်နိုင်၏။ ရှေးအခါက ဗာရာဏသီပြည့်ရှင် မင်းကြီးတွင် သားပေါင်း တစ်ရာရှိခဲ့ရာ အငယ်ဆုံးဖြစ်သူ သံဝရမင်းသားက စိတ်နှလုံးသိမ်မွေ့သူပီပီ ကျန် နောင်တော် ကိုးဆယ့်ကိုးပါးကို ပစ်မပယ်ဘဲ နိုင်ငံဒေသအသီးသီး၌ ကျေးစားနယ်စား များအဖြစ် ချီးမြှောက်ခန့်ထားခဲ့ရာ ထိုနယ်စား နောင်တော်များ၏ ကာကွယ်စောင့်ရှောက်မှု ကြောင့် ဗာရာဏသီပြည်ကြီး ဘေးပေါင်းရန်ကွာပြီး စည်ကားဖွံ့ဖြိုးခဲ့ဖူး၏။

## ၁၀။ အကယ်မယွင်း မြဲစေလျှင်း

သစ္စာဟူငြား၊ မှန်တရားလည်း၊ တိမ်းပါးမရှိ၊ မြဲစေဘိလော့၊ တောင်ရှိမပြို၊ မယိမ်းယိုနှင့်၊ ဖရိုဖရဲ၊ မဟူဘဲလျှင်၊ ဆိုခဲမိန့်ခဲ၊ မိန်တပဲလည်း၊ မလွဲမလက်၊ သိကြား ဖျက်စေ၊ မပျက်မ်မစီး၊ စက်နှယ်လိုး၍၊ ထွက်ပြီးဆင်စွယ်၊ နေ့သဖွယ်ဖြင့်၊ အကယ်မယွင်း၊ မြဲစေလျှင်းရှင့်၊ (၁၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

သစ္စာတရားနှင့် ပြည့်စုံပါစေလော့။ ပြောဆိုပြီးသော စကားတစ်ခွန်းကို ကျောက် တောင်ကြီးသဖွယ် မယိမ်းမယိုင် မြဲစေပါလော့။ စကားကို အလွယ်မပြောဘဲ ပြောပြီးလျှင် သိကြားမင်းဖျက်သော်လည်း မပျက်မယွင်းအောင် ထိန်းပါလော့။ ထွက်ပြီးသော ဆင်စွယ် သည် ပြန်ဝင်ရိုးထုံးစံမရှိသကဲ့သို့ နေမင်းသဖွယ် အမြဲတည်စေပါလော့။

## ၁၁။ သစ္စာမဲ့ငြား သူ့စကားနှင့်

မေတ္တာသစ္စာ၊ ဤနှစ်ဖြာကို၊ သေချာပိုင်းခြား၊ ဝမ်းတွင်ထားရှင့်၊ တရားကင်းဘိ၊ ပရိကပ္ပ၊ လိပ်စူဠသို့၊ တွေ့သမျှရမ်း၊ ကျရာဖမ်း၍၊ ပရမ်းပတာ၊ ပြောတတ်စွာတည့်၊ သမ္မာမဲ့ငြား၊ သူ့စကားနှင့်၊ ချောစားကုန်းတိုက်၊ လူ့စရိုက်ကို မလိုက်မနာ၊ တည်ကြည် စွာလော့၊ (၂၀၀)

## ဆိုလိုရင်း အဓိပ္ပာယ်

မေတ္တာနှင့် သစ္စာတရားကို စိတ်တွင် အမြဲထားရာ၏။ တရားမဲ့သော စူဠလိပ် ကဲ့သို့ စိတ်ထဲထင်ရာ ပရမ်းပတာ မပြောပါနှင့်။ တရားနည်းလမ်းမကျသော စကားဖြင့် ချောစားကုန်းတိုက်တတ်သည့် လူ့သဘောကို မလိုက်မှုဘဲ ဖြောင့်မတ်တည်ကြည်စေ ပါလော့။

## ၁၂။ လက်ရှိဝမ်းထဲ ခန္တီမြဲလော့

ပြိုင်ကာဆော်လှုံ့၊ ရန်စမြို့ဖြင့်၊ ရန်တုံ့ပြန်လစ်၊ ရန်မဖြစ်နှင့်၊ ကျိုးပြစ်စာနာ၊ မှုမျှော်ကာလျှင်၊ ခန္တျာဘိယောနဝိဇ္ဇတိ၊ ပါဠိအရ၊ မချစိတ်မှာ၊ သူ့ထက်သာအောင်၊ ပညာသတိ၊ လက်ရှိဝမ်းထဲ၊ ခန္တီမြဲလော့။

## ဆိုလိုရင်း အဓိပ္ပာယ်

တစ်ဦးနှင့်တစ်ဦး ရှိခဲ့ဖူးသော ရန်ကြွင်းရန်စကို အကြောင်းပြု၍ ရန်မဖြစ်ပါနှင့်။ အကျိုးအပြစ် ထောက်မျှော်စဉ်းစား၍ စာနာစိတ်ထားနှင့် ပညာသတိတို့ကို လက်ကိုင်ပြုပြီး ဒေါသကို အပြင်မထွက်စေဘဲ သည်းခံပါလော့။

## ၁၃။ ရွှင်ပြုံးမျက်နှာ လမင်းသာသို့

သာယာနှုတ်ထွက်၊ ငြိမ်သက်ဣန္ဒြေ၊ စိတ်ခြေနှလုံး၊ ရွှင်ပြုံးမျက်နှာ၊ လမင်းသာသို့၊ များစွာလူရှင်၊ မြင်မြင်သမျှ၊ ချမ်းမြစေငြား၊ ပြည်သူအားလျှင်၊ ပိုက်ဖြားကျင့်လေ့၊ လွှန်သိမ်မွေ့လျက်၊

## ဆိုလိုရင်း အဓိပ္ပာယ်

နှုတ်ထွက်စကား ချိုသာပြီး စိတ်နှလုံး ငြိမ်သက်တည်ကြည်အောင် စောင့်ရှောက်ပါလော့။ လမင်းသာသကဲ့သို့ ရွှင်ပြုံးအေးချမ်းသော မျက်နှာဖြင့် မြင်သူဘဝင်ချမ်းမြသွားအောင် အများပြည်သူများအား ထိတွေ့ဆက်ဆံပါလော့။

## ၁၄။ ကောဓကင်းကွာ ပွားမေတ္တာ

မမူမာန၊ အဒေါသနှင့်၊ ကောဓကင်းကွာ၊ ပွားမေတ္တာဖြင့်၊ သတ္တဝါအများ၊ သူတစ်ပါးအား၊ သနားကြင်နာ၊ ကိုယ်ချင်းစာလော့၊ (၂၃၅)

## ဆိုလိုရင်း အဓိပ္ပာယ်

မာန်မာနမထားဘဲ ဒေါသကိုခွာ၍ မေတ္တာကိုထားပါ။ ထိုမေတ္တာကို အကြောင်းရင်းခံပြီး သတ္တဝါအများပေါ်တွင် ကြင်နာသနားပြီး ကိုယ်ချင်းစာပါလော့။

## ၁၅။ သစ္စာမဖြုတ် မှန်သောနှုတ်

လူအတွင်းဆိုး၊ လူရိုးမမည်၊ လူ့ပျားရည်ရှင့်၊ မတည်သမ္မာ၊ လွှန်ဆိုးစွာခဲ့၊ သစ္စာမဖြုတ်၊ မှန်သောနှုတ်ဖြင့်၊ မဟုတ်မဆို၊ ထိုပုဂ္ဂိုလ်မှ၊ လူဗိုလ်တကာ၊ မှီခိုရာကြောင့်၊ လူမှာလူနတ်၊ အများမှတ်၏။ (၂၃၈)

## ဆိုလိုရင်း အဓိပ္ပာယ်

အတွင်းစိတ်ထား မကောင်းသူကို လူရိုးဟု မဆိုသာချေ။ အပြင်နှုတ်လျှာသာ ချိုသာစွာ ပြောတတ်သော လူ့ပျားရည်သာဖြစ်၏။ ဤသို့မဟုတ်မူဘဲ သစ္စာကို မယွင်းစေမူ၍ မဟုတ်မမှန်သောစကားကိုမဆို၊ သစ္စာတည်ပါမှ ထိုပုဂ္ဂိုလ်သည် လူတကာတို့ မှီခိုအားထားရာ ဖြစ်သောကြောင့် လူထဲတွင် နတ်သဖွယ် အများ၏ လေးစားချစ်ခင်ရှိသေခြင်းကို ခံရ၏။

## ၁၆။ သူမြတ်တို့မှာ နှုတ်သစ္စာ

ဗောဓိသတ်နှင့်၊ သူမြတ်တို့မှာ၊ နှုတ်သစ္စာကို၊ လွန်စွာမပျက်၊ အဆက်ဆက်ပင်၊ သက်ထက်စွဲယူ၊ မြဲကြမူ၏၊ သူတော်မနော၊ သဘောဖြောင့်စွာ၊ စိတ်သမ္မာမှ၊ သစ္စာစောင့်တတ်၊ အမျိုးမြတ်မှ၊ ကျင့်ဝတ်တည်မြဲ၊ မဖောက်လဲတည့်၊ ဝမ်းထဲသမ္မာ၊ မှန်သစ္စာမှ၊ များစွာကြည်ညွတ်၊ ခံတည်မှတ်၏၊ (၂၃၉)

## ဆိုလိုရင်း အဓိပ္ပာယ်

ဘုရားလောင်း သူတော်သူမြတ်တို့သည် မှန်ကန်သော နှုတ်ထွက်စကားကို သက်ဆုံးတိုင် မပျက်မကွက်ဘဲ မြဲမြဲစွာ စောင့်ထိန်းတတ်ကြ၏။ သူတော်ကောင်းပီပီ စိတ်သဘောဖြောင့်မတ်မှသာ သစ္စာစောင့်တတ်၏။ သစ္စာရှိပြီး အမျိုးမြတ်မှသာ ကိုယ်ကျင့်တရားကို မြဲမြဲစွာ ထိန်းသိမ်းတတ်၏။ နှလုံးဝမ်းထဲမှ ဖြောင့်မတ်မှန်ကန်မှသာ အများ၏အားကိုးကြည်ညိုခြင်းကို ခံရ၏။

## ၁၇။ သစ္စာနှုတ်သီး မန္တန်ကြီး

မင်းမှာသစ္စာ၊ လူမှာကတိ၊ ဆိုရိုးရှိတိုင်း၊ မြဲဘိဘယ်ခါ၊ မချွတ်ရာဘူး၊ သစ္စာနှင့်ကြုံ၊ ရေစီးတုံဟု၊ လူပုံဆိုမှု၊ ဥဒါန်းပြုရှင့်၊ အကုသိုလ်မှာ၊ မုသာဝါဒ၊ ကုသိုလ်မှကား၊ သစ္စဝါစာ၊ လေးဆုံးသာတည့်၊ သစ္စာဖောက်လှန်၊ မတော်မှန်က၊ သေဒဏ်ရောက်ကာ၊ ပျက်တတ်စွာ၏၊ သစ္စာနှုတ်သီး၊ မန္တန်ကြီးကား၊ သေပြီးသော်မှ၊ ရှင်ပြန်ရ၏။ (၂၄၀)

## ဆိုလိုရင်း အဓိပ္ပာယ်

မင်းဟူသည် သစ္စာ၌ တည်ရသည်။ လူမှာလည်း ကတိစကားတစ်လုံး တည်ရသည်။ "မင်းမှာသစ္စာ လူမှာကတိ"ဟူသော စကားနှင့်အညီ မချွတ်ယွင်း မတိမ်းပါးအောင် စောင့်ထိန်းပါလော့။ သစ္စာ၏အစွမ်းအားကြောင့် စီးနေသော ရေအဟုန်သည်ပင် ရပ်တန့်ပေးရသည်ဟု လူတွင် ဆိုရိုးရှိ၏။ မမှန်သောစကား မုသာဝါဒသည် အကုသိုလ်တရား၊ မှန်သောစကား သစ္စာဝါစာသည် ကုသိုလ်တရား ဖြစ်၏။ သစ္စာကို ဖောက်ဖျက်ပါက သေဒဏ်ရောက်ရ၏။ အစွမ်းထက်လှသည့် သစ္စာစကားတစ်ခွန်းကြောင့် အသက်သေပြီးသော်မှ ပြန်၍ အသက်ရှင်ရ၏။

## ၁၈။ မေတ္တာထပ်ရစ် ချစ်ထက်ချစ်

ပတ္တမြားဂူ၊ ဝက်ငြူစုရှိ၊ နွံမြူညစ်စေ၊ ပွတ်လေလေတိုင်း၊ သရေမညှိုး၊ ရောင်ဝါတိုးသို့၊ တန်ခိုးထင်ရှား၊ ပွားထက်ပွားလစ်၊ သစ်ထက်သစ်၏၊ စိစစ်မှတ်ပိုက်၊ ဤလူ၌လျှင်၊ သူမိုက်ကသာ၊ ငြူစူစွာခဲ့၊ ပညာရှိသူ၊ ပဏ္ဍိတ်လူကား၊ မဆူမဝေ၊ အိုင်ကြီးရေသို့၊ အနေခိုင်ကျည်၊ ကြံ့ကြံ့တည်၍၊ ကြည်မျှစွာ၊ ကရုဏာနှင့်၊ မေတ္တာထပ်ရစ်၊ ချစ်ထက်ချစ်၏၊ (၂၆၆)

**ပတ္တမြားငမောက်စာပေ**

## ဆိုလိုရင်း အဓိပ္ပာယ်

ဝက်သည် ပတ္တမြားဂူကို ငြူစူစိတ်ဖြင့် ညစ်ပတ်ပေရေသွားအောင် ကိုယ်နှင့်ပွတ်လေတိုင်း ပတ္တမြားဂူသည် ညစ်ပတ်မှေးမှိန်သွားခြင်းမရှိ၊ ပို၍သစ်လာကာ အရောင်ပင်လင်းလက်၍လာ၏။ သစ်လွင်လာ၏။ ထိုသဘောအတိုင်းပင် ဤလောက၌ လူမိုက်သည် ပညာရှိအား ဝန်တိုမနာလိုသောစိတ်ဖြင့် မကောင်းပြု၏။ သို့သော် ထိုသို့ပြုလေတိုင်း ပညာရှိသည် ရေတို့ဖြင့် ပြည့်ပြီး ငြိမ်သက်နေသောရေအိုင်ကြီးကဲ့သို့ ကြံ့ကြံ့ခံရပ်တည်ကာ ထိုသူမိုက်အပေါ်တွင် အေးမြသောမေတ္တာ၊ ကရုဏာဖြင့် မည်သို့မျှ တုံ့ပြန်ခြင်းမပြုဘဲ ပို၍လွန်ကဲစွာ ချစ်မြတ်နိုးသည်သာ ဖြစ်၏။

## ၁၉။ စိတ်ရှိငြိုးထား မျက်မပွားလင့်

အဖက်မမျှ၊ ကိုယ့်အောက်ကျသား၊ ဟီနလူမျိုး၊ မျက်မာန်ကျိုး၍၊ တစိုးတစိ၊ ပြစ်မှားဘိလည်း၊ စိတ်ရှိငြိုးထား၊ မျက်မပွားလင့်၊ နွားကိုဖားတု၊ ဂုဏ်ပြိုင်ပြုလည်း၊ အမှုမထား၊ ထိုသည့်နွားက၊ မြက်စားမပျက်၊ ရန်ဖက်မဟူ၊ မမှုအဟုံ့၊ ပြန်စမြုံ့နှင့်၊ မလှုပ်မချေ၊ ဖားသာသေ၏၊ (၂၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ကိုယ့်အောက်နိမ့်ကျသူက ကိုယ့်အား ပြစ်မှားစော်ကားခဲ့သော်လည်း ထိုသူအား အမျက်မထွက်ရာချေ။ ဥပမာဆိုရသော်ကား နွားကို ဖားကလေးက အံတုဖက်ပြိုင်လာသောအခါ နွားသည် ရန်တုံ့မမှုဘဲ မြက်စားပင်မပျက်ဘဲ နေသည်။ နောက်ဆုံးတွင် ပြိုင်ဖက်လာသူ ဖားသည်သာ သေရသကဲ့သို့ပင်တည်း။

## ၂၀။ ကိုယ်နှုတ်နှစ်ချက် ငြိမ်သက်ဆုံးမ

ကိုယ်နှုတ်နှစ်ချက်၊ ငြိမ်သက်ဆုံးမ၊ ရာဂစသား၊ ပါပကိလေ၊ ပျောက်စေငြိမ်းပယ်၊ စင်ကြယ်ကမ္ဘ၊ သန္တေသဖြင့်၊ စိတ်ကဖြောင့်မတ်၊ အမြတ်ရတနာ၊ မချာကပ်ဆည်း၊ သည်းညည်းခံရာ၊ သစ္စာမှန်ခြင်း၊ သနားခြင်းဟု၊ ခေါ်ခြင်းပညတ်၊ ကျင့်ဆယ်ရပ်ကို၊ ကျင့်အပ်မကွာ၊ ကျင့်ဆောင်ရာ၏၊ (၂၇၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ကိုယ်နှင့် နှုတ်ကို ငြိမ်သက်အောင် ဆုံးမခြင်း၊ ရာဂစသော ကိလေသာကိုပယ်ခြင်း၊ စိတ်နှလုံးစင်ကြယ်ခြင်း၊ ရောင့်ရဲလွယ်ခြင်း၊ စိတ်ဓာတ်ဖြောင့်မတ်တည်ကြည်ခြင်း၊ ရတနာသုံးပါးကို မပြတ်ဆည်းကပ်ခြင်း၊ သည်းခံခြင်း၊ မှန်ကန်ခြင်း၊ သနားကြင်နာခြင်းဟုဆိုအပ်သော ပုဏ္ဏားအကျင့်ဆယ်မျိုးကို ကိုယ်နှင့်မကွာ ကျင့်အပ်ရာ၏။

## ၂၁။ ဗြဟ္မစိုရ်လေးဖြာ တည်သောခါ

ဗြဟ္မစိုရ်လေးဖြာ၊ တည်ကြခါမှ၊ သတ္တဝါဟူဟူ၊ ဦးမည်းဖြူတို့၊ ရှင်လူခပင်း၊ ရောဂါကင်းလျက်၊ ဘေးရှင်းရန်ကွာ၊ ဆင်းအင်္ဂါနှင့်၊ ချမ်းသာခွန်အား၊ သက်ရှည်ပွား၏။ (၂၈၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာဟူသော ဗြဟ္မစိုရ်တရားလေးပါးကို လူအပေါင်းတို့က ဖြည့်ဆည်းကျင့်ကြံကြသောအခါတွင် လူသတ္တဝါ၊ ရှင်လူအပေါင်းတို့သည် ရောဂါဘေးအန္တရာယ်များမှ ကင်းရှင်းကြကုန်၏။ ရုပ်ဆင်းအင်္ဂါ ပြည့်ဖြိုးကြည်လင်စွာဖြင့် ချမ်းချမ်းသာသာနေကြရ၏။ ဗလခွန်အားတိုးပြီး အသက်ရှည်အနာမဲ့စွာ နေရ၏။

## ၂၂။ အဒေါသကြောင့်ရ၏ဟူငြား

လောကီတမွတ်၊ စက္ကဝတ်မဟာ၊ မြတ်ရာဇာတို့၊ စကြာယာဉ်မင်း၊ ဆင်မြင်းရတနာ၊ ဤသုံးဖြာကို၊ မဟာကုသလ၊ အဒေါသကြောင့်၊ ရ၏ဟူငြား၊ ပတ္တမြားနှင့်၊ မိဖုရားမြတ်၊ သူဌေးမြတ်မှူး၊ စွန့်လွှတ်စာဂ၊ အလောဘကြောင့်၊ ရ၏ဟူပေ၊ (၂၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောက၏ ထိပ်ခေါင်ဖြစ်တော်မူသော စကြာဝတေးမင်းမြတ်ရာဇာတို့သည် စကြာယာဉ်၊ ဆင်၊ မြင်းရတနာများကို အမျက်ဒေါသမရှိခြင်းဟူသော မဟာကုသလ၊ မေတ္တာစွမ်းအားဖြင့် ရကြ၏။ ထို့အတူ ပတ္တမြားရတနာ၊ မိဖုရားရတနာနှင့် သူဌေးရတနာများကို လိုချင်မှုလောဘမရှိခြင်းဟူသော ကုသိုလ်စိတ်ဖြင့် ရကြကုန်၏။

## ၂၃။ မြင်ကြားသုတ ဉာဏအရာ

မြင်ကြားသုတ၊ ဉာဏအရာ၊ အလိမ္မာနှင့်၊ ပညာသိမြော်၊ ရှိပါသော်လည်း၊ တော်မှန်ဖြောင့်ခဲ၊ ဝမ်းထဲသစ္စာ၊ တော်ဖြောင့်ပါလည်း၊ လိမ္မာနည်းပါး၊ ဉာဏ်မြင်ရှားခဲ့၊ ရှည်လျားရောရှက်၊ လူ့ထနက်ကို၊ ပေါင်းဖက်သမှူ၊ သိအောင်ပြုလော့၊ (၂၉၃)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ လူတို့သည် အကြားအမြင် ဗဟုသုတ၊ ဉာဏ်ပညာနှင့် ပြည့်စုံပါသော်လည်း ဖြောင့်မတ်မှန်ကန်မှုဟူသည့် သစ္စာရှိရန် ခဲယဉ်းလှ၏။ အကယ်၍ ထိုသူ၌ ဖြောင့်မတ်မှန်ကန်မှု သစ္စာရှိပြန်ပါကလည်း ဉာဏ်ပညာအလိမ္မာရှိရန် ခဲယဉ်းလှ၏။ ထို့ကြောင့် လူတို့၏ အတွင်းသဘောကို လူအများနှင့် ပေါင်းသင်းဆက်ဆံ၍ သိအောင် ကြိုးစားရာ၏။

## ၂၄။ ရယ်ခြင်းသုံးမျိုး

မိမိကိုယ်ကို၊ အလိုရှိရာ၊ ငါပြုနိုင်စွ၊ အစိုးရဟု၊ မှတ်ကြသူဝယ်၊ သေမင်းရယ်၏၊ အကယ်မာန်ကိုး၊ မြေနှင့်မိုးကို၊ အုပ်စိုးရသူ၊ ငါလျှင်မှု၍၊ မှတ်ယူမင်းဝယ်၊ မြေကြီးရယ်၏၊ သက်လှယ်နထွား၊ ငါ့မယားက၊ ဖွားသည့်သည်းချာ၊ ငါ့သားသာဟု၊ မှတ်ရှာသူဝယ်၊ မယားရယ်၏၊ ရယ်ဖွယ်အထူး၊ လူသုံးဦးကို၊ အရူးတမျှ၊ နိမိတ်ပြရှင့်၊ (၃၀၈)

### ဆိုလိုရင်း အဓိပ္ပာယ်

ငါ့ကိုယ်သည် အတ္တဖြစ်၏။ ငါအလိုရှိသည့်အတိုင်း ပြုနိုင်၏ဟု မှတ်ယူထားသူအား သေမင်းသည် ရယ်၏။ ဤမြေကြီး၊ ဤမိုးကောင်းကင်တစ်ခုလုံးကို ငါသည် ထာဝရ အစိုးရ၏ဟု မှတ်ယူထားသူ မင်းအား မြေကြီးသည် ရယ်၏။ ငါ့မယားက မွေးသောသားသည် ငါ့သားအစစ်ဖြစ်၏ဟု မှတ်ယူထားသူအား မယားသည် ရယ်၏။ ထိုသူသုံးဦးသည် အရူးများသာ ဖြစ်၏။ ဤခန္ဓာ၊ ဤမြေတို့သည် မိမိနှင့် မည်သို့မျှမဆိုင်၊ မယားဟူသည် မိမိအပေါ် ထာဝရသစ္စာ မရှိတတ်သဖြင့် ငါ၊ ငါ့မြေ၊ ငါ့သားဟု ယတိပြတ် မမှတ်ယူသင့်ချေ။

## ၂၅။ ပိယသဟာ ရေနှင့်ကြာ

ဤဘဝ၌၊ ဟိတအထူး၊ ကျေးဇူးပြုထွေ၊ ပုဗ္ဗေဘဝ၊ တကွမကင်း၊ ချစ်ရင်းပါကြ၊ ကြောင်းနှစ်ဝကြောင့်၊ ပိယသဟာ၊ ရေနှင့်ကြာသို့၊ မေတ္တာနှူးဆွတ်၊ ချစ်ကြည်တတ်ဟု၊ မြတ်သမ္ဗုဒ္ဓ၊ ဟောမြွက်ပြရှင့်၊ (၃၁၇)

### ဆိုလိုရင်း အဓိပ္ပာယ်

ဤမျက်မှောက်ဘဝ၌ တစ်ဦးနှင့်တစ်ဦး ကျေးဇူးပြုကြခြင်း၊ သံသရာ ရှေးဘဝက ချစ်ခင်ရင်းနှီးခဲ့သည့် မေတ္တာအရင်းခံရှိခြင်းဟူသော အကြောင်းနှစ်ရပ်ကြောင့် တစ်ဦးနှင့် တစ်ဦး မေတ္တာသက်ဝင် ချစ်ခင်နေကြရခြင်း ဖြစ်သည်ဟု မြတ်စွာဘုရားကိုယ်တိုင် ဟောကြားတော်မူခဲ့၏။ ထိုသို့သော အကြောင်းရင်းနှစ်ခုမရှိခဲ့သော် တစ်ဦးပေါ်တစ်ဦး ချစ်ခင်ရင်းနှီးခြင်းသည် မဖြစ်နိုင်ချေ။

## ၂၆။ ကရုဏာနှင့် မေတ္တာ့ရေသွန်း

ကိစ္စတန်ရာ၊ မျှော်ကာဝမ်းထဲ၊ မှတ်ယူစွဲလျက်၊ လွန်ကဲကြင်နာ၊ ကရုဏာနှင့်၊ မေတ္တာရေသွန်း၊ တစ်ဆွတ်ဖျန်းလျက်၊ စီးဖြန်းပရိကံ၊ စာပေအံ့သို့၊ ယိုးယံမပြတ်၊ ပွားစေတတ်လော့၊ (၃၁၈)

### ဆိုလိုရင်း အဓိပ္ပာယ်

တစ်ဦးကိုတစ်ဦး ပေါင်းသင်းဆက်ဆံရာ၌ ရှေ့ရေးကို တွေးထောက်ဆလျက်၊ တစ်ပါးသူအပေါ် ကြင်နာသနားပါ။ ချစ်ခြင်းမေတ္တာထားပါ။ သတ္တဝါတို့အပေါ်၌

ကျန်းမာ ချမ်းသာကြပါစေဟု စာသင်သားများ စာအံသလို တစ်ရံမလပ် နှုတ်ကရွတ်ဆိုပြီး မေတ္တာပွားခြင်းအမှုကို ပြုပါလော့။

## ၂၇။ ဖြဟ္မစိုရ်လေးဆူ တရားဟူသည်

ဖြဟ္မစိုရ်လေးဆူ၊ တရားဟူသည်၊ နတ်လူချစ်ဆေး၊ ရှုတိုင်းမွေးကို၊ မြတ်လေးဆောင်လွယ်၊ ကွင်းမပယ်နှင့်၊ ဝမ်းဝယ်မပြတ်၊ ထားစေတတ်လော့၊ (၃၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာဟူသော ဖြဟ္မစိုရ်တရားလေးပါးသည် လူနတ်တို့ ချစ်ခင်နှစ်သက်စေသော ဆေးဖြစ်၏။ ရှုရှိုက်လိုက်တိုင်း မွေးသောပန်းကဲ့သို့ အများ၏ နှစ်သက်ရွှင်လန်းခြင်းကို ဖြစ်စေ၏။ ထို့ကြောင့် ထိုတရားများကို မပယ်ရှားဘဲ ကိုယ်တွင် လွယ်ထားသော စလွယ်ကဲ့သို့ ဝမ်းထဲတွင် အမြဲမပြတ် ထားရှိပါလော့။

## ၂၈။ မေတ္တာသက်၍ ရန်ဖက်မမူ

ပဋိဃာတ်မျိုး၊ ရန်မပျိုးနှင့်၊ ရန်ငြိုးမထား၊ တရားမွေ့ညက်၊ မေတ္တာသက်၍၊ ရန်ဖက်မမူ၊ ရေးမယူက၊ ရန်သူမဖြစ်၊ ချစ်ထက်ချစ်၏။ (၃၁၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ဒေါသအမျက်ကို ရှေ့တန်းတင်ပြီး သူတစ်ထူးအပေါ် ရန်မရှာပါနှင့်။ ရန်ငြိုးလည်း မထားပါနှင့်။ မေတ္တာထားကာ ရန်ကိုမယူပါက ရန်ငြိမ်းပြီး ရန်သူဟူ၍ မရှိနိုင်တော့ချေ။ ထိုအခါ ရှိရင်းမေတ္တာသည် တိုးသည်ထက်တိုးပြီး ပို၍ပို၍ ချစ်ကြမည်သာ ဖြစ်၏။

## ၂၉။ သစ္စာပြီး၍ ရေစီးတုံ့တုံ

ပြည့်တန်ဆာလျက်၊ ဓမ္မတာကျင့်သီး၊ သစ္စာပြီး၍၊ ရေစီးတုံ့တုံ၊ ရေဟုန်တုံ့ပြန်၊ အညာဆန်၏၊ နတ်ဟန်တစ်ဆူ၊ စောသမ္ဘူကား၊ နူနာပျောက်စေ၊ ကြာဖက်ရေသို့၊ နှုတ်ရွေမှန်စွာ၊ ထက်ဩဇာဖြင့်၊ သစ္စာရှိန်ငွေ့၊ ဆေးထက်ဟော့၏၊ (၄၁၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ပြည့်တန်ဆာမတစ်ယောက်ပင် ဖြစ်သော်လည်း သစ္စာဆိုခြင်းဖြင့် မြစ်ရေစီးသည် ရပ်တံ့၍ ရေသည် နောက်ပြန်စီးရ၏။ သမ္ဘုလမိဖုရားသည် သစ္စာဆိုကာ သောတ္ထိသေနမင်း၏ နူနာကို ပျောက်ကင်းစေ၏။ နှုတ်ကထွက်သော သစ္စာတန်ခိုးကား ဆေးထက် ကြီးမားလှ၏။

## ၃၀။ ဒေါသမဖိတ် မေတ္တာစိတ်ဖြင့်

ကိုယ်လုံးကြေမွ၊ ပြုသမျှကို၊ ဒေါသမဖိတ်၊ မေတ္တာစိတ်ဖြင့်၊ မိုတ်၍အောင့်ခံ၊ ဆိပ်လျှံစဉ်းသွား၊ ဆင်ပစ်မြားဖြင့်၊ သည်းကြားဖောက်ထွင်း၊ ပစ်တုံ့လျှင်း၍၊ သေခြင်း

ရောက်လျက်၊ အမျက်မခြောင်း၊ ဥက္ကောင်းကွဲစေ၊ ကျောက်ဖြင့်တေ၍၊ မသေတတ်ရုံ၊ ကျန်ပါတုံလည်း၊ တစ်စုံတစ်ခု၊ မျက်မပြုဘူး၊ ထိုသူ့အကျိုး၊ ဆောင်သည်ပိုး၏၊ (၄၃၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိတစ်ကိုယ်လုံးကို မွမွကြေအောင် ရိုက်နှက်ထားသော်လည်း မေတ္တာစိတ်ဖြင့် အလောင်းတော် မျောက်မင်းသည် ကျိတ်မှိတ်၍ သည်းခံ၏။ ထို့အတူ အဆိပ်လူးမြား ဖြင့် မိမိ၏ရင်ထဲသို့ ပစ်သွင်း၍ ဦးခေါင်းကို ထုချေထားသော်လည်း ပြုသူမှဆိုးအပေါ် လုံးဝအမျက်မထားသည်သာမက ထိုသူ၏ အပြန်လမ်းကိုပြ၍ အကျိုးပင် ဆောင်ပေး သေး၏။

## ၃၁။ မေတ္တာ့နိသင် ဆယ့်တစ်အင်

သံသုရာက၊ မာတာပိတ၊ စသည်ဖြစ်ဖူး၊ ဂုဏ်ကျေးဇူးကို၊ အထူးတင်ထ၊ မေတ္တာ့ နိသင်၊ ဆယ့်တစ်အင်ကို၊ ဆင်ခြင်သမျှ၊ ဓာတုဝိဘာဂ၊ သဘာဝနှင့်၊ ဒါနပေးကမ်း၊ ခွဲဝေခြမ်း၍၊ (၄၃၇)

## ဆိုလိုရင်း အဓိပ္ပာယ်

သံသရာ၌ မိဘတော်စပ်ဖူးသော ဂုဏ်ကျေးဇူးကို အောက်မေ့၍ မေတ္တာအကျိုး (၁၁)ပါးကို ဆင်ခြင်ကာ မေတ္တာပို့ပါ။ အလှူဒါနများပြုကာ အမျှဝေပါလော့။

# ၂၁။ မိန်းမ

လူ့လောက၌ မိန်းမသည် ကမ္ဘာကြီးကို ပြုပြင်ဖန်တီးရာ၌ အဓိကကျသော အင်အားတစ်ရပ်ဖြစ်၏။ ထို့ကြောင့် ပုခက်လွှဲသောလက်များသည် ကမ္ဘာကိုစိုးပိုင်နိုင်သည်ဟု ဆိုစကားရှိခဲ့ခြင်း ဖြစ်၏။

မှန်၏။ မိန်းမတို့တွင် ကြီးမားသော အင်အားများရှိကြ၏။ အပြုအင်အားရှိကြသလို အဖျက်အင်အားလည်း ရှိ၏။ အပြုအင်အားကြောင့် လူ့ဘုံ လူ့လောကကြီး ကောင်းကျိုးချမ်းသာ ရှိလာနိုင်သကဲ့သို့ အဖျက်အင်အားကြောင့် လူ့လောကကြီး ဆင်းရဲဒုက္ခတွင်းသို့ သက်ဆင်းခဲ့ရ၏။ သမိုင်း၊ ရာဇဝင်၊ ဇာတက၊ နိပါတ်တော်အသီးသီးတွင် သက်သေသာဓကများ အထင်အရှားရှိနေ၏။

အထူးသဖြင့် ဃရာဝါသ သမ္ပဒါဟုဆိုသော လောကီရေးရာ အိမ်ရာထောင်မှုကိစ္စအဝဝတွင် မိန်းမကောင်းများသည် အထူးပင် လိုအပ်၏။ ထိုမိန်းမများသည် လင်ယောကျာ်းကို ချစ်ခင်မြတ်နိုးခြင်း၊ သစ္စာရှိခြင်း၊ အိမ်ထောင်ထိန်းသိမ်းနိုင်မှုရှိခြင်း၊ မိစ္ဆာအကျင့်ကို ရှောင်ခြင်းစသော အရည်အသွေးများနှင့် ပြည့်စုံရန် လိုအပ်၏။

သို့သော် ကံမကောင်း အကြောင်းမလှကြသဖြင့် အချို့သော မိန်းမတို့သည် လင်ယောကျာ်းများအပေါ် သစ္စာမဲ့ကြ၏။ တဏှာရမ္မက်ကြီးမားကြ၏။ လင်အပေါ် မကြည်ဖြူ၊ ဖောက်လွှဲဖောက်ပြန်လုပ်ကြ၏။ သာမန် မိန်းမများကို မဆိုထားဘိ။ မင်းကေရာဇ်တို့၏ မိဖုရားကြီးများပင် သစ္စာဖောက်ပြန် အပြစ်များကို ကျူးလွန်တတ်ကြ၏။ လင်ငယ်ကိုလိုသဖြင့် လင်ကြီးကို သတ်၏။ ထိုမိန်းမမျိုးသည် သားတစ်ရာ၊ လင်တစ်ထောင်ရပြီးသော်လည်း သူတို့၏ကောက်ကျစ်သော စရိုက်ဆိုးကို မစွန့်နိုင်ကုန်။

အခြားတစ်ဖက်တွင် မိန်းမကောင်း မိန်းမမြတ်များလည်း ရှိခဲ့၏။ လင်ကို အိမ်ဦးနတ်ပမာ ချစ်ကြည်ရိုသေစွာ ပြုစုလုပ်ကျွေးကြ၏။ မိမိလင်မှတစ်ပါး အခြား

ယောက်ျားတစ်ဦးတစ်လေကိုမျှ စိတ်ဖြင့်ပင် မပြစ်မှားကြ။ သူတို့သည် အကျင့်သီလ ရှိကြ၏။ ဟိရိဩတပ္ပတရား ရှိကြ၏။ အကြားအမြင်သုတနှင့် ပြည့်စုံကြ၏။ သမာဓိ၊ သတိတရားတို့နှင့် ပြည့်စုံ၏။ လင်ကိုကျူး၍ မကောင်းမှုကို မြူဆံမျှပင် မပြုလုပ်ကြ။ အကျင့်ပျက်၊ စရိုက်ဆိုးသော မိန်းမများသေသောအခါ အပါယ်လေးဘုံသို့ ကျရောက်ရသလို သူတို့သည် နတ်ပြည်ချမ်းသာကို ရကြကုန်၏။ ထိုမိန်းမမျိုးတွင် အမရာ၊ ကိန္နရီ၊ မဒ္ဒီ၊ သမ္ဗုလ မိဖုရားများသည် စံပြမိန်းမမြတ်များ ဖြစ်ကြ၏။

ထိုထိုသော မိန်းမများစွာနှင့် မည်သူက မိန်းမယုတ်၊ မည်သူက မိန်းမမြတ်ဟု ခွဲခြားသိရှိရန် ခက်ခဲလှ၏။ အထူးသဖြင့် မိန်းမများနှင့်အတူ အိမ်ယာထူထောင်ကြမည့် ယောက်ျားတို့သည် မိန်းမယုတ်များကို ရှောင်ကြဉ်၍ မိန်းမကောင်း ·မိန်းမမြတ်များကို ရွေးချယ်ပေါင်းသင်းနိုင်ရန် လွန်စွာအရေးကြီး၏။ ဤသို့ အရွေးမတတ်လျှင် မယားဆိုး လင်တဘင်ဘင် ဆိုသလို သေတပန် သက်တစ်ဆုံး ဒုက္ခကြီးစွာ ရောက်ရမည် ဖြစ်၏။

ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် မိန်းမယုတ်နှင့် မိန်းမကောင်းတို့ ခွဲခြားသိရှိနိုင်ရန် သူ၏မဃဒေဝလင်္ကာသစ်ကြီးထဲ၌ ရှင်းလင်းဖော်ပြထား၏။ ဆရာတော်ကြီးသည် ပိဋကတ်ကျမ်းတတ်တစ်ဆူ ဖြစ်သည့်ပြင် ဂန္ထန္တရ၊ ဘာသန္တရ ဗဟုသုတနှင့် ပြည့်စုံသူ ပညာရှိကြီးတစ်ဦးဖြစ်သည့်အားလျော်စွာ များစွာသော ဇာတ်နိပါတ်၊ သမိုင်းရာဇဝင်တို့မှ ကောက်နုတ်၍ မိန်းမဆိုး၊ မိန်းမမြတ်တို့၏ သဘောဂုဏ်ရည်တို့ကို ဖော်ပြထားပေရာ ယောက်ျားများအပါအဝင် လူငယ်တို့အတွက် အကျိုးများမည်မှာ အမှန်ဖြစ်၏။

အောက်တွင် ဖော်ပြထားသည်တို့မှာ ဆရာတော်ကြီး၏ မိန်းမယုတ်၊ မိန်းမမြတ် ဆိုင်ရာ လမ်းညွှန်နီတိများဖြစ်၏။ မိန်းမသဘာဝကို သိလိုသူများ ဖတ်ရှုကြပါကုန်။

## ၁။ နောက်နောက်တွေ့ရာ ကြိုက်တတ်စွာ

ယစ်မူးရမ္မက်၊ မိန်းမပျက်အား၊ အသက်တမျှ၊ ချစ်မဝဘဲ၊ ယုယလုပ်ကျွေး၊ လွန်မြတ်လေးလျက်၊ ကိုယ်သွေးဖောက်ကာ၊ သောက်စေပါလည်း၊ မေတ္တာတုံ့ပယ်၊ ချစ်မလှယ်ဘူး၊ သူ့ဝယ်အထူး၊ အာရုံကျူး၍၊ ကျေးဇူးချေဖျောက်၊ တစ်ယောက်ယောက်နှင့်၊ နောက်နောက်တွေ့ရာ၊ ကြိုက်တတ်စွာ၏၊ (၈၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ရာဂရမ္မက် ပြင်းထန်သော မိန်းမပျက်တစ်ယောက်ကို ကိုယ်ထဲက သွေးဖောက်ကာ မေတ္တာစစ်ဖြင့် ယုယုယယ လုပ်ကျွေးသော်လည်း လင်ယောက်ျားအပေါ် မေတ္တာပြန်မထားနိုင်ကြချေ။ တစ်ပါးယောက်ျားအပေါ် ချစ်ကြိုက်ကာ ကျေးဇူးကို ချေဖျက်တတ်ကြ၏။ ထိုမိန်းမမျိုးသည် နောက်တွင် တွေ့တိုင်းသော ယောက်ျားတို့ကို ချစ်ကြိုက်စွဲလမ်းတတ်ကြ၏။

## ၂။ ဤလျှင်မိန်းမ ဣတ္ထိယကို

ဤလျှင်မိန်းမ၊ ဣတ္ထိယတို့၊ ရူပသဒ္ဒ၊ ဂန္ဓရသာ၊ ဖောဋ္ဌဗ္ဗာဟု၊ ယုတ်မာမပြတ်၊ ငါးဖြာခတ်ကား၊ ဥပဒ်များစွာ၊ ဘေးတကာ၏၊ မဟာသဟဲ၊ မှန်မလွဲရှင့်၊ (၂၉၄)

### ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမမည်သည် ရုပ်၊ အသံ၊ အနံ့၊ အရသာ၊ အထိအတွေ့ဟူသော အာရုံငါးပါးကို အထူးလိုက်စားကြတတ်ပြီး ဘေးတကာ့ဘေး၊ အန္တရာယ်ဥပဒ်များစွာကို ပေးတတ်ကြသည်မှာ အမှန်မလွဲတည်း။

## ၃။ အတင်းဝင်ရိုက် ခါးပြတိုက်သို့

မိန်းမတို့လည်း၊ ထိုနည်းအတူ၊ ယောကျ်ားဟူလျှင်၊ သည်းအူလှိုက်ဖို၊ စက်စက်ယိုလျက်၊ ပျက်ပြိုစိတ်ကောင်း၊ ပြောင်း၍ရုန့်ရင်း၊ ကိုယ့်အတွင်းဝယ်၊ အတင်းဝင်ရိုက်၊ ခါးပြတိုက်သို့၊ တုန်ရိုက်ရိုးရွ၊ တားမရဘဲ၊ သည်းကြွအူကြွ၊ အုန်းအုန်းထ၏၊ (၂၉၆)

### ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမတို့သည် ယောကျ်ားတွေ့လျှင် သည်းလှိုက်အူလှိုက် ချစ်ကြိုက်တတ်ကြ၏။ မူလရှိသော စိတ်ကောင်းစိတ်မြတ်များ ပြိုပျက်ကာ ရုန့်ရင်းကြမ်းတမ်းစွာ ခါးပြတိုက်သလို ပြုကျင့်တတ်ကြ၏။ သူတို့အား မည်သူမျှ တားဆီး၍မရဘဲ သည်းကြွအူကြွ အုန်းအုန်းထကြ၏။

## ၄။ မကြည်မသာ ပြုတတ်စွာ

အကြင်မိန်းမ၊ ဣတ္ထိယတို့၊ အဌပတိ၊ ရှစ်လင်ရှိလည်း၊ လွန်ဘိပိုမို၊ ကိုးယောက်ကိုပင်၊ အလိုရှိမြဲ၊ လိုပြည့်ခဲ၏၊ လင်မွဲလင်နာ၊ လင်သူရာကြိုက်၊ လင်မိုက်လင်ဖျင်း၊ လင်ပျင်းလင်အို၊ အလိုမဖြည့်၊ မပြည့်ဆန္ဒ၊ ရှိတုံကလျှင်၊ မိန်းမဟူသည်၊ ဤရှစ်မည်ကြောင့်၊ မကြည်မသာ၊ ပြုတတ်စွာရှင့်၊ (၂၉၇)

### ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမဟူသည် လင်ရှစ်ယောက်ပြောင်းပြီးသော်လည်း နောက်ထပ်ကိုးယောက်မြောက်ကို လိုချင်နေသဖြင့် သူတို့၏ အလိုဆန္ဒသည် ပြည့်ဝခဲလှ၏။ သူတို့သည် လင်မွဲလင်နာ၊ လင်အရက်ကြိုက်၊ လင်မိုက်လင်ဖျင်း၊ လင်ပျင်းလင်အိုတို့နှင့် ပေါင်းသင်းရသောအခါ အလိုမပြည့်သဖြင့် လင်ကို မကြည်မသာ ပြုတတ်ကြ၏။

## ၅။ ညစ်ညမ်းယုတ်မာ ကြီးကျူစွာနှင့်

သဒ္ဓါပညာ၊ ထူးသမ္မာဖြင့်၊ သမ္မာကင်းထ၊ စိတ်မလှသား၊ သဘာဝဆိုး၊ မိန်းမမျိုးတို့၊ အရိုးနည်းပါး၊ အကောက်များ၏၊ သားတစ်ရာမြင်၊ လင်တစ်ထောင်ကျ၊ စိတ်မချ

ဘူး၊ မိန်းမတို့ငြမ်း၊ သဘောတမ်းဖြင့်၊ ညစ်ညမ်းယုတ်မာ၊ ကြီးဣစ္ဆာနှင့်၊ အာသာရမ္မက်၊ မျက်သက်ပြင်းထန်၊ စိတ်မာန်ဝှန်သီး၊ စောင့်စည်းမဲ့ငြား၊ အဖောက်များ၏၊ မုသားအရာ၊ ပျားပုမာသို့၊ သာယာလိုတိုင်း၊ လျှာမထိုင်းဘူး၊ (၂၉၇)

## ဆိုလိုရင်း အဓိပ္ပာယ်

သဒ္ဓါပညာ နည်းပါးပြီး တရားမဲ့၍ စိတ်ဓာတ်မလှသော မိန်းမများသည် ရိုးသားသူများနည်းပြီး ကောက်ကျစ်သူသာ များလှ၏။ သားတစ်ရာ၊ လင်တစ်ထောင်ရပြီးသော်လည်း ကြီးမားသော အလိုဆန္ဒနှင့် ယုတ်မာဖောက်ပြန်တတ်ကြ၏။ သူတို့သည် စောင့်စည်းမှုမရှိဘဲ အပြင်က ချိုဟန်ပြပြီး မုသားပြောရန် ဝန်မလေးကြချေ။

## ၆။ မိန်းမအလို သဘောကိုလျှင်

စိန်ကဲရွှေကဲ၊ ဤနှစ်ကဲထက်၊ မိန်းမကဲခတ်၊ လွန်ခဲကပ်၏၊ ယုတ်မြတ်ကောင်းဆိုး၊ ဖြောင့်ရိုးကိစ္စ၊ သဘာဝဖြင့်၊ မိန်းမအလို၊ သဘောကိုလျှင်၊ ထဲသို့ပိုက်ထား၊ ရေနှိုက်ငါးသို့၊ ထင်ရှားဘယ်ခါ၊ မသိရာဘူး၊ ကျမ်းလာအရှို၊ နီတိဆိုရိုး၊ မယားဆိုးနှင့်၊ ကျွန်ဆိုးဟူဘိ၊ မြွေရှိအရပ်၊ ယှဉ်စပ်နေသူ၊ သေပြီးလူဟု၊ စိတ်ယူစိတ်က၊ ဧကန္တဖြင့်၊ (၂၉၈)

## ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမကဲကို ခတ်ရန် အလွန်ခက်ခဲ၏။ မိန်းမတို့သဘောကို ရေထဲရှိ ငါးလိုသိနိုင်ရန် ခက်ခဲလှ၏။ နီတိကျမ်းလာအတိုင်း မယားဆိုးနှင့် နေရသူသည် မြွေဆိုးနှင့်နေရသူကဲ့သို့ သေပြီးသူနှင့် တူပေ၏။

## ၇။ ယောက်ျားပေါ်မှာ တစ်ကြောသာခဲ့

ရမ္မက်သဘော၊ စရိုက်ပြောလျက်၊ မိုက်ဇောထောင်ကြွ၊ မှောင့်နယ်ကျ၍၊ မိန်းမဘာဝ၊ မာနကြီးမား၊ တက်သောအားလည်း၊ ယောက်ျားပေါ်မှာ၊ တစ်ကြောသာခဲ့၊ စကြာမင်းစစ်၊ ဖြစ်လင့်တပဲ၊ ဝမ်းထဲတစိ၊ တပ်မှန်းသိက၊ မိမိခြေအောက်၊ ကျွန်သဘောက်မျှ၊ သို့လောက်ထင်ငြား၊ မလောက်လားဘူး၊ (၂၉၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ရမ္မက်စရိုက် ထူပြောပြီး မှောဟ၊ မာနကြီးမားသူ မိန်းမတို့သည် ယောက်ျားတို့အပေါ် တစ်ပန်းသာအောင် မိုက်မဲကြ၏။ မိမိယောက်ျားသည် စကြာမင်းကြီးဖြစ်နေစေကာမူ တပ်မက်သောစိတ်ဖြင့် မိမိခြေဖဝါးအောက် ကျွန်သဘောက်ကဲ့သို့ ဆက်ဆံကြ၏။

## ၈။ မိန်းမတဲ့ထွာ ဓမ္မတာ

မိန်းမတဲ့ထွာ၊ ဓမ္မတာလည်း၊ ကုမာရီရွယ်၊ အငယ်ကာလ၊ မိဘစောင့်ရှောက်၊ ရွယ်ရောက်အိမ်ရှင်၊ ဖြစ်ခဲ့ကျင်သော်၊ လင်လျှင်မကင်း၊ စောင့်ကြလျှဉ်း၏၊ အိုမင်းတဲ့ငြား၊ သားတို့စောင့်ကြ၊ မိန်းမတို့ချည်း၊ ကိုယ်တည်းဘယ်ခါ၊ မတည်ရာဘူး၊ တည်ပါတဲ့လည်း၊ အစောင့်ကင်းက၊ မြင်းကြီးကျွတ်သို့၊ ပေါက်လွတ်ကျက်စား၊ ထင်ရာသွားလိမ့်၊ (၂၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမများသည် ကုမာရီအရွယ် အငယ်ကာလက မိဘစောင့်ရှောက်၏။ အရွယ်ရောက်၍ အိမ်ရှင်မဖြစ်လျှင် လင်က စောင့်ရှောက်၏။ အိုမင်းလာသော် သားသမီးတို့က စောင့်ရှောက်၏။ တစ်ဦးတည်းမနေနိုင်ကြ။ အစောင့်အရှောက်ကင်းပါက ဇက်ကြိုးကျွတ်သော မြင်းလို ထင်ရာစိုင်းလုပ်တတ်၏။

## ၉။ လင်ရင်းကိုသတ် သေစေတတ်

ထင်ရှားရှေးဟို၊ တက္ကသိုလ်က၊ ဆရာ့သမီး၊ ခိုးသူကြီးကို၊ အနီးခဏ၊ မြင်ကာမျှနှင့်၊ လောဘတပ်လျက်၊ ခိုးမှုလက်၌၊ သန်လျက်ရိုးထား၊ ကမ်းလိုက်ငြား၍၊ ယောက်ျားဇာနည်၊ လက်ရုံးရည်နှင့်၊ ဆွေသည်သက်စု၊ စံမတုအောင်၊ ဓနသိပ္ပံ၊ တတ်ခေါင်လှသား၊ မွေးဘဆောက်နှင်း၊ လင်ရင်းကိုသတ်၊ သေစေတတ်၏၊ (၂၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအခါက တက္ကသိုလ်ပြည် ဆရာကြီးသမီးသည် ရုံးထုတ်လာသော ခိုးသူကြီးအား မြင်လိုက်သည့်ခဏတွင် တပ်မက်မှုပြင်းစွာဖြစ်၍ လင်ရင်းဖြစ်သူ၊ ဖခင်ကိုယ်တိုင်လက်ထပ်ပေးထားသည့် ယောက်ျားဇာနည် လေးသည်ကျော်အား သတ်ရန် ခိုးသူလက်သို့ ဓားရိုးကမ်းကာ သတ်စေ၏။

## ၁၀။ ပမာမယွင်း လှေနှင့်မြင်းသို့

မမြတ်အလို၊ အမြင်တိုခဲ့၊ ထိုက္ကတ္တိယ၊ ဝက်္ကကို၊ နတ်မျှပိုင်ပိုင်၊ မသိနိုင်ဘူး၊ တစ်ထိုင်တည်း၌၊ ဆယ်နည်းမက၊ ဖောက်ပြန်ကြ၏၊ မိန်းမဟူငြား၊ သဘောအားဖြင့်၊ ယောက်ျားတကာ၊ ဆက်ဆံရာကြောင့်၊ ပမာမယွင်း၊ လှေနှင့်မြင်းသို့၊ စီးနင်းသူနောက်၊ ကောက်ကောက်ချည်းသာ၊ ဆောင်ယူပါရှင့်၊ (၂၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

ယုတ်မာ၍ အမြင်တိုသော ဝက်္ကမိန်းမများ၏ အတွင်းသဘောကို နတ်များပင် မသိနိုင်ရာ။ တစ်ထိုင်တည်းတွင် ဆယ်မျိုးမက ဖောက်ပြန်တတ်ကြ၏။ သူတို့သည်

ယောက်ျားတို့နှင့် ဆက်ဆံရာ၌ လေနှင့် မြင်းကဲ့သို့ စီးနင်းသူနောက်သို့ ကောက်ကောက် ပါအောင် လိုက်တတ်ကြ၏။

## ၁၁။ မညှာယုတ်မြတ် ခိုးယူတတ်

တစ်အုတုံဆင်း၊ နမရင်းနှင့်၊ ညီရင်းဥစ္စာ၊ ဖြစ်စေကာတိ၊ မညှာယုတ်မြတ်၊ ခိုးယူတတ်သို့၊ မျိုးဇာတ်ဓမ္မတာ၊ များကြစွာ၏၊ ကိလေသာဇော၊ မက်မောလိုလား၊ လိုက်သောအားဖြင့်၊ ရည်းစားတစ်ထောင်၊ လင်တစ်ကောင်ဟု၊ လူ့ဘောင်ဆိုရိုး၊ မော်ကွန်း တိုးရှင့်၊ (၂၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

မောင်နှမ ညီအစ်ကိုရင်းဖြစ်စေကာမူ မညှာမတာ ခိုးယူပေါင်းသင်းတတ်ကြ၏။ မျိုးရိုးဇာတိအမျိုးမျိုး ရှိကြကုန်၏။ ထိုမိန်းမတို့သည် ရည်းစားတစ်ထောင်၊ လင်ကောင် တစ်ယောက်ဟု ဆိုရိုးရှိသည့်အတိုင်း ကိလေသာရမ္မက်ဇော ထုပြောလှ၏။

## ၁၂။ မိန်းမမာယာ များလှစွာ

မိမိလင်နှင့်၊ ပြင်ပတခြား၊ ယောက်ျားတွေ့ခါ၊ ကိလေသာ၏၊ ခြင်းရာပြယာယ်၊ စနက်သွယ်သို့၊ စမွယ်ယုယ၊ တရွရွရှင့်၊ ကျင်းပဟန်းယူ၊ တွေ့ရာမြူ၍၊ အပူကိုယ်လုံး၊ မြင်သူနှုံးမျှ၊ ချိုပြုံးရွှင်ပျ၊ တပြပြရှင့်၊ ထိုမှဉာဏ်မျှ၊ ချိမျက်စနှင့်၊ သိကရိဋ္ဌိ၊ ကိုယ်ကို ညွတ်ခြင်း၊ ခံတွင်းဟဖွင့်၊ သံလွှင့်ဟစ်အော်၊ သွားဖော်လျှာထုတ်၊ ချစ်ချုပ်ခြေလက်၊ လျှို့ဝှက်အပ်ရာ၊ ကိုယ်အင်္ဂါကို၊ လှစ်ကာပြဆောင်၊ ရှက်ယောင်မဲ့ရွဲ့၊ မူနွဲ့ရွဲ့လျက်၊ ကဲ့ရဲ့ချီးမွမ်း၊ နှုတ်ခမ်းကိုက်ငုံ၊ ဆံထုံးဖြေလွှတ်၊ ကိုယ်ဝတ်ချွတ်ဖြင့်၊ တွင်းဝင်ပြင်ထွက်၊ အောက်ထက်တက်ဆင်း၊ ကြည့်ခြင်းတူရှု၊ စောင်းရှုမျက်ညှိုး၊ စိတ်ဆိုးဟန်လုပ်၊ ခါးကို လှုပ်နှင့်၊ နမ်းရှုံ့ချီချ၊ ဤသို့စသည်၊ မိန်းမမာယာ။ (၃၀၁)

## ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမတို့သည် မိမိလင်နှင့် အခြားယောက်ျားများကို တွေ့သောအခါ ကိလေသာ တဏှာ၏ လှုံ့ဆော်မှုဖြင့် ပရိယာယ်အမျိုးမျိုးဖြင့် ဆွဲဆောင်လေ့ရှိကြသည်။ ပရိယာယ် များမှာ ယုယဟန်ဖြင့် မြူဆွယ်ခြင်း၊ တစ်ကိုယ်လုံး အပူရုပ်ပြ၍ ခွေနှုံးဟန်ပြခြင်း၊ ရွှင်ပြုံးရွှင်ပျသည့်ဟန်ပြခြင်း၊ မထိတထိငို၍ ကိုယ်ကိုညွတ်ပြခြင်း၊ ခံတွင်းဖွင့်၍ အော်ဟစ် ပြခြင်း၊ ဆံပင်ဖားလျားချ၍ ခြေလက်တို့ ချုပ်ထားဟန်ပြခြင်း၊ လျှို့ဝှက်အပ်ရာ ကိုယ် အင်္ဂါကို လှစ်ပြခြင်း၊ ရှက်ယောင်၊ ရွဲ့ယောင်ပြခြင်း၊ နှုတ်ခမ်းကိုက်၍ ဆံထုံးကို ဖြေချခြင်း၊ ကိုယ်ဝတ်ကို ချွတ်ပြခြင်း၊ စိတ်ဆိုးဟန်ပြခြင်း၊ ခါးကို လှုပ်ပြခြင်း၊ နမ်းရှုံ့ပြ ခြင်း စသည်တို့ဖြစ်၏။

## ၁၃။ ကိုယ်ဝန်ဆောင်ရသည့်ဒုက္ခ

ကိုယ်ဝန်ရကာ၊ မိန်းမတို့မှာ၊ ဓမ္မတာဖြင့်၊ မသာမအီ၊ ကြုံလှီကိုယ်ရုပ်၊ ရတုငုတ်၍၊ သွေးပုပ်အောင်းကာ၊ ပျက်နှုတ်လျှာနှင့်၊ ရွံရှာပျို့အန်၊ ပူပန်ကိုက်ခဲ၊ ဝမ်းထဲလှိုက်ခုန်၊ တုန်သည်နှလုံး၊ မပြုံးရွှင်လေ့၊ တငွေ့ငွေ့တည့်၊ ရက်စေ့ဖွားငှာ၊ ရောက်သောခါလည်း၊ ဆိုရာမရှိ၊ မချိမှုးဝေ၊ သည်းအူကြွေမျှ၊ မိုးမြေမမြင်၊ ခါးတင်ရင်တောင့်၊ ကျောလုံး အောက်လျက်၊ ခံခေါက်ခံခက်၊ ဆင်းရဲနက်၏၊ (၃၀၂)

### ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမတို့သည် ကိုယ်ဝန်ရစတွင် မအီမသာဖြစ်ခြင်း၊ ကိုယ်ရုပ်ကြုံလှီခြင်း၊ ရတုငုတ်ခြင်း၊ သွေးပုပ်များအောင်းနေသဖြင့် ခံတွင်းပျက်၊ ပျို့အန်ခြင်း၊ ကိုက်ခဲခြင်း၊ ဝမ်းထဲ ရင်ထဲ ဖိုလှိုက်လှုပ်ခုန်ခြင်း၊ နှလုံးတုန်ခြင်း၊ မပြုံးမရွှင်ဘဲနေခြင်း၊ ရက်စေ့၍ မွေးဖွားသောအချိန်တွင်လည်း ဆိုဖွယ်ရာမရှိပြီ။ မူးဝေခြင်း၊ ဝမ်းထဲ၌သည်းအူကြွေမျှ ခံစားရခြင်း၊ ခါးတင်ရင်တို့ တောင့်တင်းခြင်း၊ ကျောအောင့်ခြင်း စသော ဒုက္ခများစွာကို ခံရ၏။

## ၁၄။ မိန်းမတို့သာ ခံရရှာ

စကြာမင်းသမီး၊ ဖြစ်တပြီးလည်း၊ တောင်ကြီးဖဝါးအောက်၊ လင်နောက်လိုက်ရ၊ ဂုဏ်နိမ့်ချလျက်၊ ခယလုပ်ကျွေး၊ သူ့သွေးသန္ဓေ၊ ဆောင်ထွေစွဲကပ်၊ မီးယပ်သားဖွား၊ ဤငါးပါးတည့်၊ ယောကျ်ားတစ်ရံ၊ မဆက်ဆံဘဲ၊ ယိုးယံနိစ္စ၊ ထိုဒုက္ခကို၊ မိန်းမတို့သာ၊ ခံရရှာ။ (၃၀၃)

### ဆိုလိုရင်း အဓိပ္ပာယ်

စကြာဝတေးမင်းကြီး၏ သမီးဖြစ်သော်လည်း လင်နောက်ကို လိုက်ရသည်သာ ဖြစ်၏။ မိမိဂုဏ်ကို နှိမ့်ချ၍ လုပ်ကျွေးရ၏။ ပဋိသန္ဓေကို လွယ်ပေးရ၏။ မီးယပ်ရောဂါကို ခံစားရ၏။ သားကို ဖွားရ၏။ ဤဒုက္ခငါးပါးကို ယောကျ်ားတို့မခံစားရဘဲ မိန်းမတို့သာ ခံစားရရှာ၏။

## ၁၅။ မိန်းမဘဝမှ ယောကျ်ားဖြစ်နိုင်

ဝိရာဇိတ၊ မိန်းမအလေ့၊ စွန့်ခွာ၍လျှင်၊ ငြီးငွေ့သောအား၊ လင်ယောကျ်ား၌၊ သိကြားပမာ၊ ရိုသေစွာမူ၊ စကြာစင်စစ်၊ ယောကျ်ားဖြစ်၏။ (၃၀၃)

### ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမဘဝကို ငြီးငွေ့ပြီး နောက်တစ်ဖန် မဖြစ်လိုပါလျှင် မိမိ၏လင်ယောကျ်ားကို သိကြားမင်းပမာ သဘောထား၍ ရိုရိုသေသေ လုပ်ကျွေးပြုစုပါက စကြာမင်း ဖြစ်နိုင်သော ယောကျ်ားဘဝကို ဧကန်ရနိုင်ကြ၏။

ပဏ္ဍုမြှားမောက်စာပေ

## ၁၆။ မွေးဖခင်ထက် မိမိလင်ကိုချစ်

အဘနှင့်လင်၊ တူပင်မကွာ၊ သေကြရာ၌၊ ဣန္ဒာနတ်ဆေး၊ တစ်လုံးပေးလည်း၊ ကျေးဇူးထွတ်တင်၊ မွေးဖခင်ကို၊ မရှင်စေရာ၊ လင်ကိုသာလျှင်၊ ရှင်ပါစေမှု၊ လျှင်စွာကုလိမ့်။ (၁၀၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိ၏မွေးဖခင်နှင့် လင်တို့ အတူတကွ သေရန် အသင့်ရှိနေစဉ်တွင် သိကြားမင်းက မသေဆေးတစ်လုံးလာပေးပါက ထိုမိန်းမသည် ထိုဆေးကို မိမိ၏လင်ကို တိုက်ကျွေးမည်ဖြစ်၏။ ကျေးဇူးရှင် မွေးဖခင်ကိုမူ လင်ထက်ပို၍ မချစ်နိုင်ပေ။

## ၁၇။ ဖောက်ပြားတတ်သော မိန်းမများ

တောင်ညာနန်းမ၊ လက်ျာရသား၊ အဂ္ဂမဟေ၊ ပဒုမ္မေထက်၊ ဘိသေသဟံ၊ ရေသွန်းခံလျက်၊ ဆွံ့နှင့်ယှဉ်း၊ မြင်းထိန်းနှင့်ပျော်၊ ကျွန်တော်ရင်းစစ်၊ သုံးကျိပ်နှစ်နှင့်၊ ကျင့်ညစ်ဖောက်ပြန်၊ မဂ္ဂန္တရ၊ စခန်းချစဉ်၊ ဗြဟ္မဏရှယ်၊ လုလင်ရွယ်နှင့်၊ မဖွယ်ဖောက်ပြား၊ မင်းနှစ်ပါးတို့၊ မိဖုရားကြီး၊ မြှောက်တုံပြီးလျက်၊ ခရီးမရှည်၊ လော်လီအထူး၊ ဂင်္ဂါကူးတွင်၊ လေမ္မူးနှင့်မှား၊ ပင်လယ်ကြားဝယ်၊ ယောက်ျားမထင်၊ လက်ပံပင်ထက်၊ တင်၍အသိး၊ စောင့်တပြီးလည်း၊ စောင်းတီးသမား၊ ကျွန်ယောက်ျားနှင့်၊ အမှားမကင်း၊ ကြွတ်တွင်သွင်း၍၊ ဝမ်းတွင်းမျိုကာ၊ ဆောင်စပါလည်း၊ ဝိဇ္ဇာယောက်ျား၊ ကြာသမားနှင့်၊ စပ်ကြားခိုမြှောင်၊ မြိုင်ချောင်နှစ်ကိုယ်၊ အောင်းကာခိုလည်း၊ ငတိုနှင့်ပျက်၊ ယှဉ်းခဲ့ကွက်၏။ (၁၀၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မဟာကုဏာလဇာတ်လာ ကိန္နရဒေဝီ မိဖုရားကြီးသည် တောင်ညာစံ အဂ္ဂမဟေသီ မိဖုရားကြီးဖြစ်နေသော်လည်း ဆွံ့နှင့် မှားယှဉ်းခဲ့သည်။ ကုဏာလဇာတ်လာ ပိင်္ဂယာနိ မိဖုရားသည် မြင်းထိန်းနှင့် ဖောက်ပြန်ခဲ့၏။ ဗန္ဓနမောက္ခဇာတ်လာ စိဥ္စမာနအလောင်း မိဖုရားသည် ကျေးကျွန် သုံးကျိပ်နှစ်ယောက်နှင့် ဖောက်ပြန်ခဲ့၏။ ကုဏာလဇာတ်လာ ကောသလမင်း၏ မိဖုရားသည် ဗြဟ္မဏလုလင်ငယ်နှင့် ဖောက်ပြန်ခဲ့၏။ ကုဏာလဇာတ်လာ ဗကမင်းနှင့် ဗာဝရိမင်းနှစ်ပါးတို့၏ မိဖုရားကြီး ပဉ္စပါပီသည် ဂင်္ဂါမြစ်အကူးတွင် လေမ္မူးနှင့် ဖောက်ပြန်ခဲ့၏။ ကာကဝတီဇာတ်လာ မိန်းမသည် စောင်းတီးသမားနှင့် ဖောက်ပြားခဲ့၏။ သမုဂ္ဂဇာတ်နှင့် ရှုဠပဒုမဇာတ်လာ မိဖုရားတို့သည် ဝိဇ္ဇာယောက်ျား၊ ငတိုတို့နှင့် ဖောက်ပြန်ခဲ့၏။

## ၁၈။ ပညာရှိမိန်းမမြတ်များ

ယောက်ျား၌သာ၊ မဟူရာဘူး၊ အမရာဒေဝီ၊ ဘေရီဓမ္မ၊ ဒိန္နာစသည်၊ အပွကဟူ၊ နည်းငယ်မူကား၊ သူဝယ်ထိုသို့၊ မိန်းမတို့လည်း၊ မချို့ပညာ၊ ရှိတတ်စွာ၏၊ ရှေးခါ

တမ္ဘူ၊ တောမြိုင်ငူတွင်၊ လူမဟုတ်သေး၊ အရေးလိမ္မာ၊ သိတတ်စွာသည့်၊ ပညာရှိကား၊ သိန်းစွန်မ၏၊ နည်းပြည့်သွန်းဆို၊ လင်သိန်းဖိုကို၊ ဝန်လိုကမ္ဘာ၊ လိပ်ကြီးစွာနှင့်၊ မိဂါဓိ ပဟော့၊ ခြင်္သေ့မင်းအား၊ ခစားရှိသေ၊ မိတ်ဖွဲ့စေ၍၊ ရောက်ထွေရေးကြီး၊ သားသမီးတို့၊ သေနီးလုမှန်၊ လူ့ဘေးရန်ကို၊ တွန်းလှန်ချမ်းသာ၊ ရဖူးစွာ၏။ (၃၁၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ယောက်ျားများသာမဟုတ်။ အမရာ၊ ဘေရီ၊ ဓမ္မဒိန္နာ စသော အနည်းငယ်မျှသော မိန်းမတို့သည်လည်း ပညာရှိကြကုန်၏။ ရှေးအခါက လူမဟုတ်၊ တိရစ္ဆာန်ဖြစ်သည့် သိန်းငှက်မသည် သူ၏လင် သိန်းဖိုကို ဝန်တို၊ လိပ်၊ သမင်၊ ခြင်္သေ့တို့နှင့် မိတ်ဖွဲ့စေ၍ သေနီးလုနီးပါးဖြစ်သော ဘေးအန္တရာယ်ကြီးကို တွန်းလှန်ကာ ချမ်းသာခဲ့ဖူး၏။

## ၁၉။ စိတ်တည်မတ် မိန်းမမြတ်

လိမ္မာခွင့်သိ၊ ပညာရှိသား၊ စိတ်တည်မတ်၊ မိန်းမမြတ်တို့၊ နတ်နှင့်မခြား၊ လင်ယောက်ျားကို၊ ပျော်ပါးမပြတ်၊ ရွှင်စေတတ်လျက်၊ လေးမြတ်သက်ထင်၊ မိမိလင်အား၊ လူတွင်စင်စစ်၊ မိတ်ကြီးဖြစ်၏၊ တစ်ဆစ်ထိုပြီး၊ မြတ်ဇာတိဖြင့်၊ ဗောဓိဆုပန်၊ ယောက်ျား မှန်တို့၊ ငါးတန်ပရိစ္စာဂ၊ စရိယဌ်၊ တကွမချွတ်၊ တူကြည်ညွတ်လျက်၊ အမြတ်ဝသီ၊ ပါရမီကို၊ ကူညီအားသစ်၊ ဖြည့်ဖက်ဖြစ်၏။ (၃၁၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ယဉ်ကျေးလိမ္မာသော မိန်းမမြတ်တို့သည် လင်ယောက်ျားအား ပျော်ပါးနှစ်သိမ့် စေ၍ အသက်တမျှ ချစ်ခင်တတ်သဖြင့် ယောက်ျားတို့၏ မိတ်ဆွေအစစ် ဖြစ်ကုန်၏။ ဆုထူးပန်အလောင်းတော် ယောက်ျားများအားလည်း စွန့်ခြင်းကြီးငါးရပ်၊ စရိယသုံးသွယ် စသော ပါရမီများကို ဖြည့်ဆည်းရာ၌ ပါရမီဖြည့်ဖက်များ ဖြစ်ကြကုန်၏။

## ၂၀။ မိန်းမတို့သာ တိုင်ပင်ရာ

ယခေါင်ကာလ၊ ရှေးမဆွ၌၊ ကိစ္စတသီး၊ အရေးကြီး၍၊ မပြီးနိုင်က၊ ကြံမရသော်၊ မိန်းမတို့သာ၊ တိုင်ပင်ရာဟု၊ ပညာရှိများ၊ အစဉ်ကြားလျက်၊ ထင်ရှားမိန့်မှာ၊ ဥဒါန်း လာ၏၊ သမ္မာမွန်မြတ်၊ ထိုမိနတ်တို့၊ မျိုးဇာတ်ဓမ္မတာ၊ ကျင့်မြတ်စွာကား၊ ယုတ်မာ ညစ်ကျူ၊ မကောင်းမှုကို၊ ပြုရအံ့ငှာ၊ အောင့်အည်းစွာ၏။ (၃၁၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးယခင်ကာလက ကိစ္စတစ်စုံတစ်ရာ အရေးကြီး၍ ကြံရာမရဖြစ်ခဲ့သော် မိန်းမတို့ နှင့်သာ တိုင်ပင်ရာဟု ပညာရှိများက မိန့်မှာခဲ့ကြ၏။ အကျင့်ကောင်း၍ မျိုးရိုးဇာတိ ကောင်းသော မိန်းမမြတ်တို့မှာ ယုတ်မာကောက်ကျစ်သော မကောင်းမှုကို မည်သည့်အခါ မှ မပြုမိအောင် စောင့်ရှောက်ထိန်းသိမ်းနိုင်ကြ၏။

## ၂၁။ မီးသုံးဖို

မိန်းမတကာ၊ ဓမ္မတာဖြင့်၊ အိမ်ရာပြုထောင်၊ လူတို့ဘောင်ဝယ်၊ ထိန်ပြောင်ညီးညီး၊ သုံးပုံမီးတည့်၊ ကြီးလှကျေးဇူး၊ နှစ်ဦးမိဘ၊ ကာမအရှင်၊ လင်လည်းတစ်ခန်း၊ ရဟန်းပုဏ္ဏား၊ ရောက်ကြွားအထံ၊ လျှခံပုဂ္ဂိုလ်၊ မီးသုံးဖိုကို၊ သိမ်းသိမတတ်၊ ကျင့်ယွင်းချွတ်က၊ မပြတ်ညီးပြောင်၊ နေ့တိုင်းလောင်ရှင့်၊ (၄၁၃)

## ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမတကာတို့ လူ့ဘောင်လောက ဓမ္မတာအတိုင်း၊ အိမ်ယာထောင်သောအခါ အလျှံညီးညီး ပြောင်သော မီးပုံကြီးသုံးပုံကိုသတိထားဖြည့်ဆည်းလော့။ ပထမမီးပုံမှာ မိဘနှစ်ပါး၊ ဒုတိယမီးပုံမှာ လင်ယောကျ်ား၊ တတိယမီးပုံမှာ အလှူခံရောက်လာသည့် ရဟန်းပုဏ္ဏားတို့ ဖြစ်၏။ ထိုမီးပုံသုံးပုံကို ထိန်းသိမ်းမတတ်ဘဲ ယွင်းချွတ်ခဲ့ပါက ထိုမီးပုံတို့၏ လောင်ကျွမ်းခြင်းကို ခံရ၏။

## ၂၂။ စကြာသားတို့ ဖွားရသတတ်

မျက်ထွက်တစ်မျိုး၊ ရန်ငြိုးဖွဲ့မူ၊ ငြူစူဝန်တို၊ လင်ကိုကျူးထ၊ သီလကင်းမဲ့၊ မဟဲ့မြင်ကြား၊ ပျင်းရိအားဖြင့်၊ ရှစ်ပါးငါးလီ၊ စတ္တာလီကြောင့်၊ ဣတ္ထိတို့အား၊ ငရဲများဟု၊ ဘုရားလူ့ဘ၊ သမ္ဗုဒ္ဓတို့၊ ဟောပြဝေဖန်၊ မသွေလှန့်တည့်၊ ကေန်မုချ၊ မှတ်ကြကုန်လော့၊ မိန်းမတို့မှာ၊ ပညာသတိ၊ သမာဓိနှင့်၊ ဟီရိသြတ္တပ်၊ ကိုယ်ကြပ်နိစ္စ၊ ပြည့်စုံကြသော်၊ ရူပအဆင်၊ သွင်ပြင်ရုပ်ဆင်း၊ ညံ့လျှင်းကစား၊ စကြာသားတို့၊ ဖွားရသတတ်၊ မှန်မချွတ်တည့်၊ (၄၁၃)

## ဆိုလိုရင်း အဓိပ္ပာယ်

အမျက်ထွက်ခြင်း၊ ရန်ငြိုးဖွဲ့ခြင်း၊ ငြူစူဝန်တိုခြင်း၊ လင်ကို မရိုသေ မလေးစားခြင်း၊ သီလကင်းခြင်း၊ အကြားအမြင်မရှိခြင်း၊ ပျင်းရိခြင်းရှိသော မိန်းမတို့သည် အပါယ်လားကြရကုန်၏။ အကယ်၍ ထိုမိန်းမသည် ပညာရှိခြင်း၊ သတိရှိခြင်း၊ သမာဓိရှိခြင်း၊ ဟိတိသြတပ္ပတရား စောင့်ထိန်းခြင်းစသော အရည်အသွေးတို့နှင့် ပြည့်စုံပါက ရုပ်ဆင်း အင်္ဂါမလှသော်လည်း စကြာမင်း သားကောင်းရတနာကို မွေးဖွားပေးနိုင်သည့် မိခင်မြတ်တစ်ယောက် ဖြစ်နိုင်၏။

## ၂၃။ ဘုန်းကံကြီးမား မိန်းမများ

မဟာပုညဝန်၊ ဘုန်းရှိလွန်သား၊ မိမွန်တို့သာ၊ ရထိုက်ရာသည့်၊ အင်္ဂါစုံပေါင်း၊ ထိုငါးကြောင်းကား၊ မိကောင်းဖရိုး၊ သူမြတ်မျိုး၌၊ မညိုးမငယ်၊ သန္ဓေတည်လျက်၊ တင့်တယ်ရောင်ဆင်း၊ ဖြစ်ရခြင်းက၊ ရွှယ်ချင်းရွယ်တူ၊ နတ်နှစ်ဆူသို့၊ ကြီးထူစည်းစိမ်၊ ဂုဏ်သိမ်မလျှ၊ ရောက်ရတစ်ဖန်၊ ဘေးရန်မရှိ၊ သုခိချမ်းသာ၊ နေရစွာနှင့်၊ ပုတ္တာသားဦး၊

အထူးဖွားမြင်၊ ထိုဂုဏ်အင်ဖြင့်၊ လင်ကိုလွမ်းမိုး၊ အိမ်လုံးစိုး၍၊ ဆွေမျိုးများလယ်၊ လွန်တင့်တယ်၏။ (၄၁၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ကြီးစွာသော ဘုန်းကံရှိသော မိန်းမမြတ်များသည် ပြုခဲ့သော ကောင်းမှုကံကြောင့် ခံစားရရှိထိုက်သော အကြောင်းတရားငါးပါးရှိ၏။ ယင်းတို့မှာ မိဘမျိုးရိုး မြင့်မြတ်သော အမျိုး၌ သန္ဓေတည်ရခြင်း၊ အရောင်အဆင်းလှပ တင့်တယ်ခြင်း၊ လင်ယောကျ်ားရသော အခါ အရွယ်တူချင်း၊ နတ်နှစ်ပါးကဲ့သို့ စည်းစိမ်ဥစ္စာ၊ ဂုဏ်ကျက်သရေနှင့် ပြည့်စုံခြင်း၊ ဘေးအန္တရာယ်ကင်းရှင်း၍ ချမ်းသာစွာနေရခြင်း။ သားယောကျ်ား သားဦးမွေးဖွား၍ လင်နှင့်တကွ အိမ်ထောင်စုတစ်ခုလုံးနှင့် ဆွေမျိုးများအလယ်တွင် တင့်တယ်စွာ နေထိုင်ရခြင်းတို့ ဖြစ်၏။

# ၂၂။ ယောက်ျား

လောက၌ ယောက်ျားဟူသည် မြင့်မြတ်သူ၊ လုံ့လဝီရိယကြီးမားသူ၊ တန်ခိုးသတ္တိရှိသူ လူသားတစ်ယောက်အဖြစ် မှတ်ယူထားကြသည်။ ယောက်ျားကောင်း မောင်းမတစ်ထောင်၊ အတောင်နှစ်ဆယ်ဝတ် မင်းယောက်ျားစသည်ဖြင့် ချီးကျူးတင်စား ပြောဆိုလေ့ရှိကြသည်။ အကြီးမြတ်ဆုံးသော သမ္မာသမ္ဗုဒ္ဓခေါ် ဘုရားဆုကိုပင် တောင်းနိုင်ခံယူနိုင်သည့် ထူးခြားသော လူသားတစ်ယောက် ဖြစ်လေသည်။

ယောက်ျားတို့၏ ဘုန်းတန်ခိုးနှင့် ကျက်သရေကား အတိုင်းမသိ ကြီးမားလှသည်။ စကြာဝတေး၊ မန္ဓာတ်မင်း၏သမီး စင်စစ်ပင်ဖြစ်သော်လည်း နောက်ဆုံးတစ်နေ့တွင် ယောက်ျားတို့၏ ခြေဖဝါးအောက် ရောက်ရ၍ ယောက်ျားတို့ပြုသမျှ နရရှာသည်။ ယောက်ျားတို့၏ ဘဝပေးအကျိုးကား ကြီးမားလှချေသည်။

သို့သော် ထိုသို့ယောက်ျားမျိုးကား ရှားလှသည်။ အကျင့်စရိုက်ကောင်းများနှင့်တကွ ဉာဏ်ပညာရှိသူ၊ စင်ကြယ်မြင့်မြတ်သူ၊ ဖြောင့်မတ်မှန်ကန်သူ ယောက်ျားမျိုးသည်သာ အတောင်နှစ်ဆယ်ဝတ် မင်းယောက်ျားဖြစ်နိုင်ပေသည်။ ထိုသူတို့သာလျှင် ယောက်ျားတို့ ဘုန်း၊ လက်ရုံး၊ တန်ခိုး၊ သြဇာတို့ကို ပိုင်ဆိုင်ရယူနိုင်သည်။

အချို့ယောက်ျားများကား ထိုသို့မဟုတ်ကြချေ။ ကိုယ်ကျင့်မကောင်း၊ ဉာဏ်ပညာမရှိ၊ စီးပွားမရှာ၊ အိမ်ယာမသိ၊ စိတ်ထင်ရာပြုကျင့်၍ တစ်လမ်းသွားသမားများ ဖြစ်ကြသည်။ အထူးသဖြင့် ထိုသူတို့သည် လောကီအာရုံကာမဂုဏ်တို့၌ တရှိုက်မက်မက်၊ မခွဲရက်မခွာနိုင်ကြဘဲ မိန်းမတို့အလိုကျ လိုက်ပါလွင့်မျောနေကြသည့် ထိုယောက်ျားမျိုးကား စက်ဆုပ်စရာ၊ ရွံမုန်းစရာ၊ မလိုလားစရာကောင်းသော ယောက်ျားများ ဖြစ်ကြသည်။ အကျင့်စရိုက်ညံ့ဖျင်းမှုတွင် မိန်းမယုတ်၊ မိန်းမဆိုးထက်ပင် ပိုသေးသည်။

ထိုယိုသော ယောက်ျားတို့၏ သဘောအထွေထွေ၊ အဆိုးအကောင်းများကို မန်လည်ဆရာတော်ကြီးသည် သူ၏မဃဒေဝလင်္ကာသစ်ကြီးတွင် သက်သေသာဓကဇာတ်နိပါတ်လာ အဖြစ်အပျက်များနှင့်တကွ ဖော်ကျူးရေးဖွဲ့ထားသည်။ ဆရာတော်ကြီးကိုမိန်းမတို့၏ မကောင်းကြောင်းကို ဖော်ထုတ်ရေးသားတတ်သူအဖြစ် မကျေမချမ်းဖြစ်နေသူတို့အဖို့ ဤအခန်းပါ ယောက်ျားတို့အကြောင်း ရေးဖွဲ့သီဆိုထားပုံများကို ဖတ်ရှုကြည့်ပါ

ကုန်ဟု တိုက်တွန်းလိုပါသည်။ ယောက်ျားကောင်းတို့၏ အသွင်အပြင်အနေအထားများကို ကြည်ညိုလေးစားစွာ တွေ့ကြရမည်ဖြစ်ပြီး ယောက်ျားယုတ်၊ ယောက်ျားမိုက်တို့၏ စရိုက်၊ အမူအရာများကို စက်ဆုပ်ရွံရှာဖွယ် ခံစားတွေ့ရှိကြရမည်ဟု မျှော်လင့်ပါသည်။

## ၁။ ယောက်ျားဟူတောင်း လူရည်ကောင်းလည်း

ယောက်ျားဟူတောင်း၊ လူရည်ကောင်းလည်း၊ ကြက်ဘောင်းတူလျော၊ အသွင်ချော၍၊ ရဲဘောနတ္ထိ၊ စွမ်းမရှိဘူး၊ သတ္တိနည်းပါး၊ ရေးကြုံကြားက၊ ခွေးကျားကိုမြင်၊ တွေ့သောသွင်ဖြင့်၊ ကြောက်ငြင်ချူးပိန်၊ ဘီမသိန်သို့၊ ဇီဝိန်ပြတ်ကျိုး၊ သေလုနီးလျက်၊ (၂၉၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ယောက်ျားကောင်းတစ်ယောက်ဖြစ်သော်လည်း တစ်ခါတစ်ရံတွင် အသွင်အပြင်သာ ချောမောလှပပြီး အစွမ်းမရှိသောကြက်နှင့် တူလှ၏။ ကျားကို မြင်တွေ့ရသော ခွေးကဲ့သို့ ထိတ်လန့် ကြောက်ရွံ့တတ်ကြ၏။ တကယ်တမ်း ကျားကိုတွေ့သောအခါ လေးသည်ကျော်အမည်ခံသူ ဘီမသေနသည် သေလုနီးပါး ကြောက်ရွံ့ရသကဲ့သို့ စွမ်းရည်မဲ့ ဖြစ်ကြရကုန်၏။

## ၂။ ကိုယ်တွင်းမဆိတ် ယောက်ျားစိတ်

ဤလောက၌၊ ရာဂမကင်း၊ ကိုယ်တွင်းမဆိတ်၊ ယောက်ျားစိတ်ကို၊ မပိတ်ဆို့နိုင်၊ ယစ်မူးမှိုင်လျက်၊ ယိမ်းယိုင်ကိုယ်လုံး၊ ကျုံး၍ပစ်သို့၊ ပြစ်ပြစ်ကုန်စင်၊ မွေမမြင်အောင်၊ ဆင်ခြင်ဉာဏ်ကင်း၊ တွေ့ရာခြင်းဖြင့်၊ မကြွင်းစေကြောင်း၊ အကုန်ပြောင်း၍၊ စိတ်ကောင်းဟူသမျှ၊ ပြုန်းပြုန်းကျ၏။ (၂၉၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလောက၌ ရာဂမကင်းသော ယောက်ျားတို့၏စိတ်ကို မည်သို့မျှ တားဆီးပိတ်ပင်၍ မရချေ။ စိတ်ကို တားဆီးပိတ်ပင်လိုက်သည်နှင့် ထိုယောက်ျားတို့သည် ခွေယိုင်ငေးမှိုင်ကာ နေကြရကုန်၏။ အကောင်းအဆိုးကိုမမြင်၊ အဆင်ခြင်ကင်းမဲ့ပြီး စိတ်ကောင်းဟူသမျှ ပျောက်ကွယ်သွားကြရ၏။ ထိုအခါ ယောက်ျားတို့သည် တွေ့ရာကြုံရာ၌ ဖောက်ပြန်ပျက်စီးလေ့ရှိကြကုန်၏။

## ၃။ လောကီဘုံသား လူယောက်ျားတို့

ယောက်ျားတို့မှာ၊ ဥစ္စာတစ်၊ မရှိမခင်၊ ရှိသခင်တည့်၊ လူ့ခွင်ဌာန၊ လူ့လောက၌၊ ကာမဘောဂီ၊ လောကီဘုံသား၊ လူယောက်ျားတို့၊ မယားဟူဘိ၊ ထိုဣတ္ထိနှင့်၊ မရှိမကောင်း၊ ရှိမကောင်းဘဲ၊ မပေါင်းလည်းခက်၊ ပေါင်းလည်းခက်၏၊ စစ်တက်ယောက်ျား၊ မြွေသမားနှင့်၊ ရေသွားခရီး၊ ဆင်စီးတမျှ၊ စိတ်ကဘယ်ခါ၊ မချရာတည့်၊ (၂၉၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ယောက်ျားဟူသည် အကျင့်မကောင်းသော မိန်းမတို့အဖို့ ဥစ္စာမရှိလျှင် မခင်မင်ကြဘဲ ဥစ္စာရှိမှသာ သခင်ကဲ့သို့ ခင်မင်လေးစားကြ၏။ ယောက်ျားတို့အဖို့ မိန်းမဟူသည် မရှိမကောင်း၊ ရှိမကောင်းဘဲ မပေါင်းလည်းခက်၊ ပေါင်းလည်းခက်သော အမျိုးဖြစ်၏။ ထို့ကြောင့် ယောက်ျားတို့သည် မိန်းမများအပေါ် စစ်တက်ယောက်ျား၊ မြွေသမား၊ ရေလမ်းခရီးသွားသူ၊ ဆင်စီးသမားတို့ကဲ့သို့ ဘယ်သောအခါမျှ စိတ်မချသင့်ချေ။

## ၄။ ယောက်ျားလိုရာ ဆောင်တိုင်းပါ

ယောက်ျားမိးစ၊ မိန်းမဓာတ်မျိုး၊ ထောပတ်အိုးတည့်၊ နှိုင်းနှိုးပုံမှီး၊ ယောက်ျားမီးနှင့်၊ နီးလတ်တုံဘိ၊ ယှဉ်ကြမိသော်၊ ဣတ္ထိတို့ဓာတ်၊ ထောပတ်လက္ခဏာ၊ မခိုင်မာဘူး၊ အိကာပျောင်းငြား၊ မတည်ကြားတည့်၊ ယောက်ျားလိုရာ၊ ဆောင်တိုင်းပါ၏၊ (၂၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

လောကတွင် ယောက်ျားသည်မီးစ၊ မိန်းမသည် ထောပတ်နှင့် တူကုန်၏။ ယောက်ျားတည်းဟူသော မီးနှင့် နီးကပ်သောအခါ ထောပတ်နှင့်တူသော မိန်းမတို့သည် ခိုင်မာခြင်းမရှိဘဲ ပျော့ပျောင်းသွားကြရကုန်ပြီး ယောက်ျားဆွဲဆောင်ရာ ပါတတ်ကြ၏။

## ၅။ ဗောဓိယောက်ျား သူမြတ်များ

မယားဟူသည်၊ သက်တူကျွမ်းဝင်၊ သဘောစင်က၊ လူတွင်မိတ်စစ်၊ ဆွေရင်းဖြစ်၏၊ အပြစ်တမူ၊ အမျက်ယူက၊ ရန်သူကြီးဖြစ်၊ သေမင်းစစ်၏၊ ချစ်သော်သက်နှုန်း၊ မုန်းသော်သေမင်း၊ အတွင်းရန်သူ၊ သေကြောင်းမူ၍၊ ပြစ်ယူဒေါသ၊ ပြုတတ်ကြရှင့်၊ မုချမှတ်ရာ၊ ထိုကြောင့်သာလျှင်၊ ပညာမြင်ရှိ၊ ဉာဏ်သတိနှင့်၊ ဗောဓိယောက်ျား၊ သူမြတ်များတို့၊ တရားမလစ်၊ ဆင်ခြင်ချစ်၏၊ (၃၁၁)

## ဆိုလိုရင်း အဓိပ္ပာယ်

မယားဆိုသည်မှာ အသက်တမျှ ကျွမ်းဝင်ပြီး သဘောဖြောင့်မတ်ဖြူစင်ပါက ယောက်ျားတစ်ယောက်အတွက် မိတ်စစ်ဆွေစစ်ဖြစ်၏။ ထိုသို့မဟုတ်ဘဲ အပြစ်ယူ အမျက်ထွက်တတ်ပါက သေမင်းနှင့်တူသော ရန်သူကြီးဖြစ်၏။ ချစ်လျှင်တစ်မျိုး၊ မုန်းလျှင်တစ်မျိုး ဆက်ဆံတတ်၏။ ထို့ကြောင့် အလောင်းတော်သူမြတ်ယောက်ျားများသည် တရားကို လက်ကိုင်ထားကာ မယားအား ဆင်ခြင်ပြီး ချစ်ကြ၏။

## ၆။ မိန်းမအလို မလိုက်နှင့်

ယောက်ျားငါးဦး၊ အာရုံကြူးနှင့်၊ ယစ်မူးတပ်ပြွေ့၊ လမ်းကြုံတွေ့ကို၊ ဆောင်ရွက်မကြွင်း၊ နန်းလုံးနှင်းသား၊ မင်းတက္ကသိုလ်၊ ရှေးအဟိုက၊ ကိုယ်ပါဆုံးပါး၊ ဘီလူးစား၍၊ ပျက်ပြားကုန်ကြ၊ (၃၁၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ကေနိပါတ် တေလပတ္တဇာတ်၌ ဘုရားလောင်းနောက်ပါ လူငါးယောက်တို့သည် လမ်းတွင် တွေ့ရသော လှူယောင်ဆောင် ဘီလူးမအား ချစ်ကြိုက်စွဲလမ်း၍ နန်းတော်သို့ ခေါ်လာရာ တက္ကသိုလ်ပြည် ဘုရင်က မိဖုရားအဖြစ် မြှောက်စားခဲ့သည်။ ထို့ကြောင့် ဘုရင်နှင့်တကွ နန်းတွင်းသားအပေါင်းတို့သည် ဘီလူးစား၍ သေကြေပျက်စီးကြရကုန်၏။ ထို့ကြောင့် ယောကျ်ားတို့သည် မိန်းမအာရုံ ကာမဂုဏ်ကို မလိုက်စားရာ။

## ၇။ မယားကိုသတ် စားကုန်တတ်

လူ့ရွာဌာန၊ လူ့လောက၌၊ မိန်းမတို့သာ၊ ကျင့်ယုတ်မာ၍၊ မိစ္ဆာဆိုး၀ါး၊ မဟုတ်ပြားဘူး၊ ယောကျ်ားသည်လည်း၊ ပညာနည်းတို့၊ စောင့်စည်းမရှိ၊ မျိုးဣတ္ထိသို့၊ မသိကျေးဇူး၊ သူ့ဂုဏ်ထူးကို၊ ထိမ်မြှုးချေတတ်၊ ကျင့်မမြတ်တည့်၊ မှတ်လော့ထိုရော်၊ ရှေးခါသော်က၊ ခြောက်ဖော်မင်းသား၊ တောရပ်သွားတို့၊ မယားကိုသတ်၊ စားကုန်တတ်ရှင့်။

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် မိန်းမတို့သည်သာ အကျင့်ယုတ်မာသည်မဟုတ်သေး။ ပညာနည်း၍ စောင့်စည်းမှုမရှိသော ယောကျ်ားတို့သည်လည်း ယုတ်မာကြ၏။ မိမိအပေါ် ချစ်ကြင်နာ၍ သစ္စာရှိသော မိန်းမတို့ကိုပင် ကျေးဇူးမဲ့ပြုတတ်ကြ၏။ ရှေးအခါက တောကစားထွက်လာကြသော မင်းသားခြောက်ယောက်သည် မိမိတို့နှင့်အတူ ပါလာသော မိန်းမကိုသတ်ကာ စားကြကုန်၏။

## ၈။ ယောကျ်ားမာယာ ချွဲတိုင်းပါ

တရားမဲ့ထ၊ ပုရိသတို့၊ အစသောခါ၊ အလိုပါအောင်၊ လျှာနှင့်သက်သက်၊ လျက်အံ့အလား၊ သွားနှင့်ခဲတုံ့၊ နှုတ်ထဲငုံမျှ၊ မပုံပုံကြောင်း၊ ကြောင်စာတောင်းသို့၊ တညောင်းညံ့ညံ့၊ မခံနိုင်မှု၊ ကျွန့်နှယ်ပြု၍၊ သက်စုကိုယ်တွင်း၊ ကြိုက်ယောင်သွင်း၏၊ မပျင်းယုယ၊ တောင်းပန်ခကြောင့်၊ မိန်းမမည်သည်၊ မတည်စိတ်ပြောင်း၊ ညံ့ညံ့ပျောင်းလျက်၊ ဖယောင်းမီးပြ၊ ဟူကုန်ကြသို့၊ ယောကျ်ားမာယာ၊ ချွဲတိုင်းပါ၍၊ ကြည်သာအရေး၊ ခွင့်ပေးကိစ္စ၊ ပြီးပြည့်ဝသော်၊ ယောကျ်ားအလို၊ ကြာပြီဆိုလျှင်၊ အိုသောဟောင်းသော၊ နွမ်းနယ်သောဟု၊ သဘောတစ်ပုံ၊ အာရုံဝမ်းတွင်း၊ ပိုက်ဆောင်လျှင်း၏၊ ချွတ်ယွင်းဖောက်လွှဲ၊ အိုင်မမြဲသည့်၊ ကျွဲတို့ပမာ၊ ငယ်ကြင်ယာ၌၊ သစ္စာဓွေစောင်း၊ မေတ္တာပြောင်း၍၊ အဟောင်းကိုပစ်၊ အသစ်ကိုသာ၊ ရှာတတ်စွာခဲ့။ (၁၁၃)

## ဆိုလိုရင်း အဓိပ္ပာယ်

တရားမရှိသော ယောကျ်ားတို့သည် မိန်းမတစ်ယောက်ကိုရရန်အတွက် ကြောင်အစာတောင်းသည့်ပမာ ကြိုက်ယောင်ဆောင်၍ ခယတောင်းပန်ကြ၏။ ထိုအခါ မိန်းမ

တို့လည်း မီးထိသော ဖယောင်းပမာ ယောက်ျားဘက်ပါ၍ အခွင့်အရေးများကို ယောက်ျားအား ပေး၏။ ဤသို့ မိမိလိုရာရပြီးသော်လည်း ထိုယောက်ျားသည် မိန်းမအပေါ်၌ အိုသော၊ ဟောင်းသော၊ နွမ်းနယ်သောစသဖြင့် အလိုမကျ ဖြစ်လာ၏။ ဤသို့ ပေါင်းဖက်၍ ကြာလာသောအခါ မိန်းမအပေါ် သဘောတစ်မျိုးပြောင်းကာ သစ္စာဇွဲစောင်း၊ မေတ္တာပြောင်း၍ အဟောင်းကိုပစ် အသစ်ကိုရှာတတ်ကြကုန်၏။

## ၉။ ယောက်ျားဗာလ လူ့ပါပ

အချစ်လိုက်စား၊ ယုံမိမှားလျက်၊ ယောက်ျားဗာလ၊ လူ့ပါပနှင့်၊ တွေ့ရကြုံရ၊ ပေါင်းဆုံရသော်၊ မိန်းမတို့ထုံး၊ ငွေကုန်ရှုံးက၊ သက်ဆုံးမတိုင်၊ ကိုယ်ပိုင်ယောက်ျား၊ သွေဖောက်ပြား၍၊ တရားမစောင့်၊ မဖြောင့်နှလုံး၊ လင်ကုန်ရှုံးက၊ သက်ဆုံးတိုင်လစ်၊ ပြောရာဖြစ်ရှင့်၊ အနစ်ပညာ၊ မရှိပါက၊ အင်္ဂါခြေလက်၊ ယောက်ျားလျက်လည်း၊ မိန်းမထက်သာ၊ ယုတ်မာဆိုးဝါး၊ မိုက်လုံးထွားသည်၊ (၃၁၃)

## ဆိုလိုရင်း အဓိပ္ပာယ်

အချစ်ကို လိုက်စားတတ်သော ယောက်ျားမိုက်တို့နှင့် ကြုံဆုံရသော မိန်းမတို့သည် ငွေကုန်ရှုံးက ခံသာသော်လည်း လင်ယောက်ျားက ဖောက်ပြားသဖြင့် လင်ကုန်ရှုံးသောအခါ တစ်သက်လုံး ပြောစရာဖြစ်ရတော့၏။ ယောက်ျား၏ အင်္ဂါ အစိတ်အပိုင်းများပါ၍ ယောက်ျားဟု ခေါ်ဆိုကြသော်လည်း အချို့ယောက်ျားတို့သည် မိန်းမတို့ထက်ပင် ဆိုးဝါးယုတ်မာကာ မိုက်လုံးကြီးကြ၏။

## ၁၀။ ယုတ်မာဆိုးလှ လိုက်ကုန်ကြ

မိန်းမမဟုတ်၊ ယောက်ျားယုတ်တို့၊ မိတ်ဖြုတ်ကျင့်တန်၊ ကျေးဇူးလှန်၍၊ မမှန်သစ္စာ၊ ယုတ်မာဆိုးလှ၊ မိုက်ကုန်ကြ၏၊ ထိုမှတဝ၊ ပူရိသတို့၊ မိန်းမအာရုံ၊ တွေ့ကြိုက်ကြုံသော်၊ ရာဂုမ္မတ္တက၊ သတိပ၍၊ မောဟမွန်လျက်၊ ဆားနယ်လျက်မျှ၊ ထန်းလျက်သကြား၊ သကာများနှင့်၊ ချိုပျားသဏ္ဍာန်၊ သာယာဟန်ဖြင့်၊ ဉာဏ်သက်သက်မဲ့၊ နွား၏ကဲ့သို့၊ လာခဲ့သွားလေ၊ မိန်းမစေတိုင်း၊ သေဆိုသေရ၊ လိုက်ကုန်ကြ၏၊ (၃၁၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမမဟုတ်သော ယောက်ျားယုတ်တို့သည် ကျေးဇူးသစ္စာမရှိ၊ ယုတ်မာဆိုးဝါး မိုက်မဲကြကုန်၏။ တစ်ဖန် မိန်းမဆိုသော အာရုံနှင့်တွေ့သောအခါ သတိကင်းမဲ့၍ ရာဂအရှုးကြီးသဖွယ် ကာမဂုဏ်အရသာများကို လိုက်စားကြ၏။ ထိုသူတို့သည် အသိဉာဏ်ကင်းမဲ့သူများဖြစ်သောကြောင့် မိန်းမတို့ စေခိုင်းသည့်အတိုင်း နွားတစ်ကောင်ကဲ့သို့ သေဆိုသေ၊ ရှင်ဆိုရှင်၊ မလွဲမသွေ လိုက်ကြရကုန်၏။

## ၁၁။ မိန်းမသွင်ကို မြင်လျှင်မြင်ချင်း

သူမြတ်ဗောဓိ၊ လောင်းဇာတိလျက်၊ ဟရိတစ၊ ရှင်လောမတို့၊ လောဘအဟုန်၊ ကျဆင်မုန်သို့၊ ကာမဂုဏ်ညစ်၊ ရာဂယစ်၍၊ အပြစ်မထင်၊ မိန်းမသွင်ကို မြင်လျှင်မြင်ချင်း၊ သတိယွင်းလျက်၊ ဉာဏ်ကင်းလက်လွှတ်၊ ဈာန်ကြိုးပြတ်၏၊ ယုတ်မြတ်ဟူကြ၊ ဤလောက၌၊ မိန်းမယောက်ျား၊ သဘောအားဖြင့်၊ ခြားနားမရှိ၊ (၃၁၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဘုရားအလောင်းတော်ပင် ဖြစ်သော်လည်း ဟရိတစရသေ့သည် တဏှာလောဘ အဟုန်ဖြင့် ဆင်များ မုန်ယိုသကဲ့သို့ မိန်းမအသွင်သဏ္ဌာန်ကို မြင်လျှင်မြင်ချင်း သတိ၊ ဉာဏ်ပညာများ ကင်းလွတ်ကာ ဈာန်မှ လျှောကျပျက်စီးခဲ့ရ၏။ ကာမဂုဏ်ရာဂနှင့် ပတ်သက်လာလျှင် မိန်းမနှင့် ယောက်ျားတို့သည် အတူတူချည်းသာ ယစ်မူးလိုက်ပါကြရကုန်၏။

## ၁၂။ ယောက်ျားဟူက အရေးကျသော်

ယောက်ျားဟူက၊ အရေးကျသော်၊ လုံ့လခိုင်ဖြိုး၊ သက်စွန့်ကြိုးလော့၊ မြို့စီးတရာ၊ မြို့လာတစ်ထောင်၊ ယခေါင်ရှေးက၊ ဆိုကုန်ကြလည်း၊ သူရရဲရင့်၊ အသင့်ပညာ၊ အလိမ္မာဟု၊ သုံးဖြာအင်ပြည့်၊ စုံလှည့်လတ်သော်၊ မဟော်သဓာ၊ ပညာဂမ္ဘီ၊ နန္ဒိသေန၊ ပစ္စန္တ တို့၊ လုံ့လအကြံ၊ သင့်စိမံ၍၊ အခံအထိုး၊ ထိုနှစ်မျိုးလည်း၊ ရဲကိုးရဲယုံ၊ ရဲမဖြုံဘူး၊ မကုံမင်း၊ ဘုန်းကံဗလ၊ စနန္ဒမ်းပါး၊ မတန်ငြားဘဲ၊ ခွန်အားဥစ္စာ၊ ပညာစိုးရ၊ လွန်သမျှကို၊ ကာလဘယ်ခါ၊ မဖက်ရာတည့်၊ (၃၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ယောက်ျားဟူသည် အရေးကြုံလာလျှင် ကြီးစွာသော လုံ့လဖြင့် သက်စွန့်ကြိုးပမ်း ရွက်ဆောင်ပါလော့။ စစ်တိုက်ရာတွင် မြို့စီးပြစီး မည်မျှပင် ခိုင်မာတောင့်တင်းအောင် စီမံထားပါစေ။ ရဲရင့်ခြင်း၊ ပညာရှိခြင်း၊ စစ်ရေး၌ လိမ္မာကျွမ်းကျင်ခြင်းဟူသော အင်္ဂါ သုံးပါးနှင့် ပြည့်စုံသော မဟောသဓာ၊ နန္ဒိသေန စသည့် စစ်သူကြီးတို့ကဲ့သို့ စစ်ခံ စစ်ထိုး နှစ်မျိုးတွင် ရဲရင့်ခြင်း၊ ပညာရှိခြင်းနှင့် စစ်ရေး၌ လိမ္မာခြင်းမရှိသည့်ပြင် ဘုန်းကံ၊ ခွန်အား၊ ဥစ္စာနေမရှိ၊ နွမ်းပါးချေသော်၊ သူတစ်ပါးနှင့် ခွန်အား၊ ဥစ္စာ၊ ပညာအရာတို့၌ မည်သည့်အခါမျှ ဖက်ပြိုင်ခြင်း မပြုပါလေနှင့်။

## ၁၃။ မိန်းမစကား နာသော့အားဖြင့်

မိန်းမစကား၊ နာသော့အားဖြင့်၊ မယားအားရ၊ တကြွကြွသား၊ မိဘကိုပင်၊ မောင်းနှင်ဆွဲထုတ်၊ ရိုက်ပုတ်မွေ့ယမ်း၊ နှုတ်သရမ်းဖြင့်၊ ဝေါက်ငမ်းခြိမ်းမဲ၊ ညှဉ်းဆဲသတ်ဖြတ်၊ ပြုတတ်ကြ၏၊ လူနတ်မျိုးကင်း၊ မီးမှာသင်းသို့၊ အဖျင်းစင်စစ်၊ ထိုလူညစ်ကား၊ ဖြစ်ထမလွဲ၊ အပါယ်ထဲ၌၊ ဆင်းရဲတွင်းနက်၊ အမြဲကျက်၏၊ (၃၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ယောက်ျားဆိုသော သတ္တဝါသည် မိန်းမကပြောလျှင် အားရတက်ကြွပြီး ဘာကိုမဆို ပြုဝံ့ကြ၏။ မိဘကိုပင် ကြိမ်းမောင်းနှင်ထုတ် ရိုက်ပုတ်ပြီး နှုတ်သရမ်းကာ ခြိမ်းခြောက်ညှဉ်းဆဲ သတ်ဖြတ်တတ်ကြ၏။ ထိုယောက်ျားမျိုးသည် လူဖျင်းလူညစ်ဖြစ်၍ အပါယ်သို့ ကျရောက်မည်မှာ ဧကန်ဖြစ်၏။

## ၁၄။ လောကစီးပွား တစ်လမ်းသွား

လောကစီးပွား၊ တစ်လမ်းသွားသာ၊ မယားစားဖို့၊ သားစားဖို့ဟု၊ ကိုယ်ဖို့ နောင်ဘေး၊ မတွေးမဆ၊ မိုက်အန္ဓဖြင့်၊ လောဘအလို၊ လိုက်မပိုနှင့်၊ ဤကိုယ်ပျက်ပြား၊ ဘဝလားသော်၊ မယားမပါ၊ သားမပါဘူး၊ ကိုယ့်တာကိုယ်ခံ၊ စာရေးတံသို့၊ ကိုယ့်ကံအလျောက်၊ မြေကြီးအောက်ဝယ်၊ မီးတောက်ဟုန်းဟုန်း၊ ငရဲဖုန်း၌၊ ပြေးပုန်းမရ၊ မိမယ်တ၍၊ (၃၉၃)

## ဆိုလိုရင်း အဓိပ္ပာယ်

အချို့သောယောက်ျားတို့သည် တစ်ဖက်တည်းသာကြည့်ပြီး တစ်လမ်းသွားပြုတတ်ကြကုန်၏။ ကိုယ့်ဖို့၊ နောင်ဖို့ ဘာမှမတွေးဘဲ သားစားဖို့၊ မယားစားဖို့သာ ဦးတည်ပြီး မတရား၊ မမှန်ကန်သောနည်းတို့ဖြင့် စီးပွားရှာကြကုန်၏။ ထိုသူတို့သည် မိမိတို့ပြုသော မကောင်းမှုကံကြောင့် ကိုယ့်အပြစ် ကိုယ်ခံကာ ငရဲသို့ ကျရောက်ကြရကုန်၏။ ထိုအခါ မိမိမယား၊ မိမိသားသမီးများက မိမိ၏အပြစ်ကို ဝိုင်းပြီးမခံကြရဘဲ မိမိတစ်ယောက်တည်းသာ ခါးစည်းပြီး ခံရ၏။

## ၁၅။ ယောက်ျားတစ်ဆူ သက်ကြီးလူ

ယောက်ျားတစ်ဆူ၊ သက်ကြီးလူနှင့်၊ မြတ်သူတို့က၊ ဆုံးမသော်အား၊ ဆဲဆိုငြားလည်း၊ အမှားပြစ်ဆာ၊ မယူရာဘူး၊ ဂုဏ်ဝါနုနယ်၊ သူငယ်မိန်းမ၊ ဣတ္ထိယတို့၊ တင်စရေးဖျား၊ ထိုသူများအား၊ တရားပေါက်လွတ်၊ ဆဲရေရွတ်က၊ ဓမ္မသတ်ကျမ်းလာ၊ ပြစ်ပေးရာ၏။ (၃၉၅)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ ယောက်ျားလည်းတစ်ယောက်၊ အသက်ကြီးသူလည်းတစ်ယောက်၊ မြင့်မြတ်သူလည်းတစ်ယောက်၊ ဤသုံးယောက်က တစ်စုံတစ်ဦးအား ဆုံးမလို၍ ဆဲဆိုသည်ဖြစ်လျှင် အပြစ်ဟူ၍ မယူရာ။ သူတို့သည် ငယ်ရွယ်သူ၊ မသိနားမလည်သူတို့အား ကောင်းစေလိုသော စေတနာ အရင်းခံဖြင့် ပြုကြသောကြောင့် ဖြစ်၏။ အကယ်၍ ဂုဏ်နိမ့်သူ၊ အသက်ငယ်သူ၊ မိန်းမတို့က ဆဲဆိုခဲ့ပါမူ ဓမ္မသတ်ကျမ်းလာအတိုင်း အပြစ်ပေးရာ၏။

# လင်နှင့် မယား

လူ့လောက သဘာဝတရားအရ ယောက်ျားနှင့် မိန်းမတို့သည် အချိန်တန် အရွယ်ရောက်လာသောအခါ အကြင်လင်မယားအဖြစ် ပေါင်းသင်းနေထိုင်ကြ၏။ ထိုအခါ လင်နှင့် မယား၊ ဇနီး ခင်ပွန်းတို့သည် ပေါ်ပေါက်လာရ၏။ ထိုလင်နှင့်မယား၊ ဇနီး ခင်ပွန်းတို့သည် တစ်အိုးတစ်အိမ်တည်း၌ ပေါင်းသင်းနေထိုင်ရင်း သားငယ်၊ သမီးငယ် များကို မွေးဖွားကြရ၏။ မိမိတို့၏ မိဘဆွေမျိုးသားချင်းတို့နှင့် သင့်တင့်လျောက်ပတ်စွာ နေထိုင်ဆက်ဆံကြရ၏။ သားငယ် သမီးငယ်များကို ပြုစုပျိုးထောင်ကြရ၏။ အိမ်ထောင်စု ၏ စားဝတ်နေရေး အဆင်ပြေအောင် လင်တစ်ထမ်း၊ မယ်တစ်ရွက် တတ်အားသည့် ဘက်မှ စိတ်တူ ကိုယ်တူ ကြိုးပမ်းရှာဖွေကြရ၏။ ဤနည်းဖြင့် လူ့လောကကြီးမှ ပေးအပ်လာသည့် ပခုံးပြောင်းတာဝန်များကို ကျေပွန်စွာ ထမ်းဆောင်ကြရ၏။

ဤသို့ဖြစ်လာပြီး မိမိတို့အကျိုး၊ လောကအကျိုးကို သယ်ပိုးဆောင်ရွက်နိုင်ရန် မြတ်ဗုဒ္ဓကလည်း သိင်္ဂါလောဝါဒသုတ်တွင် လင်ကျင့်ဝတ်၊ မယားကျင့်ဝတ်၊ မိဘ ကျင့်ဝတ်၊ သားသမီးကျင့်ဝတ်များကို အတိအလင်း ဖော်ထုတ်ညွှန်ပြထားကြ၏။

ဤညွှန်ပြဟောကြားထားသည်နှင့်အညီ လိုက်နာကျင့်ကြံနိုင်ကြသူ လင်နှင့် မယား တို့သည် ဘဝတွင် ပြည့်ပြည့်စုံစုံ၊ ချမ်းချမ်းသာသာ နေနိုင်ကြသော်လည်း အကျင့် ဖောက်ပြန်၍ အတွင်းစိတ်ထား ညံ့ဖျင်းသော လင်မယားတို့မှာကား ဘဝတစ်ခုလုံး နစ်မြုပ်ကာ ချမ်းသာရာမရ၊ ဆင်းရဲဒုက္ခရောက်ကြရကုန်၏။

မဃဒေဝလင်္ကာသစ်ကြီး၏ ကျမ်းပြုဆရာတော် မန်လည်ဆရာတော်ကြီးသည် လင်မယားဖြစ်သူတိုင်း လင်ကျင့်ဝတ်၊ မယားကျင့်ဝတ်တို့နှင့်အညီ ပေါင်းသင်းဆက်ဆံ၍ မိမိတို့၏အိမ်ထောင် ကြီးပွားတိုးတက်ရေးကို လက်ညီတက်ညီ ဆောင်ရွက်ကြိုးပမ်းစေ

လိုသော မေတ္တာစေတနာနှင့် ထိုလက်ာသစ်ကြီးတွင် ဆောင်ဖွယ်ရှောင်ဖွယ်များကို လမ်းညွှန်ပြသ၊ ဆုံးမထား၏။ ထိုလမ်းညွှန်ဆုံးမထားသည့်အချက်များမှာ လောကီအာရုံကာမဂုဏ်နှင့် အိမ်ထောင်သက်မွေးပြုသူ လင်မယားတိုင်း၊ ယောကျ်ား မိန်းမတိုင်း နားလည်သိရှိထားအပ်သည့် အဖိုးတန်အဆိုအမိန့်များ ဖြစ်ပါ၏။

ထို့ကြောင့် ဤအခန်းတွင် လင်ကောင်းလင်ယုတ်၊ မယားကောင်း၊ မယားယုတ်တို့၏ သဘောနှင့် ရှောင်ဖွယ် ဆောင်ဖွယ် အဆိုအမိန့်များထဲမှ သင့်နိုးရာရာ အချက်အချို့ကို ထုတ်နုတ်တင်ပြလိုက်ရပါ၏။ အကျင့်သိက္ခာရှိ၍ တာဝန်ကျေသော လင်ကောင်းမယားကောင်းများ ဖြစ်နိုင်ကြစေကြောင်း ဆန္ဒပြုလိုက်ရပါ၏။

## ၁။ မိန်းမရတနာ ယုတ်မာယောကျ်ား

သဒ္ဒါပညာ၊ သမ္မာမမျှ၊ ဤလောကဥ္၊ မိန်းမရတနာ၊ ယုတ်မာယောကျ်ား၊ အတူထားလည်း၊ နီးပါးမသိ၊ ရေနှင့်ဆီသို့၊ မညီစိတ်မှာ၊ ဝေးကြစွာ၏၊ (၂၅၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလောကဥ္ လင်မယားဖြစ်ကြကုန်သော မိန်းမနှင့် ယောကျ်ားတို့သည် သဒ္ဓါ၊ ပညာ၊ ဘုန်းသမ္မာချင်း မတူညီကြသည့်အားလျော်စွာ တစ်ခါတစ်ရံတွင် မိန်းမက အဖိုးတန်ရတနာတစ်ပါးဖြစ်ပြီး ယောကျ်ားသည် လူယုတ်မာဖြစ်နေတတ်၏။ ထိုအခါမျိုးတွင် ထိုမိန်းမနှင့် ယောကျ်ားတို့သည် လင်မယားအဖြစ် ပေါင်းသင်းနေထိုင်နေကြသော်လည်း စိတ်သဘောထားချင်း မညီမျှကြဘဲ အနားမျှပင်မသိ၊ ဝေးကွာစွာနေကြရ၏။

## ၂။ သက်ဆုံးအဖျင်း ချမ်းသာကင်း၏

ဓနဥစ္စာ၊ မဲ့တုံပါသော်၊ ဥစ္စာမရှိ၊ ကတိမတည်၊ လူမမည်ဘဲ၊ လူရည်မသွင်၊ ပွဲလယ်ခွင်သို့၊ မဝင်အပ၊ သုံးမကျဘူး၊ မယားကပူ၊ အောင့်အည်းစူလျက်၊ ညဲညှုယောက်ယက်၊ ဆံရှုပ်ရှက်နှင့်၊ ခေါင်းရွက်ဖွေရှာ၊ မူးဝေပြာ၏၊ လင်မှာသော်ကား၊ တလျားလျားသာ၊ သောက်စားပျော်ပါး၊ ယောင်ဝါးဝါးနှင့်၊ စီးပွားကိစ္စ၊ မလုံ့လဘဲ၊ တစ်ဘဝလုံး၊ သက်ဆုံးအဖျင်း၊ ချမ်းသာကင်း၏၊ (၂၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လင်မယားအဖြစ် နေထိုင်ကြသောအခါ ဓနဥစ္စာမရှိလျှင် လူရာမဝင် အသုံးမကျဖြစ်ရ၏။ ထိုအိမ်ထောင်မျိုးတွင် မယားဖြစ်သူက လင်ကို ပူလိုက်ဆူလိုက်လုပ်ပြီး စားဝတ်နေရေးအတွက် ပင်ပန်းစွာ ရှာဖွေရ၏။ လင်ယောကျ်ားဖြစ်သူကမူ စီးပွားရေးကိစ္စ၌ လုံးပမ်းရှာဖွေခြင်းမပြုဘဲ သောက်စားပျော်ပါးလျက်နေ၏။ ထိုသို့သော အိမ်ထောင်မျိုးကား ဘဝတစ်လျှောက်လုံး ဆင်းရဲမွဲတေကာ ချမ်းသာမှုကို မရနိုင်ကြချေ။

## ၃။ ရွှင်ပျပြုံးပြုံး ရတိုင်းသုံး

ယောက်ျားတို့က၊ လုပ်ကြကုန်းကုန်း၊ နွားတူနွန်းစေ၊ ဖြုန်းအားမရ၊ မိန်းမကလျှင်၊ ရွှင်ပျပြုံးပြုံး၊ ရတိုင်းသုံး၏၊ (၂၈၃)

## ဆိုလိုရင်း အဓိပ္ပာယ်

အချို့သော လင်မယားဖြစ်သူများမှာ ယောက်ျားလုပ်သူက နွားပမာ တကုန်းကုန်းနှင့် စီးပွားကို ရှာဖွေသော်လည်း မယားလုပ်သူက စီးပွားရေး၌ ဝိုင်းဝန်းကူညီခြင်း မရှိသည်သာမက လင်ရှာဖွေ၍ရလာသော ဥစ္စာကို သုံးချင်တိုင်းသုံး၊ ဖြုန်းချင်တိုင်းဖြုန်းပြီး ရွှင်တပြုံးပြုံးနှင့် တာဝန်မဲ့နေတတ်၏။

## ၄။ မြဲစွာဝမ်းတွင်း နှလုံးသွင်းလော့

ပြုခြင်းအလို၊ အကုသိုလ်နှင့်၊ ကုသိုလ်နှစ်ပါး၊ ကံတရားကား၊ မယားပြုရာ၊ စိတ်မပါလျှင်၊ လင်မှာမရ၊ လင်ပြုကလည်း၊ မိန်းမအိမ်သူ၊ စိတ်မတူသော်၊ မှတ်ယူမှန်စွာ၊ မရရာဘူး၊ သူဇာမာဃ၊ အသယတို့၊ ရှေးကဝတ္ထု၊ နှိုင်းယှဉ်ရှု၍၊ အကုသလ၊ ကုသလ၏၊ ကမ္မသကာ၊ လက္ခဏာကို၊ မြဲစွာဝမ်းတွင်း၊ နှလုံးသွင်းလော့၊ (၂၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လင်မယားနှစ်ဦးအနက် အကုသိုလ်၊ ကုသိုလ်ကံနှစ်ပါးကို မယားက ပြုသော်လည်း လင်ဖြစ်သူက စိတ်မပါလျှင် လင်သည် ထိုကံကို မရချေ။ အကယ်၍ လင်က ပြုသော်လည်း မယားက အလိုမတူ စိတ်မပါလျှင် မယားသည် ထိုကံကို မရချေ။ ရှေးကရှိခဲ့သော သိကြားမင်းနှင့် သူဇာမိဖုရားတို့၏အဖြစ်ကို နှိုင်းယှဉ်ကြည့်ပါက ကုသိုလ်၊ အကုသိုလ်ဟူသည် ပြုသူသာ ခံရမြဲဖြစ်၍ လင်မယားနှစ်ဦးစလုံးသည် ကံသဘောကို မြဲမြဲစွာ နှလုံးသွင်း မှတ်သားထားပါလော့။

## ၅။ အလိုမဖြည့် မပြည့်ဆန္ဒ ရှိတုံကလျှင်

လင်မွဲလင်နာ၊ လင်သူရာကြိုက်၊ လင်မိုက်လင်ဖျင်း၊ လင်ပျင်းလင်အို၊ အလိုမဖြည့်၊ မပြည့်ဆန္ဒ၊ ရှိတုံကလျှင်၊ မိန်းမဟူသည်၊ ဤရှစ်မည်ကြောင့်၊ မကြည်မသာ၊ ပြုတတ်စွာရှင့်၊ (၂၈၅)

## ဆိုလိုရင်း အဓိပ္ပာယ်

လင်မွဲ၊ လင်နာ၊ လင်သူရာကြိုက်၊ လင်မိုက်၊ လင်ဖျင်း၊ လင်ပျင်း၊ လင်အိုဟူသော လင် (၈)မျိုးနှင့် ပေါင်းသင်းရသော မိန်းမတို့သည် မိမိတို့၏ အလိုဆန္ဒကို ပြည့်ဝအောင် မဖြည့်ပေးနိုင်သောကြောင့် လင်အပေါ်၌ မကြည်မသာ ပြုတတ်ကြကုန်၏။

## ၆။ မရှိမခင် ရှိသခင်တည့်

ယောကျ်ားတို့မှာ၊ ဥစ္စာတစိ၊ မရှိမခင်၊ ရှိသခင်တည့်၊ လူ့ခွင်ဌာန၊ လူ့လောကဌ်၊ ကာမဘောဂီ၊ လောကီဘုံသား၊ လင်ယောကျ်ားတို့၊ မယားဟူဘိ၊ ထိုဣတ္ထိနှင့်၊ မရှိမကောင်း၊ ရှိမကောင်းဘဲ၊ မပေါင်းလည်းခက်၊ ပေါင်းလည်းခက်၏၊ (၂၉၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမတို့သည် လင်ယောကျ်ား၌ ဥစ္စာပစ္စည်းမရှိလျှင် မချစ်ခင်ကြချေ။ ဥစ္စာပစ္စည်းရှိပါက သခင်ကဲ့သို့ လေးစားချစ်ခင်ကြ၏။ ထို့ကြောင့် လောကီဘုံသား ယောကျ်ားတို့အထွက် မိန်းမဟူသည် မရှိလည်းမကောင်း၊ ရှိလည်းမကောင်း၊ မပေါင်းလည်းခက်၊ ပေါင်းလည်းခက်သော သတ္တဝါမျိုးဖြစ်၏။

## ၇။ မယားဆိုးနှင့် ကျွန်ဆိုးဟူဘိ

ကျမ်းလာအရှိ၊ နီတိဆိုရိုး၊ မယားဆိုးနှင့်၊ ကျွန်ဆိုးဟူဘိ၊ မြွေရှိအရပ်၊ ယှဉ်စပ်နေသူ၊ သေပြီးလူဟု၊ စိတ်ယူစွဲကာ၊ ကေန္တဖြင့်၊ မုချမြဲမြဲ၊ နသံသယတ်၊ မချွတ်မှတ်တည့်၊ (၂၉၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လောက၌ မယားဆိုးနှင့်နေရသူ၊ ကျွန်ဆိုးနှင့်နေရသူတို့သည် အဆိပ်ပြင်းသော မြွေရှိရာအရပ်၌ နေရသူ၊ သေပြီးသားလူနှင့် မချွတ်ကေန်တူလှကြောင်း နီတိကျမ်းများက ဆိုထားကြ၏။

## ၈။ စောင့်ပါပိုင်ပိုင် မလုံနိုင်တည့်

ဤလောက၌၊ မိန်းမတို့ကို၊ ထိုထိုတစ်ပါး၊ မဆံငြားအောင်၊ ယောကျ်ားတကာ၊ စောင့်ပါနိုင်နိုင်၊ မလုံနိုင်တည့်၊ လက်ကိုင်သမာ၊ မရှိပါက၊ တွေ့ရာကိုယ်ချင်း၊ ဖောက်ကြယွင်းခဲ့၊ (၂၉၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလောက၌ ယောကျ်ားတို့သည် မိန်းမတို့ကို ထိုထိုသော ယောကျ်ားတို့နှင့် မဆက်ဆံ မဖောက်ပြန်နိုင်အောင် မည်သို့ပင် စောင့်ရှောက် ထိန်းသိမ်းကြစေကာမူ မလုံနိုင်ချေ။ ကိုယ်ကျင့်တရားကို မထိန်းသိမ်းနိုင်သူ မိန်းမတို့သည် တွေ့ကြုံရာ ယောကျ်ားတို့နှင့် ဖောက်ပြန်မှားယွင်းတတ်ကြကုန်၏။

## ၉။ သန်လျက်ရိုးထား ကမ်းလိုက်ငြား၍

ထင်ရှားရှေးဟို၊ တက္ကသိုလ်က၊ ဆရာ့သမီး၊ ခိုးသူကြီးကို၊ အနီးခဏ၊ မြင်ကာမျှဖြင့်၊ လောဘတပ်လျက်၊ ခိုးမှူးလက်၌၊ သန်လျက်ရိုးထား၊ ကမ်းလိုက်ငြား၍၊ ယောကျ်ား

ဇာနည်၊ လက်ရုံးရည်နှင့်၊ ဆွေသည်သက်စု၊ ခံမတုအောင်၊ မနေသိပ္ပ၊ တတ်ခေါင်လှသား၊ မွေးဘဆောက်နှင်း၊ လင်ရင်းကိုသတ်၊ သေစေလတ်၏၊ (၂၉၉)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအခါက တက္ကသိုလ်ပြည် ဒိသာပါမောက္ခဆရာကြီး၏ သမီးသည် မိမိ၌ မိဘပေးစားထားသော လင်ယောက်ျားရှိပါလျက် ခိုးသူကြီးကို အနီးကပ်မြင်လိုက်သည့် ခဏ၌ ခိုးသူကြီးအား စွဲလမ်းချစ်ခင်သွား၏။ ထိုတပ်မက်သောစိတ်ကြောင့် ခိုးသူ၏လက်သို့ သံလျက်ရိုးကိုပေးကာ မိမိလင်ရင်း လေးအတတ်၌ တစ်ဖက်ကမ်းခတ်အောင်တတ်သူ ယောက်ျားအာဇာနည်အား သေအောင်သတ်ခိုင်း၏။

## ၁၀။ ကျွမ်းမဝင်မီ ခင်မင်မရဲ

ဇာတိမွေ၊ ဘာဝတရား၊ မိန်းမများက၊ ယောက်ျားတို့ကို၊ အလိုသွေးရာ၊ မပါသေးခင်၊ ကျွမ်းမဝင်မီ၊ ခင်မင်မရဲ၊ ဘထက်ကဲအောင်၊ ဖက်လှဲတကင်း၊ ပြုတတ်လျှင်း၏၊ လက်တွင်းပါငြား၊ လင်ယောက်ျားအား၊ နွားနှင့်တရှိ၊ ထင်မှတ်ဘိ၏၊ (၃၀၀)

## ဆိုလိုရင်း အဓိပ္ပာယ်

မိန်းမတို့သည် သဘာဝအားဖြင့် ယောက်ျားတစ်ယောက်ကို အလိုရှိရာ သွေးဆောင်နိုင်ခြင်းမရှိခင်မှာ ယောက်ျားတို့ကို အဖထက်ကဲအောင် အလိုလိုက် အကြိုက်ဆောင်တတ်ကြ၏။ အကယ်၍ မိမိလက်တွင်းပါ၍ လင်ယောက်ျားအဖြစ်သို့ ရောက်ရှိသွားသောအခါတွင် နွားကဲ့သို့ သဘောထားပြီး ခိုင်းချင်ရာ ခိုင်းတတ်ကြ၏။

## ၁၁။ ဆံထုံးပန်းဝေ မချချေ

နေ့ညမခြား၊ လင်ယောက်ျားတို့၊ ကြိုးစားဥစ္စာ၊ စီးပွားရှာလျှတ်၊ ရေမှာနစ်နစ်၊ မြစ်မှာမွန်းမွန်း၊ တစ်ကျွန်း၌သေ၊ စစ်မြေ၌ရှုံး၊ အသက်ဆုံးလည်း၊ ဆံထုံးပန်းဝေ၊ မချချေရှင့်၊ (၃၀၄)

## ဆိုလိုရင်း အဓိပ္ပာယ်

အချို့သော မိန်းမတို့သည် လင်ယောက်ျားဖြစ်သူက ဥစ္စာစီးပွားကို ကြိုးစားရှာဖွေကာ လင့်ဝတ္တရားကျေပွန်စွာ လုပ်ကိုင်ဆောင်ရွက်ပေးနေသော်လည်း ထိုယောက်ျားအပေါ် တန်ဖိုးထား ဂရုစိုက်ခြင်း မရှိကြချေ။ ထိုလင်တို့သည် စီးပွားရှာရင်း ရေမှာပဲနစ်နစ်၊ တစ်ကျွန်းတစ်နေရာ၌ပဲသေသေ၊ စစ်မြေပြင်မှာပင် အသက်ဆုံးဆုံး သူတို့မှာမူ ဘာမျှမဖြစ်သလို ဆံထုံးတွင် ပန်းတဝေဝေနှင့် မှုဟန်မပျက် နေနိုင်ကြ၏။

# ၂၄။ ကျေးဇူးတရား

လူ့လောက၌ တစ်ဦးအပေါ် တစ်ဦးပြုခဲ့ကြသော ကျေးဇူးတရားဟူသည် ရှိကြစမြဲဖြစ်၏။ သို့သော် ထိုသို့ မိမိအပေါ် ပြုဖူးသော သူတစ်ပါး၏ ကျေးဇူးကို သိသူကား ရှားလှ၏။ ရှေးသူတော်ကောင်းကြီးများက "သူတစ်ပါးကျေးဇူးကို သိနိုင်ရန် ခဲယဉ်း၏။ ထိုသို့ သိသည့်အတိုင်း သူ့ကျေးဇူးကို ပေးဆပ်ရန် ဆန္ဒဖြစ်ပေါ်လာခြင်းသည် ပို၍ခဲယဉ်း၏။ သူ့ကျေးဇူးကို မိမိကိုယ်တိုင် ပေးဆပ်နိုင်ခြင်းသည် အခဲယဉ်းဆုံးဖြစ်၏"ဟု ဆိုခဲ့ကြ၏။

ပညာဉာဏ်ရှိ၍ အကျင့်သီလရှိသူ သူတော်ကောင်းတို့သည် သူ့ကျေးဇူးကို သိကြ၏။ သိသည့်အတိုင်း တတ်အားသမျှ ပေးဆပ်ကြ၏။ မိဘဆရာတို့အား အနန္တကျေးဇူးရှင်ကြီးများအဖြစ် တလေးတစား မှတ်ယူကာ ပြုစုလုပ်ကျွေးကြ၏။

သို့သော် ပညာဉာဏ်မဲ့သော သူတော်မဟုတ်၊ သူယုတ်တို့ကား ကျေးဇူးတရားကို မသိ။ ကျေးဇူးတရား၏ ဂုဏ်ကို နားမလည်၊ ကျေးဇူးဆပ်ရန်ကား ဝေလာဝေး။ ကျေးဇူးမတင်တတ်ရုံသာမက အပြစ်ပင် ပြန်ပြုတတ်ကြ၏။

သာမန်ပုဂ္ဂိုလ်များကို မဆိုထားနှင့်။ ရတနာသုံးပါးနှင့် မိဘဆရာတို့ကိုပင် ပြစ်မှားကြ၏။ ကာယကံ၊ ဝစီကံတို့ဖြင့် ကျူးလွန်ကြ၏။ ထို့ကြောင့် ထိုလူမိုက် ပညာမဲ့တို့သည် ဤလောက၌ ဆင်းရဲဒုက္ခရောက်ကြရ၏။ သေပြီးနောက် တမလွန်ဘဝ၌ကား အပါယ်ငရဲကို ကျရောက်ကြရ၏။

ဤသဘော ဤအဖြစ်များကို ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် သူ၏ မဃဒေဝလင်္ကာသစ်ကြီးတွင် သက်သေသာဓကများစွာဖြင့် ဖော်ပြ ဖွင့်ဆိုထား၏။ မိဘဆရာတို့၏ ကျေးဇူး၊ သာမန်မိတ်ဆွေအပေါင်းအသင်းတို့၏ ကျေးဇူး၊ သစ်ပင်တို့၏

ကျေးဇူး၊ သိလရှိသော အဟိတ်တိရစ္ဆာန်တို့၏ ကျေးဇူးတရားများကို ပြန်လည်တုံ့ပြန်ပေးဆပ်ရန် ဆုံးမလမ်းညွှန်ခဲ့၏။

ထိုထိုသော ကျေးဇူးတရားဆိုင်ရာ လမ်းညွှန်ချက်များအနက် သိမှတ်ကျင့်သုံးဖွယ် အဆိုအမိန့်အချို့ကို ဤအပိုင်းတွင် ကောက်နုတ်ဖော်ပြထားပေရာ ဖတ်ရှုလေ့လာသူများ အဖို့ အကျိုးများ အသုံးဝင်မည်ဟု မျှော်လင့်ယုံကြည်မိပါသည်။

## ၁။ ကျေးဇူးမချေရစ်စေနှင့်

မေတ္တာအထူး၊ ကိုယ့်ကျေးဇူးကို၊ ရှင်မြူးမသွေ့၊ ဆောင်ပေကုန်ငြား၊ သူတို့အားလျှင်၊ ပုဏ္ဏားချောက်ကျ၊ ဟိဟရိုးငြိ၊ မိုးခေါင်ထိနှင့်၊ မိန်းမိကျားသွင်၊ ကျေးဇူးရှင်ကို၊ မတင်ကျေးဇူး၊ ထိမ်မြူသောအား၊ ပြန်ပြစ်မှား၍၊ ပျားစားလက်ဆေး၊ ရေရုပ်ရေးသို့၊ ကျေးဇူးမချေရစ်စေနှင့်။ (၁၉၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မေတ္တာထား၍ မိမိ၏အကျိုးကို ဆောင်ကုန်သောသူတို့အပေါ်၌ ကျေးဇူးတုံ့ပြန်ရာ၏။ ချောက်ထဲကျသော ပုဏ္ဏား၊ ခံတွင်းတွင် အရိုးငြိသောခြင်္သေ့၊ မိန်းမိသောကျားတို့ကဲ့သို့ မိမိတို့အား အသက်ကယ်ပေးသော ကျေးဇူးရှင်များအပေါ် ပြန်ပြီး မပြစ်မှားလေနှင့်။ မိမိအပေါ် တင်ပေဖူးသော ကျေးဇူးတရားကို ပျားရည်ကိုတို့ပြီး စားသောလက်ကို ဆေးလိုက်သကဲ့သို့ ရေတွင် အရုပ်ရေးသူကဲ့သို့ အရာမထင်၊ သူ့ကျေးဇူးကိုမမြင်၊ အလွယ်တကူ မချေဖျက်လိုက်ပါနှင့်။

## ၂။ ကတညုတ ကတဝေဒီ

ဤလူ့ဘဝ၊ လူ့လောကဌ်၊ ဥာဏသမ္ဘဇဉ်၊ ကင်းမယှဉ်ဘဲ၊ ကတညုတ၊ ကတဝေဒိ၊ မသိတတ်သူ၊ ဗာလဟူ၏၊ ခွေးတူမထူး၊ ကျေးဇူးကျိုးရှိ၊ ဂုဏ်သတ္တိကို၊ မသိတတ်ကြ၊ မိုက်ခေါင်လှသား၊ မိတ္တဒုဗ္ဘ၊ ဗာလဟူသည်၊ လူမသမ္မာ၊ ထိုများစွာတို့၊ ချမ်းသာစီးပွား၊ မတည်ကြားတည့်၊ (၁၉၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလောကတွင် ဉာဏ်မရှိဘဲ သူ့ကျေးဇူးကို မသိတတ်သူသည် လူမိုက်ဖြစ်၏။ ကျေးဇူးတရား၏ ဂုဏ်သတ္တိသဘောကို နားမလည် မသိရှိသည့် လူမိုက်များစွာတို့ကား ကြီးပွားချမ်းသာသော်လည်း ထိုစီးပွားဥစ္စာသည် မတည်မြဲချေ။

## ၃။ မာတာပိတ မိဘဆရာ

မာတာပိတ၊ မိဘဆရာ၊ ရတနာသုံးပါး၊ သူမြတ်များအား၊ တရားမဲ့စွာ၊ ရုံတစ်ခါမျှ၊ နှုတ်လျှာရမ်းကား၊ မပြစ်မှားနှင့်၊ တံခါးလက်ပုတ်၊ ဆင်မြီးနုတ်သို့၊ အဟုတ်မမှား၊ နှုတ်ရမ်းကားနှင့်၊ သုံးပါးရတနာ၊ ဆရာမိဘ၊ ဘိုးဘွားစသား၊ ဝယဝုဒ္ဓ၊ ဂုဏကြီးမား၊

ထိုသူများ၌၊ ပြစ်မှားမိခါ၊ နည်းမျှသာလျက်၊ အရာမသည်း၊ အပြစ်ပည်း၏၊ (၁၉၈)

## ဆိုလိုရင်း အဓိပ္ပာယ်

မိဘဆရာ၊ ရတနာသုံးပါးတို့အား နှုတ်လျှာရမ်းကားပြီး ပြစ်မှားခြင်းမပြုပါနှင့်။ ဤသို့ပြစ်မှားမိပါက အနည်းငယ်မျှသာ ဖြစ်သော်လည်း ကြီးစွာသော အပြစ်ကို ရနိုင်၏။ အပြစ်များလှ၏။

## ၄။ ကျေးဇူးဂုဏ်စိုင် မကုန်နိုင်

လူ့ဘုံဌာန၊ ဤလောက၌၊ ဘကိုလက်ျာ၊ မိမှာလက်ဝဲ၊ အမြဲဆောင်ရွက်၊ ပခုံးထက်သို့၊ တင်လျက်လုပ်ကျွေး၊ မပြတ်မွေးလည်း၊ ကျေးဇူးဂုဏ်စိုင်၊ မကုန်နိုင်ဘူး၊ (၂၄၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလောက လူ့ဘုံတွင် အဘကိုလက်ျာပခုံး၊ အမိကို လက်ဝဲပခုံးပေါ်တင်၍ နေ့ညမပြတ် လုပ်ကျွေးပြုစုသော်လည်း သားသမီးတို့သည် မိဘနှစ်ပါးအပေါ် တင်ရှိသော ကျေးဇူးဂုဏ်သည်ကား မည်သည့်နည်းနှင့် ကျေအောင် မဆပ်နိုင်ရာ။ မိဘတို့၏ ကျေးဇူးကား ဆပ်၍မကုန်နိုင်အောင် ကြီးမားလှ၏။

## ၅။ မိဘကိုလျက် ကျေးဇူးဖျက်၍

ပညာမယှဉ်၊ အကတညုတ၊ လူ့ပါပိယ၊ ဟူသမျှကား၊ မိဘကိုလျက်၊ ကျေးဇူးဖျက်၍၊ အပျက်ကိုသာ၊ ပြုတတ်စွာခဲ့၊ (၂၅၅)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာလည်းမရှိ၊ သူ့ကျေးဇူးကိုလည်း နားမလည်သော လူယုတ်မာတို့သည် ကိုယ့်ကိုမွေးသော မိဘကိုပင် ကျေးဇူးဖျက်ကြ၍ မိဘများ ကိုယ်ဆင်းရဲ စိတ်ဆင်းရဲဖွယ်ရာများကို အစဉ်ပြုတတ်ကြကုန်၏။

## ၆။ သူ့ကျေးဇူးကို တုံ့ပြန်ဆပ်

ကိုယ်မှာပြုဖူး၊ သူ့ကျေးဇူးကို၊ ထိမ်မြူးမအပ်၊ တုံ့ပြန်ဆပ်၍၊ တွက်နပ်ကောင်းပေ၊ ပစ်မချေနှင့်၊ (၂၅၅)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိအပေါ် ပြုဖူးသော ကျေးဇူးတရားကို ဘယ်သောအခါမှ ချေဖျက်ခြင်း မပြုဘဲ တုံ့ပြန်ပေးဆပ်အပ်၏။

## ၇။ စည်းစိမ်ပျက်၍ အသက်မရှည်

လူ့ရွာလူသား၊ လူဖြစ်ငြားလျက်၊ တရားကင်းစင်၊ သူပြုအင်ကို၊ မတင်အထူး၊ ကျေးဇူးမဲ့စွာ၊ ယူမိစ္ဆာနှင့်၊ သစ္စာမရှိ၊ ကတိမတည်၊ လူဟူသည်ကား၊ သွေ့ဖိယွင်းကွက်၊ စည်းစိမ်ပျက်၍၊ အသက်မရှည်။ (၂၅၅)

### ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကဌ် လူဖြစ်လာသော်လည်း သူတစ်ထူးပြုဖူးသော ကျေးဇူးကို တရားမရှိ၊ ကျေးဇူးမဲ့စွာ ပြုတတ်ကြ၏။ အယူဝါဒလွဲ မှားပြီး သစ္စာကတိမတည်သောလူတို့သည် အသက်ရှည်စွာ မနေရဘဲ ရှိပြီးစည်းစိမ်ဥစ္စာတို့သည် ပျက်စီးတတ်ကုန်၏။

## ၈။ ကျေးဇူးသိမှု ကတညျူတည့်

မေတ္တာရှေးဦး၊ ပြုပေဖူးကို၊ ကျေးဇူးသိမှု၊ ကတညျူတည့်၊ ထိုသူထက်ပင်၊ ကျေးဇူး အင်ကို၊ ထင်ထင်ချွတ်ချွတ်၊ ပြောဆိုတတ်က၊ သူမြတ်မှန်လှ၊ ကတဝေဒီ၊ ဟူတံ့ပြီရှင့်၊ လောကီလူစု၊ မြင်ဉာဏ်နတို့၊ သူပြုအထူး၊ သူ့ကျေးဇူးကို၊ ကြည်နူးဝမ်းမြောက်၊ မခေါက် မရက်၊ နှစ်သက်အင်ရွဲ၊ သိတတ်ခဲ၏၊ (၂၅၅)

### ဆိုလိုရင်း အဓိပ္ပာယ်

မေတ္တာနှင့် သူတစ်ပါး မိမိအပေါ် ပြုဖူးသော ကျေးဇူးကို သိတတ်ပါမူ ထိုသူသည် သူ့ကျေးဇူး သိတတ်သူမည်၏။ အကယ်၍ ထိုသူသည် သိရုံမျှသာမဟုတ်။ သူ့ကျေးဇူးကို ဖော်ထုတ်ပြောဆိုတတ်ပါက ထိုသူသည် ကတဝေဒီဟူသော သူမြတ်ပင် ဖြစ်၏။ သို့သော် လူ့လောကဌ် လူအများစုသည် သူ့ကျေးဇူးကို ကြည်နူးဝမ်းမြောက်စွာဖြင့် သိနိုင်ရန် ခဲယဉ်းလှ၏။

## ၉။ မိတ္တဒုဗ္ဘော် ပျက်ခေါင်ကျော်

သဝိညာဏက၊ မဟုတ်စွသေး၊ ရက္ခဆာယာ၊ သစ်ရိပ်သာဌ်၊ ရံခါတခိုက်၊ ကြုံကြိုက်နေနား၊ ခိုမိငြားက၊ ပြစ်မှားလိုလျက်၊ တရားဖျက်၍၊ အခက်ကိုမျှ၊ မချိုးရဘူး၊ ချိုးကဗာလ၊ မိတ္တဒုဗ္ဘော်၊ ပျက်ခေါင်ကျော်သည့်၊ မတော်စရိုက်၊ လူငမိုက်တည့်။ (၂၅၆)

### ဆိုလိုရင်း အဓိပ္ပာယ်

သက်ရှိလူပင် မဟုတ်သေး၊ သက်မဲ့ဖြစ်သော သစ်ပင်၏ အရိပ်တွင် ခေတ္တခဏ ကြုံကြိုက်၍ နေနားခိုမိပါက ထိုသစ်ပင်သည် မိမိ၏ကျေးဇူးရှင်ဖြစ်သဖြင့် ထိုသစ်ပင်၏ အခက်ကို ပြစ်မှားလိုစိတ်ဖြင့် မချိုးဖျက်သင့်ချေ။ ချိုးဖျက်ခဲ့ပါက ထိုသူသည် ခင်ပွန်း ပြစ်မှားသူ လူမိုက်တစ်ယောက် ဖြစ်၏။

## ၁၀။ ယခုဘဝ ဤဒိဋ္ဌပင်

အပြစ်မဲ့ဘိ၊ သီလရှိသား၊ တိရစ္ဆာန်၊ အဟိတ်မျှလည်း၊ ဒေါသအမူ၊ ပြစ်မှား ပြုက၊ ယခုဘဝ၊ ဤဒိဋ္ဌပင်၊ ဒုက္ခပြစ်ဆိုး၊ မကောင်းကျိုးဖြင့်၊ မိုးကြိုးလောင်မီး၊ ကျပျက်စီး ရှင့်၊ သေပြီးအမြဲ၊ နောင်မလွဲလျှင်၊ ငရဲသို့သာ၊ သွားတို့ရာ၏၊ (၂၅၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူကိုမဆိုထားနှင့်။ အပြစ်မရှိ သီလမြဲသော အဟိတ်တိရစ္ဆာန်ကိုပင် ဒေါသ ရှေ့ထား၍ မပြစ်မှားရာ။ ပြစ်မှားမိပါက ယခုမျက်မှောက်ဘဝ၌ပင်လျှင် မိုးကြိုးလောင်မီး ကျခြင်းဟူသော မကောင်းကျိုး၊ အပြစ်ဆိုးများနှင့် ကြုံတွေ့ကြရ၏။ သေလွန်သွားသော အခါ၌လည်း ငရဲသို့သာ သွားကြရကုန်၏။

## ၁၁။ မိဘကိုပင် ဥစ္စာမြင်မှ ခင်မင်မြတ်လေး

ဤလောက၌၊ မိဘကိုပင်၊ ဥစ္စာမြင်မှ၊ ခင်မင်မြတ်လေး၊ သားတို့မွေး၏၊ ပဲခွေးမရှိ၊ ဘမိတို့အား၊ သမီးသားလည်း၊ ထံပါးနီးရပ်၊ မကပ်လိုလျှင်၊ ရှောင်ကြကွင်း၏၊ (၂၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလောက၌ သားသမီးတို့သည် မိဘတို့အား ကျေးဇူးဆပ်ရန် တာဝန်ရှိကြ သော်လည်း သားသမီးတို့က မိဘထံ၌ ဥစ္စာပစ္စည်းရှိမှသာ လုပ်ကျွေးကြ၏။ တစ်မူးတစ်ပဲ မျှမရှိသော မိဘတို့ကိုကား အနားသို့ပင်မကပ်ကြဘဲ အများအားဖြင့် ရှောင်သွားတတ် ကြကုန်၏။

# ၂၅။ စကား

မြန်မာမှုတွင် "စကား စကား ပြောပါများ၊ စကားထဲက ဇာတိပြ၊ တရား တရား ဟောပါများ၊ တရားထဲက ပါဠိရ"ဆိုသော စကားတစ်ခွန်းရှိ၏။ စကားကို အရမ်းကာရော စိတ်က ထင်တိုင်း မပြောသင့်ကြဘဲ စဉ်းစဉ်းစားစား၊ ဆင်ဆင်ခြင်ခြင် ပြောဆိုသင့်ကြကြောင်း လမ်းညွှန်ထားသော စကားကောင်းတစ်ခုပင် ဖြစ်၏။

လူ့လောကတွင် လူသားတစ်ယောက်အဖြစ် အသက်ရှင်နေထိုင်ရသူတိုင်းသည် အဓိက ပေါင်းသင်းဆက်ဆံရေး လက်နက်အဖြစ် စကားကို နေ့စဉ်နှင့်အမျှ ပြောဆိုနေကြရ၏။ ထိုစကားများကို ပြောရင်း အချို့မှာ လူချစ်လူခင်ပေါပြီး လိုရာဆန္ဒတစ်လုံး တစ်ဝတည်းနှင့် ပြည့်စုံကာ ချမ်းသာစွာ နေရ၏။ အချို့မှာကား ဤသို့မဟုတ်ကြ။ လူအများ၏ မုန်းတီးခြင်းကို ခံရပြီး ဘဝ၏ တိုးတက်ကြီးပွားမှုများနှင့် ကင်းဝေးကာ စိတ်နှလုံးမချမ်းသာ ဆင်းရဲစွာ နေကြရ၏။

ထို့ကြောင့် နှုတ်ထွက်စကားသည် လူတစ်ဦးတစ်ယောက်၏ ဘဝအတွက် လွန်စွာ အရေးပါလှသော အရာတစ်ခုဖြစ်သည်ကို သတိပြုကြရမည်ဖြစ်၏။

နှုတ်ထွက်စကားကြောင့် ဘဝတစ်ခု ပျက်စီးသွားနိုင်သည်အထိ ဆိုးကျိုးကို ပေးနိုင်ကြောင်းကို ကောင်းစွာသိရှိတော်မူသော မြတ်ဗုဒ္ဓကပင်လျှင် သမ္မဝါစာဟူသော မဂ္ဂင်တွင် "မုသာဝါဒစကား၊ ပိသုဏာဝါစာစကား၊ ဖရုသဝါစာစကား၊ သမ္ဖပ္ပလာပဝါစာ စကားလေးမျိုးကို ရှောင်ကြဉ်အပ်ကြောင်း" ထည့်သွင်းထား၏။

ထို့ကြောင့် ကောင်းသော စကားကို ဆိုခြင်းသည် ကောင်းကျိုးကို ရစေ၍ မကောင်းသောစကားကိုဆိုခြင်းသည် မကောင်းကျိုးကို ရစေကြောင်း လေးနက်စွာ ခံယူထားကြရန် လိုပါ၏။

**ပဏ္ဍာမြိုးမောက်စာပေ**

သို့ဆိုလျှင် မည်သည့်စကားမျိုးသည် စကားကောင်း၊ မည်သည့်စကားမျိုးသည် စကားဆိုး စကားညံ့များ ဖြစ်ပါသနည်း။ စကားကိုအကျိုးရှိအောင် မည်သို့ပြောဆိုရမည်နည်း။ မည်သို့သော စကားမျိုးကို ရှောင်ကြဉ်ရမည်နည်း။ စကားနှင့်မကင်းကြသော လူတိုင်းသည် သိရှိနားလည်သင့်ကြ၏။

မေတ္တာ ကရုဏာတရား ကြီးမားလှသော ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် စကားပြောဆိုရာ၌ ဆောင်ဖွယ် ရှောင်ဖွယ်များကို ထုံးဟောင်း သာဓက၊ ဓာတ်နိပါတ်လာ အဆိုအမိန့်များနှင့်အတူ သူ၏မဃဒေဝလင်္ကာသစ်ကြီးတွင် ထည့်သွင်းဖော်ပြထား၏။ ထိုထိုသောအဆိုအမိန့်များကို ဖတ်ရှုလေ့လာကာ ကိုယ်တိုင်လိုက်နာကျင့်သုံးနိုင်ကြပါလျှင် သမ္မာဝါစာခေါ် ကောင်းသောစကားကို ဆိုခြင်းဖြင့် ကောင်းကျိုးချမ်းသာ အဖြာဖြာကို ရရှိခံစားနိုင်ကြမည်ဟု ယုံကြည်ပါ၏။

ဤယုံကြည်ချက်နှင့်အညီ ဆရာတော်ကြီး၏ အဆိုအမိန့်များစွာထဲမှ "စကား" ဆိုင်ရာ အဆိုအမိန့်အချို့ကို လေ့လာသိရှိနိုင်ရန် ဤအခန်းတွင် ထည့်သွင်း ဖော်ပြလိုက်ရပါ၏။

## ၁။ ချိုစေသူ့နား ချဉ်မခါးအောင်

ချိုစေသူ့နား၊ ချဉ်မခါးအောင်၊ စကားကျစ်လျစ်၊ အဆစ်ဆစ်၌၊ မထစ်မထုန်၊ မအုန်မထိုင်း၊ မရိုင်းမဆတ်၊ ရှဲခတ်ကိုက်စား၊ သစ်ပျဉ်ပြားနှယ်၊ ပြတ်သားသိမ်မွေ့၊ ချောမွေ့ပြေပြစ်၊ မာန်မယစ်ဘဲ၊ မြစ်မြစ်ခြေခြေ၊ လူဗိုလ်ခြေအား၊ သံခြေနှုတ်ညင်း၊ ရွှေစောင်းညှင်းသို့၊ မပြင်းမပျ၊ သာချမ်းမြလျက်၊ ပျပျရွှင်ပျော၊ ဆိုမိန့်ပြောလော့၊ (၂၁၁)

## ဆိုလိုရင်း အဓိပ္ပာယ်

စကားပြောသည့်အခါ တစ်ဖက်လူ၏ နားတွင် ချိုစေပြီး ကျစ်ကျစ်လျစ်လျစ်၊ ယဉ်ယဉ်ကျေးကျေး၊ ပြေပြေပြစ်ပြစ်၊ ခြေခြေငံငံ ပြောပါလော့။ မာန်မာနဖြင့် ရိုင်းရိုင်းစိုင်းစိုင်း၊ မောက်မောက်မာမာ မပြောပါနှင့်။ စောင်းကြိုးများက ထွက်လာသော အသံကဲ့သို့ ညင်းညင်းသာသာ၊ ရွှင်ရွှင်ပျပျ ပြောဆိုပါလော့။

## ၂။ ယုတ်မာစကား ဒေါသအားဖြင့်

ယုတ်မာစကား၊ ဒေါသအားဖြင့်၊ ပြစ်မှားချွတ်လွဲ၊ မစွပ်စွဲနှင့်၊ စွပ်စွဲဖရည်၊ ဆဲဆိုခုတ်သား၊ ကြမ်းကြုတ်ဝစန၊ နှုတ်စားမတည့်၊ သူများကိုယ်မှာ၊ အရာမရှိ၊ မခိုက်ထိဘူး၊ မိမိကိုယ်သာ၊ ဖြတ်တတ်စွာ၏၊ အရိယာပြစ်မှား၊ ဆိုးဝါးမိုက်ညစ်၊ ထိုကံပြစ်ကား၊ စင်စစ်ကြီးမား၊ ဟူတုံငြား၏၊ (၂၅၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ဒေါသကို အခြေခံပြီး ယုတ်မာညစ်ညမ်းသော စကားများဖြင့် ပြစ်မှား စွပ်စွဲခြင်း မပြုရာ။ ကြမ်းတမ်းသောစကားသည် ဓားမကြီးနှင့်တူ၏။ မိမိစကားကြောင့် ခံရသူမှာ အရာမျှပင် မထိခိုက်သော်လည်း ပြောသူ မိမိသာလျှင် ဖြတ်ပိုင်းခြင်းခံရမည် ဖြစ်၏။ အရိယာ သူတော်ကောင်းကြီးတို့အား ပြစ်မှားပြောဆိုမိလျှင်ကား ထိုဝစီကံအပြစ် သည် အကြီးမားဆုံးဖြစ်၏။

## ၃။ ပေါက်လွှတ်မပြု နှုတ်လျှာရဲနှင့်

ပေါက်လွှတ်မပြု၊ နှုတ်လျှာရဲနှင့်၊ ချွတ်လွဲမိစ္ဆာ၊ မသမ္မာဘူး၊ မှတ်ရာမရှိ၊ ပြောမိ ပြောရာ၊ ပြောတတ်စွာခဲ့၊ လျှာဒုစရိုက်၊ ဖိုးမထိုက်ဘူး၊ သူမိုက်နှုတ်သီး၊ လူနားငြီးရုံ၊ ဟူးရီးဟူးရား၊ စကားဘောင်ဘောင်၊ ခွေးနှယ်ဟောင်၏၊ (၂၅၈)

## ဆိုလိုရင်း အဓိပ္ပာယ်

နှုတ်လျှာရဲရဲနှင့် ချွတ်လွဲမှားယွင်းသော စကားများကို ပြီးစလွယ်မပြောဆိုရာ။ မကောင်းသောစိတ်ဖြင့် ပြောမိပြောရာ ပြောဆိုသော နှုတ်စရိုက်ဆိုးကား တန်ဖိုးမရှိချေ။ လူမိုက်များ ပြောဆိုသော စကားများသည် ခွေးဟောင်သံများနှင့်တူ၍ အနှစ်သာရမရှိချေ။

## ၄။ လောကီလူတမ်း လူ့နှုတ်ခမ်းကား

လောကီလူတမ်း၊ လူ့နှုတ်ခမ်းကား၊ ချီးမွမ်းကဲ့ရဲ့၊ ဖြစ်တတ်ခဲ့ရှင့်၊ ပြစ်ဖွဲ့ကြည်ညို၊ ပြောကြဆိုလည်း၊ ပြောဆိုသူနှင့်၊ နှိုင်းကာချင့်တည့်၊ ယခင့်ထိုသူ၊ ယုတ်မြတ်ဟူသည်၊ အယူတူမျှ၊ ကြည်ညိုကြ၏၊ (၂၆၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကီ ထုံးစဉ်လာအရ လူတို့သည် ပါးစပ်ဖြင့် ချီးမွမ်းခြင်း၊ ကဲ့ရဲ့ခြင်းကို ပြုကြ၏။ လူတစ်ဦးကို အပြစ်တင်ခြင်း၊ အကောင်းပြောဆိုခြင်းတို့သည် ပြောသူက မိမိနှင့်နှိုင်းပြီး ပြောခြင်းသာ ဖြစ်၏။ ယုတ်ညံ့ခြင်း၊ မြင့်မြတ်ခြင်းဟူသည်မှာလည်း တစ်ဦးနှင့်တစ်ဦး သဘောအယူအဆချင်း တူညီကြလျှင် ယုတ်ညံ့သူဖြစ်စေ၊ မြင့်မြတ်သူ ဖြစ်စေ တစ်ဦးနှင့်တစ်ဦး ကြည်ညိုကြသည်သာ ဖြစ်၏။

## ၅။ မိန်းမပါးစပ် အရပ်စကား

ထင်မိထင်ရာ၊ လူတိုင်းသာလျှင်၊ နှုတ်လျှာရှုရှု၊ ပြောတတ်ကြခဲ့၊ မိန်းမပါးစပ်၊ အရပ်စကား၊ မမှန်များ၏၊ ကြားတိုင်းမယူ၊ ရေးမမူနှင့်၊ (၂၆၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတိုင်းသည် ထင်မိထင်ရာအတိုင်း နှုတ်လျှာရွှရွှနှင့် စကားကို တဘောင်ဘောင် ပြောတတ်ကြ၏။ သို့သော် ထိုစကားများသည် မိန်းမပါးစပ်မှ ထွက်လာသော စကားများ ကဲ့သို့ မမှန်သည်က များ၏။ ထို့ကြောင့် စကားတစ်ခွန်းကိုကြားတိုင်း အရေးတယူ မမှတ်ပါနှင့်။

## ၆။ ဆုံးမစကား ထိုစကားထက်

လူကြီးမိဘ၊ ဆရာစသား၊ ဆုံးမစကား၊ ထိုစကားထက်၊ ဘုရားနှုတ်နက်၊ ဓမ္မစက် အစစ်၊ လေးဆုံးဖြစ်၏၊ ဖွင့်လှစ်သဘော၊ မြတ်ရှင်စောတို့၊ ဓမ္မောဟဝေ ရက္ခတိဓမ္မစာရိ၊ မွေ့သိမ်နက်တိ၊ ပါဠိထင်ရှား၊ ဟောမြွက်ကြားတိုင်း၊ တရားမထောင့်၊ အမှန်စောင့်က၊ စောင့်သည့်တရား၊ စောင့်သူအားကို၊ မမှားဆတ်ဆတ်၊ စောင့်သတတ်တည့်၊ (၂၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူကြီးမိဘ ဆရာသမားတို့၏ ဆုံးမစကားထက် မြတ်စွာဘုရား၏ မိန့်မြွက် စကားသည် အလေးနက်ဆုံးဖြစ်၏။ တရားကို စောင့်သောသူကို တရားက ပြန် စောင့်ရှောက်သည်ဟူသော မြတ်စွာဘုရား၏ ဟောကြားမိန့်မြွက်သည့်စကားသည် အလေး နက် အမှန်ကန်ဆုံးဖြစ်၏။

## ၇။ ကြား၍နှိုက်နဲ သိနိုင်ခဲ၏

ခွေးငှက်အသံ၊ နားယံကြားခါ၊ သိလွယ်စွာခဲ့၊ လူ့ရွာလူသား၊ လူ့စကားမူ၊ ကြား၍နှိုက်နဲ၊ သိနိုင်ခဲ၏၊ ဝမ်းထဲတစ်ပါး၊ ပြင်တခြားနှင့်၊ စိတ်ထားတစ်မျိုး၊ နှုတ် တစ်မျိုးတည့်၊ လူမျိုးတကာ၊ ဓမ္မတာတရား၊ အလေ့များ၏၊ (၂၉၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ခွေးသံ ငှက်သံ စသည့်တိရစ္ဆာန်များ၏ အသံကို နားဝယ်ကြားရသောအခါ အဓိပ္ပာယ်ကို သိလွယ်ထင်လွယ်၏။ လူသားတို့ပြောသော စကားကိုမူ သိနိုင်ခဲ၏။ အဘယ်ကြောင့်ဆိုသော် လူတို့သည် စိတ်ထဲရှိနေသည်ကတစ်မျိုး၊ ပါးစပ်ကပြောလိုက် သည်ကတခြား ဖြစ်နေတတ်သောကြောင့် ဖြစ်၏။ လူအမျိုးမျိုးရှိသလို အလေ့စရိုက် များလည်း အမျိုးမျိုးရှိနေတတ်ကြ၏။

## ၈။ လူကြွားပြောထန် လူသန်မကြွား

ရေမပြည့်သား၊ အိုး၏ပမာ၊ သွက်သွက်ခါရှင့်၊ နှုတ်လျှာရွှင်ရွှင်၊ မိုးဖျင်ဖျင်သို့၊ ဖြင်ဖြင်စကား၊ တဘွားဘွားနှင့်၊ လူကြွားပြောထန်၊ လူသန်မကြွား၊ မောင်မှတ်သားလော့၊ (၂၉၃)

## ဆိုလိုရင်း အဓိပ္ပာယ်

လူမိုက်တို့သည် စကားကို ရေမပြည့်သောအိုးကဲ့သို့ ဘောင်ဘင်ခတ်ကာ တဘောင်ဘောင် တဘွားဘွား ပြောတတ်ကြ၏။ အမှန်ဆိုရသော် လူကြွားသည် စကားကို သူတစ်ပါး အထင်ကြီးအောင် ပြောတတ်ကြပြီး လူကောင်း ပညာရှိတို့မှာမူ မကြွားမဝါဘဲ ရိုးရိုးပင် ပြောတတ်ကြ၏။

## ၉။ မသင့်ပေါက်လွှတ် ထင်တိုင်းရွှတ်လည်း

မသင့်ပေါက်လွှတ်၊ ထင်တိုင်းရွှတ်လည်း၊ အလွတ်ဆင်ခြေ၊ မဝင်ချေရှင့်၊ သက်သေသက္ခိ၊ မရှိစကား၊ တရားမအောင်၊ ဟူသောယောင်တည့်၊ ကတောင်ကချောက်၊ အထောက်မထင်၊ ကောင်းကင်လက်ပွေ့၊ ရမ်း၍ဆိုငြား၊ ထိုစကားကား၊ အများတကာ၊ ရှိပညာတို့၊ နားမှာဆန့်ကျင်၊ ကလန့်သွင်သို့၊ မဝင်နားနှင့်၊ နားဝယ်နင့်လိမ့်၊ (၃၆၂)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိနှုတ်မှ အဆီးအတားမရှိ ထင်သလိုပြောလိုက်သောစကားသည် တရားတဘောင်ဖြစ်သောအခါ ခိုင်လုံသော ဆင်ခြေတစ်ခုအဖြစ် သုံး၍မရချေ။ သက်သေအထောက်အထားမရှိသော စကားသည် အချည်းနှီးဖြစ်၍ အသုံးမဝင်ချေ။ ထိုစကားမျိုးသည် ကောင်းကင်ကို လက်နှင့် ပွေ့ဖက်ကိုင်ဆွဲ၍ ပြသကဲ့သို့ အကောင်အထည်မရှိ၊ ကယောင်ချောက်ချားပြောသောစကားသာ ဖြစ်သဖြင့် ပညာရှိတို့၏ နားတွင် ကန့်လန့်ဖြစ်နေပြီး နားထဲမဝင်နိုင်ချေ။

## ၁၀။ ဥမ္မတ္တ၏ စကားသဖွယ်

အာဂုံယုတ္တိ၊ ထုတ်မရှိဘဲ၊ မိမိလိုရာ၊ ဆိုစပါသော်၊ ပမာမမြောက်၊ ဘယ်မှုမြောက်လိမ့်၊ သေသောက်ယောက်ျား၊ ဥမ္မတ္တ၏၊ စကားသဖွယ်၊ ကြားတိုင်းရယ်လျက်၊ ပွဲလယ်မတင့်၊ လေနှင့်လွင့်လိမ့်၊ (၃၆၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ယုတ္တိမရှိဘဲ မိမိလိုရာဆွဲ၍ ပြောသောစကားသည် တရားခွင်၌ သက်သေအထောက်အထားတစ်ခုအဖြစ် မမှတ်ယူကြချေ။ အရက်သမား အရူးတစ်ယောက်၏ ထင်တိုင်းပြောသောစကားကဲ့သို့ ကြားရသူတို့အဖို့ ရယ်ဖွယ်ဖြစ်ပြီး လူပုံအလယ်တွင် မတင့်တယ်။ ပြောပြီးသည်နှင့် လေတွင် လွင့်ပါးပျောက်ကွယ်သွားရသည်သာ ဖြစ်၏။

## ၁၁။ များလှုဗိုလ်လေး ကြားတိုင်းမွေး

ပညာရှိသူ၊ လူတို့ခံတွင်း၊ ရောက်လျှင်းနှုတ်က၊ မြွက်သမျှကား၊ များလှုဗိုလ်လေး၊ ကြားတိုင်းမွေး၏၊ ချီအေးသာယာ၊ နားတန်ဆာဖြင့်၊ နားသာဖွယ်ချည်း၊ ဖြစ်သတည်းတည့်၊ ပုံနည်းပမာ၊ ဆောင်ဥဒါနှင့်၊ သာယာချိုမြ၊ ပြောတိုင်းလှလော့၊ (၃၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ပညာရှိတို့၏ နှုတ်ခံတွင်းမှ ထွက်လာသောစကားများသည် မွှေးပျံ့ကြိုင်သင်းပြီး ကြားရသူတိုင်း နှစ်သက်ကြ၏။ ထိုစကားတို့သည် ချိုအေးသာယာပြီး နာ၍မငြီးနိုင်အောင် ပင် ဖြစ်၏။ ထို့ကြောင့် စကားပြောသောအခါ ပေါက်လွှတ်ထင်တိုင်းမပြောဘဲ ဥဒါဟရဏ်သက်သေသာဓကများနှင့် သာယာခြင်စွာ ပြောဆိုရာ၏။

## ၁၂။ တောင်လိုဘယ်ခါ မမောက်ရာ

မွှေ့ညက်နှုတ်ချို၊ စကားဆိုလည်း၊ တောင်လိုဘယ်ခါ၊ မမောက်ရာဘူး၊ နာဖွယ် ပြစ်ကင်း၊ နှုတ်သံညည်းနှင့်၊ စောင်းငြင်းအသွင်၊ နားတိုင်းဝင်စေ၊ အချိုတွင်နှုတ်၊ အဟုတ် မှန်စွာ၊ ပျားထက်သာရှင့်၊ ဝါစာပိယ၊ သဘာဝကား၊ လောကလူ့ဘော်၊ တုမမြော်အောင်၊ အကျော်နတ်ဆေး၊ နှုတ်ချိုအေးက၊ ရွှေပေးမငြီး၊ နားမငြီးတည့်၊ (၃၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

စကားကို မွှေ့ညက်ချိုသာစွာဆိုပြီး မောက်မာခြင်း မရှိစေနှင့်။ လူတိုင်း၏ နားထဲဝင်အောင် ပြောရာ၏။ ချိုသာချောင်စွာ ပြောသော ချစ်ဖွယ်စကားများသည် လူ့လောကတွင် တုမနိူင်းနိုင်အောင် တန်ခိုးကြီးသော နတ်ဆေးဖြစ်၏။ ချိုသာအေးမြ စွာ ပြောသော စကားဟူသည် ရွှေပေး၍ မရနိုင်ဘဲ နားထောင်ရသူများနာ၍ မဝနိုင် အောင် ဖြစ်ရ၏။

## ၁၃။ အလျှင်နှုတ်လျှာ မဆော့ရာ

စာနာကြောင်းလမ်း၊ မစုံစမ်းဘဲ၊ ချီးမွမ်းပြစ်တင်၊ တွေးအထင်နှင့်၊ အလျှင်နှုတ်လျှာ၊ မဆော့ရာတည့်၊ မသာမယာ၊ ဆရာမိဘ၊ နည်းမရသည့်၊ တောသားနှုတ်သံ၊ နာခံမချမ်း၊ လွန်ကြမ်းတမ်းသို့၊ လူတန်းမမိ၊ အလဇ္ဇီဖြင့်၊ ဝစီဒုစရိုက်၊ ဖိုးမထိုက်ရှင့်၊ (၃၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

စိစစ်ထောက်လှမ်းခြင်းမပြုဘဲ မိမိအတွေးအထင်ဖြင့် သူတစ်ပါးအား ချီးမွမ်းခြင်း၊ အပြစ်တင်ခြင်းတို့ကို အလျှင်တဆောမပြုရာ။ မိဘဆရာတို့၏ ကောင်းသော လမ်းညွှန် ဆုံးမမှုများကို မနာခံ မကြားသိခဲ့ရသည့် တောသူတောင်သားများ၏ စကားများသည် နားမခံသာအောင် ကြမ်းတမ်းလှ၏။ ထိုစကားတို့သည် နှုတ်စရိုက် မကောင်းသော အလဇ္ဇီတို့၏ စကားမျိုးသာဖြစ်၍ တန်ဖိုးမရှိချေ။

## ၁၄။ နားမှာမသင့် နှလုံးနင့်၍

မုတ်လော့စင်းလျှင်း၊ ခြသေ့်မင်း၏၊ ထံရင်း၌တွင်၊ ခစားကျင်သည့်၊ သခင်မှသား၊ ဝက်ကားမှန်စွာ၊ တင်ကြပါလည်း၊ နားမှာမသင့်၊ နှလုံးနင့်၍၊ ဝက်နှင့်သမင်၊ ထိုတွင်

သိမ်းကျုံး၊ နှစ်ကောင်လုံးကို၊ သက်ဆုံးစေလတ်၊ ဝါးကိုက်သတ်၏၊ သင့်မြတ်ရေးရာ၊ တင်တတ်စွာ၍၊ ယုန်လိမ္မာငယ်၊ ပညာကြွယ်ကား၊ အကယ်မချွတ်၊ သေဘေးလွတ်၏၊ (၃၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

စကားကို အခြေအနေ အခါအခွင့်ကိုလိုက်၍ လိမ္မာစွာ ပြောဆိုရာ၏။ ရှေးအခါက ခြင်္သေ့မင်းထံ ခစားနေသော ဝက်၊ သမင်၊ ယုန်သတ္တဝါသုံးကောင်သည် ရှိ၏။ တစ်နေ့တွင် ခြင်္သေ့သည် မိမိ၏ခံတွင်းကိုဟ၍ မည်သည့်အနံ့ရကြောင်းကို မေး၏။ ထိုအခါ သမင်က မုသားသုံး၍ ခြင်္သေ့အကြိုက်လိုက်ကာ အရှင်၏ခံတွင်းမှာ အလွန်မွှေး၏ဟု လျှောက်တင်၏။ ဝက်သည် အမှန်အတိုင်းပင် အရှင်၏ခံတွင်း ပုတ်နံလှ၏ဟု လျှောက်တင်၏။ ထိုစကားများကိုကြားလျှင် ခြင်္သေ့သည် ငါ့ကိုလိမ်သည်၊ ငါ့ကို ရှုတ်ချသည်ဟု ယူဆပြီး နှစ်ကောင်လုံးကို သတ်လိုက်၏။ ယုန်သူငယ်ကား ဤသို့ မဟုတ်။ ပညာရှိသူပီပီ ကျွန်တော်မျိုးမှာ နှာစေးနေသောကြောင့် ဘာအနံ့မျှမရပါဟု လျှောက်၏။ ထို့ကြောင့် ယုန်သူငယ်သည် သေဘေးမှ လွတ်မြောက်ခဲ့ရ၏။

## ၁၅။ စကားတွင်းမှာ တရားပါ၏

စကားတွင်းမှာ၊ တရားပါ၏၊ ရာဇာဝိဒေဟ၊ သေနကက၊ စသည့်ငါးဦး၊ လေ့ကျက်ဖူးတိုင်း၊ အထူးမြွက်ကာ၊ ပြုချင်းရာနှင့်၊ ရှေးခါပုဏ္ဏား၊ လေးယောက်သားတို့၊ မခြားအတူ၊ လောကီဟူသည်၊ လူတို့သဘော၊ မနောထဲပိုက်၊ ကိုယ့်အကြိုက်ဖြင့်၊ စရိုက်ရှိရာ၊ ပြောတတ်စွာ၏၊ (၃၇၁)

## ဆိုလိုရင်း အဓိပ္ပာယ်

စကားတွင် တရားပါသဖြင့် ဆင်ခြင်၍ ပြောရာ၏။ ရှေးက ဝိဒေဟရာဇ်မင်းကြီး နှင့် သေနက၊ ပက္ကုသစသော အမတ်လေးယောက်တို့သည် လျှို့ဝှက်အပ်သော စကားကို မည်သူ့အား ပြောကြားအပ်သနည်းဆိုသည့် ပုစ္ဆာကို ပြောဆိုရာ၌ မိမိတို့ဝါသနာစရိုက်ကို လိုက်၍ ဖြေဆိုကြ၏။ ရှေးက ပုဏ္ဏားလေးယောက်တို့သည်လည်း ထို့အတူ ဖြစ်၏။ ထို့ကြောင့် လူ့လောက၌ လူတို့သည် ကိုယ့်အကြိုက်၊ ကိုယ့်ဝါသနာကို စကားတွင် ထည့်ပြောလေ့ရှိကြ၏။

## ၁၆။ ပိသုဏာဝါစာ လွန်စွာဆိုးလှ

ပိသုဏာဝါစာ၊ လွန်စွာဆိုးလှ၊ လျှာနှစ်ခွနှင့်၊ ရှေးကသူဟောင်း၊ အပေါင်းတကာ၊ နေရာချ၍၊ မကျနိုင်စွာ၊ လူယုတ်မာကို၊ ပယ်ခွာစွန့်ပစ်၊ မနီးရစ်နှင့်၊ (၃၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

နှစ်ဦးနှစ်ဖက် မေတ္တာပျက်အောင် ချောစား ကုန်းတိုက်သော ပိသုဏဝါစာဆိုသည့် စကားမျိုးသည် လွန်စွာ ဆိုးဝါးလှသဖြင့် ရှောင်ရှားရာ၏။ ရှေးသူဟောင်း လူကြီးသူမတို့သည် ထိုစကားမျိုးကို အမှန်ဖြစ်အောင် ကြိုးစားခဲ့သော်လည်း မရခဲ့ချေ။ အကောင်းဆုံးသော နည်းလမ်းမှာ ထိုစကားမျိုးကို ပြောတတ်သော လူမိုက်ကို ရှောင်ကြဉ်ရန်သာဖြစ်၏။

## ၁၇။ မာယာကာရီ နှုတ်ချိုအီဖြင့်

မာယာကာရီ၊ နှုတ်ချိုအီဖြင့်၊ ထိုဤဆန်းပြား၊ သာယာဖြားလျက်၊ သံမြားဝမ်းထဲ၊ မှသားစွဲ၍၊ စဉ်းလဲလှုပ်ပွေ၊ မများစေနှင့်၊ (၃၈၆)

## ဆိုလိုရင်း အဓိပ္ပာယ်

နှုတ်ကသာ ချိုအီသာယာ ဆန်းပြားသော စကားများဖြင့် စိတ်ကမပါဘဲ လိမ်လည်လှည့်ပတ် ပြောဆိုသော စကားများသည် နားထောင်ရသူအား သံမြားကို ရင်ဝယ်ထိုးစိုက်လိုက်သကဲ့သို့ နာကျင်စွာ ခံစားရ၏။ ထိုစကားမျိုး မပြောဘဲ ရှောင်ကြဉ်ရာ၏။

## ၁၈။ နှုတ်ကလျှမ်းလျှမ်း ထင်ရာရမ်း၍

နှုတ်ကလျှမ်းလျှမ်း၊ ထင်ရာရမ်း၍၊ ဆေးကျမ်းနိဿရည်း၊ ဆေးနည်းပြောကာ၊ တဘွာဘွာနှင့်၊ ရောဂါမပျောက်၊ မျိုသောက်စားမှ၊ ချမ်းသာရသို့၊ သုတပညာ၊ ရှိတုံပါလည်း၊ ပြောကာဟောကာ၊ ကျမ်းလာအသင့်၊ မကျင့်တုံဘိ၊ ကျိုးမရှိဘူး။

## ဆိုလိုရင်း အဓိပ္ပာယ်

ဆေးဆရာသည် လူနာအား ကုသရာ၌ ဆေးကျမ်းပါ နည်းနာနိဿယတို့ကိုသာ ပြောဟောပြနေရုံမျှနှင့် ထိုလူနာ၏ ရောဂါမပျောက်နိုင်ချေ။ ထိုဆေးကျမ်းပါ နည်းအတိုင်း ဖော်စပ်ထားသည့် ဆေးဝါးကို သောက်သုံးမှသာ ရောဂါပျောက်ကင်း၍ ချမ်းသာနိုင်၏။ ထို့ကြောင့် မိမိ၌ သုတပညာနှင့် ပြည့်စုံနေပါသော်လည်း နှုတ်ကထင်ရာ ရမ်းပြီး ပြောနေရုံမျှနှင့် အကျိုးမရှိနိုင်ချေ။ ထိုအသိ ထိုပညာတို့ကို လက်တွေ့ကျင့်သုံးနိုင်ပါမှ အကျိုးပြီးမြောက်နိုင်ရာ၏။

# ၂၆။ ကံတရား

ကံကို ယုံကြည်သူများသည် မိမိတို့ခံစားကြုံတွေ့နေကြသမျှ ကောင်းကျိုး ဆိုးကျိုး၊ ချမ်းသာသုခအမျိုးမျိုးသည် ကံကို အရင်းခံပြီးဖြစ်လာကြသည်ဟု လက်ခံ ယုံကြည်ထားကြ၏။ ကံသာလျှင်အမိ၊ ကံသာလျှင် အဖ၊ ကံသာလျှင် ကိုးကွယ်ရာ၊ အားထားရာ ဖြစ်သည်ဟု အလေးအနက်ထား ယုံကြည်သူများဖြစ်ကြ၍ ကံကောင်းအောင် ပြုမှု ကြိုးစားကြ၏။ ကောင်းသောကံမျိုးစေ့ကို ချကြ၏။ ကံကောင်းစေသော ကိုယ်ကျင့်သိက္ခာ၊ ဒါန၊ သီလတို့ကို ကျင့်ကြံရှာဖွေ ဖြည့်ဆည်းကြ၏။

အချို့ကား ကံကို ယုံကြည်လက်ခံခြင်း မရှိကြချေ။ ကံကိုမယုံကြည်သဖြင့် ကောင်းကျိုးဆိုးကျိုး၊ ချမ်းသာသုခကို ဖန်တီးပေးနိုင်သည့် ကမ္မပထကုသိုလ်တရားတို့ကို မရှာဖွေ၊ မဖြည့်ဆည်းကြ။ ကုသိုလ်မရှိ၊ အကုသိုလ်မရှိ၊ တမလွန်ဘဝမရှိ၊ ငရဲမရှိ၊ နတ်ဘုံမရှိဟု ခံယူ၍ ပြုမြဲ အကုသိုလ် ဒုစရိုက်များကိုသာ ပြုလုပ်ကျက်စား၍နေကြ၏။ ထိုသူတို့သည် အရတော်စွာသော လူ့အဖြစ်တွင် နေတ္ထိကဒိဋ္ဌိအဖြစ် စိတ်ထင်ရာ ပြုလုပ်နေထိုင်ကြကုန်၏။

ထိုလူနှစ်မျိုး၊ ဝါဒနှစ်ခုသည် မည်သည်ကအမှန်၊ မည်သည်ကအမှား ဆိုသည်ကို ပိဋကတ်ကျမ်းတတ်၊ ပညာရှိ ကဝိတစ်ဆူဖြစ်တော်မူသော မန်လည်ဆရာတော်ကြီးသည် သူ၏မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီးတွင် သက်သေထုံးဟောင်းသာဓကပေါင်းများစွာဖြင့် ရှင်းလင်းဖွင့်ဆိုထား၏။ စာဖတ်သူ လူအပေါင်းတို့ ကောင်းစွာသဘောပေါက်နားလည်ပြီး လည်ရွဲတန်ဆာပမာ ထာဝရဆင်မြန်းကျင့်သုံးနိုင်စိမ့်သောငှာ အနှစ်သာရများကို စုစည်းကာ လမ်းညွှန်နီတိများအဖြစ် ရေးဖွဲ့ထားခြင်း ဖြစ်၏။

ဆရာတော်ကြီးက ကံတရားနှင့် စပ်လျဉ်း၍–

(၁) ကံသည် သတ္တဝါတို့၏ အားကိုးရာဖြစ်သောကြောင့် ကံကောင်းစေသော ဒါန၊ သီလ စသော ကုသိုလ်ကောင်းမှုများကို ကြိုးပမ်းအားထုတ်ရာဖွေပြီး

(၂) သံသရာတွင် ကျင်လည်သမျှ ဘဝအဆက်ဆက်တွင် ဆင်းရဲဒုက္ခအမျိုးမျိုးကို ဖြစ်စေသည့် အကုသိုလ်မကောင်းမှုများကို အထူးရှောင်ကြဉ်ရန်နှင့်

(၃) နေရာတကာတွင် ကံကိုချည်းသာ အားမကိုးဘဲ မိမိ၏ဉာဏ်၊ ဝီရိယတို့ကိုပါ ပေါင်းစပ်ပြီး အခြေအနေ၊ အခါအခွင့်၊ အချိန်အခါကိုကြည့်ပြီး မိမိ၏ဘဝ ကြီးမြင့် ပွားစီးရေးကို အားထုတ်ရှာကြံသွားကြရန် ဟူသော လမ်းညွှန်သုံးရပ်၊ နည်းလမ်းသုံးသွယ်ကို ညွှန်ပြဆုံးမခဲ့၏။

ကံတရားနှင့် စပ်လျဉ်းပြီး ဆရာတော်ကြီး၏ ဆုံးမလမ်းညွှန်မှုများသည် လူတစ်ဦးတစ်ယောက်အတွက်သာမက မိသားစုတစ်ခု၊ အသင်းအဖွဲ့တစ်ခု၊ နိုင်ငံတစ်ခုအတွင်းရှိ လူအားလုံးအတွက်ပါ အကျိုးများပြီး တင့်တယ်သာယာသော ဘဝတစ်ခု တည်ဆောက်ရေးအတွက် ခွန်အားများလည်း ဖြစ်ပေသည်။

ထို့ကြောင့် ဤအပိုင်းတွင် ဆရာတော်ကြီး၏ ကံတရားဆိုင်ရာ လမ်းညွှန်ချက်များထဲမှ သင့်နိုးရာရာ အချို့ကို စာရှုသူတို့ ဆောင်ရန်၊ ရှောင်ရန်အလို့ငှာ ရွေးချယ်ကောက်နုတ်ဖော်ပြလိုက်ရပေသည်။

## ၁။ ပြုကအသစ် ဖြစ်ကအဟောင်း

ခပင်းလောက၊ လူထိုမျှကား၊ ပြုကအသစ်၊ ဖြစ်ကအဟောင်း၊ ကျိုးနှင့်ကြောင်းတိ၊ ဆိုးကောင်းဟူက၊ ဤနှစ်ဝကို၊ ကမ္မသကာ၊ မှတ်တို့ရာ၏၊ သည်သာမှန်ဘိ၊ ယွင်းမရှိဘူး၊ မိမိကမ္မ၊ ကိလေသဖြင့်၊ သုခလိုကြား၊ ဒုက္ခပွား၏၊ ရှေ့ကားသုခ၊ နောက်ဒုက္ခနှင့်၊ စိတ်ကလိုရေး၊ ကြံစည်တွေး၍၊ အအေးတောင့်တ၊ အပူရလျက်၊ ပူကအေးမြဲ၊ မှန်မလွဲရှင့်၊ (၂၂၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကရှိ လူများစွာတို့ ပြုလုပ်နေသမျှ သင်္ခါရတို့သည် မိမိတို့အား အဆိုးအကောင်းကို ဖန်တီးပေးမည့် ကံသစ်များဖြစ်ကုန်၏။ ထို့အတူ မိမိတို့ခံစားနေရသမျှသည် အတိတ်ကံဟောင်းကြောင့် ဖြစ်ကြရကုန်၏။ ခံစားနေရသမျှ အဆိုးအကောင်းများသည် ကံကို အကြောင်းပြု၍ ဖြစ်လာသော အကျိုးထရားသာလျှင် ဖြစ်ကုန်၏။ ထို့ကြောင့် လူတို့သည် ကံစီမံရာအတိုင်း နေကြရကုန်၏။ မိမိပြုသော ကမ္မကိလေသာတို့ကြောင့် သုခကိုလိုချင်လျက်နှင့် ဒုက္ခပွားရ၏။ သုခကို ရပြန်ပါလည်း နောက်က ဒုက္ခသည် လိုက်လာပြန်၏။ ကြံစည်အားထုတ်မှုမှန်သမျှ၏ အဆုံး၌ကား အအေးကို တောင့်တလိုချင်လျက်နှင့် အပူကို ရတတ်၏။ အပူကိုရပြီးလျှင်လည်း အအေးကို ပြန်ရတတ်၏။ ဤတရားကား လူ့လောက၌ အမှန်မလွဲ တွေ့ဆုံရမည့် တရားတည်း။

## ၂။ ကံရှိမှမြတ်

လောကဥ္စမှာ၊ သတ္တဝါဟူဘိ၊ များအချိကား၊ ကံရှိမှမြတ်၊ ခဲကတ်ရေးရာ၊ အလိမ္မာကား၊ ပညာမြင်သိ၊ ဉာဏ်ရှိမှတတ်၊ မှန်ဆတ်ဆတ်တည့်၊ အဟ္တပရ၊ ကျိုးနှစ်ဝကို၊ မြင်ကပဏ္ဍိ၊ မသိသူမိုက်၊ ယူထိုက်မချွတ်၊ မည်တုံလတ်၏။ (၂၂၉)

## ဆိုလိုရင်း အဓိပ္ပာယ်

လူသတ္တဝါတို့သည် ကောင်းသောကံများရှိမှသာ မြင့်မြတ်သောဘဝကို ရောက်ရ၏။ အခက်အခဲ၊ ပြဿနာများ ပေါ်ပေါက်လာသောအခါ ဖြေရှင်းနိုင်စွမ်းသည့် အသိအလိမ္မာ ဉာဏ်ပညာသည်လည်း မိမိသန္တာန်၌ ပညာဉာဏ်ရှိမှသာ ဖြစ်လာနိုင်၏။ မိမိအကျိုးနှင့် အများအကျိုးကို မြင်သိတတ်လျှင် ထိုသူသည် ပညာရှိဟု ဆိုနိုင်၏။ မသိတတ်လျှင်ကား လူမိုက်ဟုသာ ဆိုထိုက်လှ၏။

## ၃။ ကိုယ်လုပ်ကြံတိုင်း ခံရစမြဲ

ဤလူတစ်ခု၊ ကိုယ်ပင်ပြုသား၊ ကိုယ့်မှုကိုယ့်ကံ၊ ကိုယ်လုပ်ကြံတိုင်း၊ ကိုယ်ခံရမြဲ၊ မလွဲတို့ချေ၊ မောင်သိစေလော့၊ (၂၃၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတစ်ဦးတစ်ယောက်သည် မိမိပြုခဲ့သမျှကံကြောင့် မိမိခံစားနေရသည်သာ ဖြစ်၏။ ကိုယ်လုပ်ကိုင် ကြံစည်ပြောဆိုခဲ့သော ကောင်းကံ၊ မကောင်းကံတို့သည် ကိုယ့်ကိုပြန်၍ ကောင်းကျိုး၊ ဆိုးကျိုးပေးမည်ကား မလွဲပေတည်း။

## ၄။ မကောင်းကံကြောင့် ဒုက္ခရောက်

လူတို့လောဘ၊ ကြီးကာလ၌၊ ဒုဗ္ဘိက္ခဘေး၊ ငတ်မွတ်ရေးကြောင့်၊ ရိုးဖွေးတောင်မျှ၊ ပျက်စီးကြ၏၊ ဒေါသတရား၊ ပွားလတ်သောခါ၊ ဓားမိုးရွာသို့၊ သတ္တဝါလူပုံ၊ ပြောဟုံအမျက်၊ စစ်မက်ပြိုင်ခင်း၊ လက်နက်ကျင်း၍၊ ချင်းချင်းသတ်ကြ၊ သွေးချောင်းကျ၏၊ မောဟလွန်ပြား၊ ဘီလူးစားသို့၊ ထူးခြားရောဂါ၊ ဝေဒနာဖြင့်၊ များစွာကပ်ရောက်၊ သေပျောက်လူရှင်၊ ထူပြောဖြင်၏၊ (၂၃၄)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့သည် လောဘကြီးလာသောအခါ ဒုဗ္ဘိက္ခခေါ် ငတ်မွတ်ခေါင်းပါးသောဘေးကြီးနှင့် တွေ့ကြုံရ၏။ အရိုးတောင်လိုပုံပြီး သေကြေပျက်စီးကြရ၏။ ဒေါသတရားကြီးမား လာသောအခါ သတ္တန္တရကပ်ခေါ် စစ်မက်ဘေးကြီးနှင့်ကြုံ၍ သွေးချောင်းစီးရ၏။ ထို့အတူ မသိမှု မောဟတရားကြီးမားလာသောအခါ ရောဂန္တရကပ်ခေါ် ရောဂါဘေးဆိုးကြီးများနှင့် တွေ့၍ ပျက်စီးရ၏။ မိမိ၏ မကောင်းမှုကံကြောင့် မိမိတို့ပင် ပျက်စီးရ၏။

**ပဋ္ဌာန်မြားငမောက်စာပေ**

## ၅။ ကိုယ်၌မကျွာ နောက်ထပ်ပါ

ပါပဆိုးညစ်၊ ကံအဖြစ်ကား၊ မနစ်စဉ်စိုက်၊ တောခွေးလိုက်သို့၊ ကိုယ်၌မကျွာ၊ နောက်ထပ်ပါ၏၊ (၂၄၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ဆိုးညစ်ယုတ်မာသော ကံသည် မိမိနောက်သို့သာ အစဉ်လိုက်ပြီး ဒုက္ခအမျိုးမျိုးကို ပေးတတ်၏။ အဘယ်သို့နည်းဟူမူကား တောခွေးသည် မိမိအား ကိုက်ခဲသတ်ဖြတ်ရန် နောက်မှ အစဉ်လိုက်နေသကဲ့သို့ပင်တည်း။

## ၆။ ကံသာစိရင် ကြမ္မာငင်

ကံသာစီရင်၊ ကြမ္မာငင်သော်၊ ခုတွင်ရွှေ့လစ်၊ လူစင်စစ်မှ၊ ဆိတ်ဖြစ်ရကြောင်း၊ ထုံးဟောင်းရှေးက၊ မှတ်ဆိုကြ၏၊ (၂၄၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ကံတရား၏ စီရင်မှုကြောင့် ကံကြမ္မာ ညှိုးနွမ်းလာ၍ အကျိုးပေးချိန် ကျရောက်လာသောအခါ လူသားစင်စစ်ကပင်လျှင် တိရစ္ဆာန် ဆိတ်ဘဝသို့ ရောက်ရကြောင်း ရှေးဟောင်းအဖြစ်များက ဆိုထားကြ၏။

## ၇။ ကံဉာဏ်မဲ့က အလွဲထင်တတ်

ဤလူ့ဌာန်ဝယ်၊ ကံဉာဏ်မဲ့က၊ အလွဲထင်တတ်၊ ထင်မှားချွတ်၏။ (၂၄၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ဤလူ့လောက လူ့ဌာန၌ ကံရောဉာဏ်ပါ မရှိခဲ့လျှင် အမှန်ကို အမှား၊ အမှားကို အမှန်အဖြစ် လွဲမှားစွာ ထင်မြင်တတ်ကြကုန်၏။

## ၈။ ကံကိုချင့်ပြီး ယုံ

ကံကိုယုံ၍၊ မီးပုံအတွင်း၊ မဆင်းထိုက်စွာ၊ ကျားရဲရာလည်း၊ ကြမ္မာအကြောင်း၊ မရိုးကောင်းတည့်၊ (၂၄၅)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိ၏ကံကိုယုံပြီး မီးပုံအတွင်းသို့ မဆင်းသင့်ချေ။ ဒုက္ခရောက်တတ်၏။ ကျားများကျက်စားရာနေရာသို့ မိမိ၏ကံကို အားကိုးပြီး မသွားကောင်းချေ။

## ၉။ ကံအမွေ

စိတ်မှာထင်တိုင်း၊ ဉာဏ်မပိုင်းဘဲ၊ မနှိုင်းမရှု၊ လွှားမပြုနှင့်၊ ပြုပြုသမျှ၊ ထိုတမွကို၊ ပြုကြသောသူ၊ အမွေယူ၏၊ (၂၄၆)

## ဆိုလိုရင်း အဓိပ္ပာယ်

ဉာဏ်ဖြင့် ပိုင်းခြားဆင်ခြင်ခြင်းမပြုဘဲ မာန်မာနထောင်လွှားပြီး စိတ်ထင်တိုင်း မပြုပါနှင့်။ ထိုသို့ပြုမိသဖြင့် ပေါ်ပေါက်လာသည့် မကောင်းကံများသည် မိမိကိုယ်တိုင် ဖန်တီးရယူခဲ့သော ဆိုးမွေများပင် ဖြစ်၏။

## ၁၀။ ပြုပြင်မရသော ကံနှစ်မျိုး

နတ်လူတို့တွင်၊ ပြုပြင်မရ၊ ဤလောကဥ္စ၊ ကမ္မနှစ်မျိုး၊ ထိုအကျိုးဖြင့်၊ ကောင်းဆိုး ခံကာ၊ သတ္တဝါဟူသမျှ၊ ကျင်လည်ကြ၏၊ (၂၄၆)

## ဆိုလိုရင်း အဓိပ္ပာယ်

လူနတ်တို့တွင် မည်သူမျှ ပြုပြင်၍မရသော ကံနှစ်မျိုးသည် ရှိကုန်၏။ ထိုကောင်းကံ၊ မကောင်းကံဟူသော ကံနှစ်မျိုး၏ စီမံရာအတိုင်း လူနတ်သတ္တဝါဟူသမျှ သည် သံသရာတွင် ကျင်လည်နေကြရကုန်၏။

## ၁၁။ သူ့ကိုဖျက်က ကိုယ်ပျက်တတ်စွာ

ဝိပါတ်ဟူသည်၊ ကြာမရှည်ခင်၊ ပြည်လည်တတ်ပြီး၊ မကောင်းကျိုးဖြင့်၊ နောက်ပိုး လိုက်တတ်၊ သူ့ကိုဖျက်က၊ ကိုယ်ပျက်တတ်စွာ၊ သူ့ထက်သာရှင့်၊ စေတနာဆိုးကောင်း၊ အကြောင်းနှစ်ဖြာ၊ ဤလူ့ရွာဝယ်၊ ဓမ္မတာအရိုး၊ ပမာနှိုးမူ၊ ခါးမျိုးချိုမျိုး၊ စေ့စိုက်ပျိုးက၊ ထိုမျိုးအလား၊ မခြားတူပြီး၊ ခါးချိုသီးသို့၊ (၂၄၆)

## ဆိုလိုရင်း အဓိပ္ပာယ်

အကျိုးပေးဝိပါက်ဟူသည် ကြာရှည်မနေ၊ မိမိဘက်ဆီ ပြန်လာပြီး နောက်မှ လိုက်တတ်ချေ၏။ သူတစ်ပါးအား ဖျက်လိုဖျက်ဆီးလုပ်ပါက မိမိသာလျှင် ပို၍ ပျက်စီး တတ်၏။ ကောင်းသောစေတနာ၊ ဆိုးသောစေတနာ နှစ်မျိုးကြောင့် အကောင်းအဆိုးတို့ ဖြစ်ရသည်မှာ ဓမ္မတာပင်တည်း။ ဥပမာအားဖြင့်ဆိုရသော် အခါးမျိုးကို စိုက်ပျိုးလျှင် အခါးသီးကို စားရမည် ဖြစ်၏။ အချိုသီးစိုက်ပျိုးပါမူ အချိုသီးကိုသာ စားရမည်ဖြစ်၏။

## ၁၂။ ကြို့ဝံတမျှ ပျက်ကုန်ကြ

ကိုယ်ကသူ့ကို၊ မလိုဣဿာ၊ ကြံတုံပါက၊ မှန်စွာသူလည်း၊ တစ်နည်းနည်းဖြင့်၊ လက်ချည်းမခံ၊ မကောင်းကြံ၍၊ ကြို့ဝံတမျှ၊ ပျက်ကုန်ကြလိမ့်၊ (၂၄၆)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိက သူတစ်ပါးကို ဝန်တိုစိတ်ဖြင့် ပျက်စီးစေရန် ကြံစည်ပါက ကိုယ့်ဘက်က ပြန်ပြီးခံရမည်သာ ဖြစ်၏။ အဘယ်နည်းဟူမူ ခံရသူတစ်ဖက်လူကလည်း မိမိပြုသည်ကို ခေါင်းငုံ့မခံဘဲ တစ်နည်းနည်းဖြင့် မိမိအား ပြန်ပြီး မကောင်းကြံတတ်သောကြောင့်

ဖြစ်၏။ ဥပမာသော်ကား ကြို့ပင်စောင့်နတ်၏ ပျက်စီးရာကို ကြံစည်မ်သော ဝက်ဝံသည် နောက်ဆုံး၌ ကြို့ပင်စောင့်နတ်ကြောင့် သေကြေပျက်စီးရသကဲ့သို့ပင် ဖြစ်၏။

## ၁၃။ ပေးလိုအခွင့် ပန်းနှယ်ပွင့်

မည်သူမဆို၊ ရှေးကုသိုလ်လျှင်၊ ပေးလိုအခွင့်၊ ပန်းနှယ်ပွင့်၏၊ ခါချင့်ချိန်ဆုန်း၊ နတ်တနှုန်းသို့၊ လူဘုန်းကြမ္မာ၊ မမြင်သာဘူး၊ (၂၄၈)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောက၌ မည်သူမဆို ရှေးအတိတ်က ပြုခဲ့သော ကောင်းမှုကုသိုလ်ရှိခဲ့လျှင် ထိုကုသိုလ်၏ အကျိုးပေးမှုသည် ပန်းများ ပွင့်လာသလို ဖြစ်ပေါ်လာရမြဲ ဖြစ်၏။ ထိုကံကြောင့် ကောင်းကျိုးချမ်းသာကို ခံစားကြရကုန်၏။ ထို့ကြောင့် လူတို့၏ဘုန်းကံကို မျက်စိဖြင့် မမြင်သာသဖြင့် အထင်သေး နှိမ့်ချခြင်း မပြုသင့်ချေ။

## ၁၄။ ကုသိုလ်ရှေးပြု ကံကောင်းမှု

လူထိုထိုကား၊ ကုသိုလ်ရှေးပြု၊ ကံကောင်းမှုနှင့်၊ ယခုဘဝ၊ ပစ္စက္ခ၌၊ လုံ့လသမ္မာ၊ ပညာနှစ်ပါး၊ ကျိုးခံစား၏၊ ဘုန်းရှားကံရှား၊ ထိုသူများကား၊ အုတ်ကြားမြက်ပေါက်၊ ရာမရောက်တည့်၊ (၂၅၀)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့သည် ရှေးကပြုခဲ့သော ကောင်းမှုကံနှင့် ယခုပစ္စုပ္ပန်ဘဝ၌ရှိသော ကောင်းစွာ အားထုတ်ကြိုးပမ်းမှုနှစ်ခု၏ ပယောဂကြောင့် အကျိုးခံစားနေကြရ၏။ အတိတ်ရှေးဘဝက ဘုန်းကံနည်းပါးနေသူတို့အဖို့ကား အုတ်ကြားတွင် ပေါက်နေသော မြက်ကဲ့သို့ လူမသုံး၊ အရာမဝင်ဘဲ ရှိတတ်၏။

## ၁၅။ ရှေးကကံမွဲ လူဆင်းရဲ

ရှေးကကံမွဲ၊ လူဆင်းရဲလျက်၊ လူထဲပွဲခွင်၊ လူမသွင်အောင်၊ မထင်မရှား၊ ဘုန်းကံရှား၏၊ ဘုန်းသားဘုန်းဟန်၊ ဘုန်းရင်းသန်က၊ လာဘ်မွန်မညှောင်း၊ ရတတ်ရှောင်း၏၊ (၂၅၀)

## ဆိုလိုရင်း အဓိပ္ပာယ်

အချို့သောလူတို့သည် ဆင်းရဲမွဲတေကြပြီး လူကြားသူကြား ဝင်နိုင်လောက်အောင် အသွင်အပြင် အနေအထားမရှိကြဘဲ ဘုန်းကံနည်းပါးကြ၏။ အချို့သော ဘုန်းကံမြင့်မားသူတို့ကမူ နေရင်းနှင့်ပင် လာဘ်လာဘ ပေါများကာ ချမ်းချမ်းသာသာ နေရ၏။

## ၁၆။ ဘုန်းရှိကားစံ ဘုန်းမဲ့ရဲ

ဘုန်းရှိကားစံ၊ ဘုန်းမဲ့ရဲ၏၊ ကြောင်းခံပြည့်ဝ၊ အကျိုးလှလျက်၊ ပုညကမ္မ၊ ထူးသူမှသာ၊ ကြယ်များအလယ်၊ လ၏နှယ်သို့၊ တင့်တယ်ပထွန်း၊ ဘုန်းရောင်ရွှန်း၍၊ ရွှေဝန်းရံခြုံ၊ သောင်းသောင်းအုံနှင့်၊ ကုံလုံမချို့၊ ဂုဏ်မညှိုးဘူး၊ (၂၅၀)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့သည် ကံကိုအကြောင်းပြု၍ ဘုန်းကံရှိလျှင် ဘုန်းမဲ့သူများ ခြံရံကာ ခံစား စံစားကြရကုန်၏။ (ဘုန်းကံမဲ့သည့် လူဆင်းရဲများ၏ အလုပ်အကျွေးကို ခံယူလျက်) ထိုသူတို့သည် ကံတည်းဟူသော အကြောင်းခံပြည့်ဝသူဖြစ်ကြလျက် ကုသိုလ်ကံထူးသဖြင့် ကြယ်များအလယ်၌ ရွှန်းပစွာ ထွန်းလင်းတောက်ပနေသော လမင်းကြီးကဲ့သို့ အခြွေအရံများ၏ အလယ်တွင် တင့်တယ်စွာ နေရ၏။

## ၁၇။ ဘုန်းရှိသူတို့ ခံစားဖို့

ပုဗ္ဗေကတ၊ ရှေးဘဝက၊ ပုညဆင်းရဲ၊ ကံမဲ့ချို့တဲ့၊ ဘုန်းမဲ့သသူ၊ များဖိုလ်လူတို့၊ ချမ်းပူမနေ၊ ရှာဖွေကြိုးကုတ်၊ အားထုတ်အထူး၊ ဆည်းပူးလုံ့လ၊ ပြုသမျှကား၊ ရှေးက ကောင်းမှု၊ အပြုများလှ၊ ပုညသိရီ၊ ပြည့်စုံဘိသည့်၊ ဘုန်းရှိသူတို့၊ ခံစားဖို့တည့်။ (၂၅၀)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးဘဝက ပြုခဲ့သော ကုသိုလ်ကံ နည်းပါးချို့တဲ့သူတို့သည် ချမ်းသည် ပူသည် မရှောင်ဘဲ စီးပွားရေးအတွက် အားထုတ်ရှာဖွေကြရ၏။ ထိုသူတို့ လုံ့လပြုပြီး ဆည်းပူး ရှာဖွေ၍ရသော ဥစ္စာဓနမှန်သမျှသည် ဘုန်းကံမြင့်မားသူတို့ ခံစား စံစားဖို့သာ ဖြစ်၏။

## ၁၈။ သိကြားမလည်း မရနိုင်စွာ

ရှေးခါယခု၊ အားထုတ်ပြုသား၊ ကောင်းမှုအလို၊ ကုသိုလ်မရှိ၊ သိရိမင်္ဂလာ၊ ကောင်းကြံစာနှင့်၊ ကြမ္မာမဲ့ငြား၊ ထိုသူအားကို၊ လူသားမက၊ သိကြားမလည်း၊ မရနိုင်စွာ၊ ဟူစပါ၏၊ (၂၅၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးအတိတ်က အားထုတ် ဆည်းပူးထားသော ကုသိုလ်ကောင်းမှုလည်းမရှိ။ ကျက်သရေမင်္ဂလာ ကြံအင်လက္ခဏာလည်းမရှိ၍ ကံမဲ့သူများအား လူကိုမဆိုထားနှင့် သိကြားမင်း လူ့ပြည်ဆင်းပြီး ကူညီမစသော်လည်း မရနိုင်၊ ကြီးပွားခြင်း မရှိနိုင်ချေ။

## ၁၉။ ဉာဏ်ရှိတိုင်းမွဲ ကြံတိုင်းလွဲ

ကမ္မသကာ၊ သတ္တဝါတို့၊ ကံသာဘုမိ၊ ကံမရှိက၊ ဉာဏ်ရှိတိုင်းမွဲ၊ ကြံတိုင်းလွဲ၏၊ (၂၅၁)

## ဆိုလိုရင်း အဓိပ္ပာယ်

လူတို့အဖို့ ကံသာလျှင် အမိ၊ ကံသာလျှင် အဖ ဖြစ်ချေ၏။ ကံစီမံရာအတိုင်း ဖြစ်ကြရကုန်၏။ ကံသာမရှိခဲ့ပါမူ ထိုသူသည် ဉာဏ်ရှိစေကာမူ ကြံစည်အားထုတ်တိုင်း အောင်မြင်မည် မဟုတ်ချေ။ လွဲချော်တိမ် ပါးနေမည်သာ ဖြစ်၏။

## ၂၀။ အသက်မသေ ဘေးမဲ့စေလျက်

ကံရှိသူမှာ၊ ကောင်းကြမ္မာကြောင့်၊ သမုဒ္ဒရာလယ်ချက်၊ သင်္ဘောပျက်လည်း၊ အသက်မသေ၊ ဘေးမဲ့စေလျက်၊ ရေမှာမမွန်း၊ သောင်ကျွန်းလှေကြီး၊ ကပ်နီးရေးရှု၊ ဆယ်ယူအမှန်၊ နတ်တို့ဖန်၍၊ ရပ်ဌာန်ဆောင်ပို့၊ လိုရာသို့လျှင်၊ မချို့ရောက်ကာ၊ ရချမ်းသာ၏၊ (၂၅၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ကံကြမ္မာကောင်းသူတို့မှာ သမုဒ္ဒရာထက်၌ သင်္ဘောပျက်၍ သေလုနီးပါး ဖြစ်နေရသော်လည်း အသက်မသေနိုင်ပေ။ ရေတွင်နစ်မွန်း သေကြေရမည့်ဘေးအန္တရာယ်မှ လွတ်မြောက်ကာ နတ်တို့ကူညီပို့ဆောင်မှုကြောင့် မိမိနေရပ်ဌာနေသို့ ရောက်ပြီး ချမ်းသာစွာ နေရ၏။

## ၂၁။ ဒါနပစ်ပယ် အလှူကွယ်

ကောင်းကျိုးကုသိုလ်၊ နောင်ဖို့လိုက၊ ပုဂ္ဂိုလ်ယုတ်မြတ်၊ မမှတ်သင့်ရေး၊ သဒ္ဓါစေး၍၊ မရွေးအပ်စွာ၊ တွေ့ရာရာအား၊ စေတနာမြတ်နိုး၊ ဖြစ်စေကြိုးလော့၊ နောင်ကျိုးပိတ်ပိတ်၊ ဉာဏ်အဟိတ်နှင့်၊ ပြိတ္တာအလောင်း၊ သူမကောင်းတို့၊ တိမ်းစောင်းဝါဒ၊ ဒါနပစ်ပယ်၊ အလှူကွယ်၏၊ (၂၅၂)

## ဆိုလိုရင်း အဓိပ္ပာယ်

နောင်သံသရာအဖို့ ကောင်းကျိုးလိုလားပါလျှင် အယုတ်အမြတ်မရွေး ပုဂ္ဂိုလ်တို့အား သဒ္ဓါစေတနာ အပြည့်ဖြင့် လှူဒါန်းပေးကမ်းပါလော့။ အသိဉာဏ်မဲ့၍ အပါယ်ဘုံသွားကြမည့် ပုဂ္ဂိုလ်တို့ကား အယူဝါဒ တိမ်းစောင်းကာ ဒါနမပြု၊ အလှူမပေးဘဲ နေကြ၏။

## ၂၂။ လှူမည်ဝမ်းထဲ ကြံမရဲ

ယုံမှားမိစ္ဆာ၊ မောဟကွာ၍၊ သဒ္ဓါကင်းထ၊ မစ္ဆေရနှင့်၊ ထိုမျှသသူ၊ စိတ်မဖြူတို့၊ လှူမည်ဝမ်းထဲ၊ ကြံမရဲဘူး၊ ကြံခဲအလို၊ ဝန်တိုင်ကက်ကော်၊ မယှဉ်ကျသို့၊ တစ်သက်လုံးလုံး၊ မသုံးရက်ဟူ၊ မလှူရက်ဘဲ၊ ခန္ဓာစဲက၊ မှုးပဲမပါ၊ ငတ်မွတ်စွာလျှင်၊ ပြိတ္တာပြိတ္တိ၊ ဖြစ်ကုန်ဘိ၏၊ (၂၅၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ကံ ကံ၏အကျိုးကို မယုံကြည်၊ သဒ္ဓါတရားမရှိ၊ ဝန်တိုမှုနှင့် စိတ်ဓာတ်မကောင်းသူတို့သည် လှူဒါန်းပေးကမ်းရန်ကို မဆိုထားနှင့် လှူဒါန်းရန် အကြံအစည်ပင် စိတ်ထဲက မဖြစ်ချေ။ အလွန်တရာ ကြံစည်ခဲလှ၏။ မယုငှက်သည် မိမိစားသော ညောင်သီးကို တစ်ပါးငှက် စားမည်စိုး၍ အာသာငန်းငန်းတက်နေသလို ထိုလူတို့သည် မလှူရက် မပေးရက်ဘဲ သေလွန်သွားကြ၏။ ထိုအခါ ထိုဥစ္စာတပ်မက်မှု အကုသိုလ်ကြောင့် ငတ်မွတ်ခေါင်းပါးစွာ နေရသော ပြိတ္တာဘဝသို့ ရောက်ကြရ၏။

## ၂၃။ ပေးကမ်းလေ့ဟူ မရှိသူတို့

ပေးကမ်းလေ့ဟူ၊ မရှိသူတို့၊ နတ်လူနိဗ္ဗာန်၊ ချမ်းသာမွန်ကို၊ ကေန်ဘယ်ခါ၊ မရရာတည့်၊ သံသာရှည်ညောင်း၊ ဝဲနှောင်း၍၊ တီးတောင်းမော်ယွန်း၊ ကမ်းသောင်စွန်းက၊ ကျွန်းကိုမမြင်၊ ခွေးကျသွင်သို့၊ အကြင်သူသည်၊ အလှူမသိ၊ သုဂတိနှင့်၊ ဗောဓိသုံးတန်၊ နိဗ္ဗာန်နတ်ရွာ၊ ဖြစ်တိုင်းကွာ၏၊ (၂၅၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ပေးကမ်းစွန့်ကြဲခြင်းဟူသော ဒါနမရှိသောသူသည် လူနတ်နိဗ္ဗာန်ချမ်းသာကို ဘယ်သောအခါမှ မရနိုင်ရာ။ ရှည်ညောင်းလှသော သံသရာရေလျဉ်ကြော ဝဲဂယက်ထဲတွင်သာ တဝဲလည်လည် နေရမည်ဖြစ်၏။ သောင်ကျွန်းနှင့်တူသော နိဗ္ဗာန်ကို မြင်တွေ့နိုင်ကြမည် မဟုတ်ပေ။ ထိုသို့ လှူရတန်းရမှန်းမသိသူသည် သုဂတိဘုံ၊ ဗောဓိဆုနှင့် နတ်ရွာ နိဗ္ဗာန်နှင့် ဝေးမြဲ ဝေးကွာနေကြမည်သာတည်း။

## ၂၄။ ကုသိုလ်အရေး ဖင့်မနေးနှင့်

ရေမှာပေါ်ထွန်း၊ ကျွန်း၏သဖွယ်၊ ကုသိုလ်ကယ်၍၊ ကိုးကွယ်မှီရာ၊ ဖြစ်တတ်စွာ၏၊ နောင်ရာမချို့၊ ချမ်းသာဖို့တည့်၊ ကုသိုလ်အရေး၊ ဖင့်မနေးနှင့်။ (၂၅၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ကုသိုလ်ကောင်းမှုဟူသည် ရေနစ်သူများအဖို့ ကျွန်းသောင်သဖွယ် မှီခိုရာဖြစ်တတ်၏။ နောင်လာမည့်ဘဝများစွာ သံသရာအတွက်လည်း ချမ်းသာသုခရကြရန် ဖြစ်၏။ ထို့ကြောင့် လူတိုင်းသည် ကုသိုလ်များပြုလုပ်ရန် နှောင့်နှေးဖင့်နွှဲခြင်း မရှိစေရာ။

## ၂၅။ မပေးမလှူ မုန်းဆေးဟူ၏

သဒ္ဓါမရှေး၊ မပေးမလှူ၊ မုန်းဆေးဟူ၏၊ ပေးလှူတတ်သော်၊ ချစ်ဆေးကျော်တည့်၊ လူ့ဘော်ဌာန၊ ဤလောက၌၊ စိတ်ကကြည်စွာ၊ စေတနာနှင့်၊ သဒ္ဓါဝမ်းတွင်း၊ ပေးကမ်းခြင်းကား၊ ရခြင်းထက်သာ၊ ဝမ်းမြောက်စွာသည်၊ မင်္ဂလာလွန်မြတ်၊ ဖြစ်သတတ်ရှင့်၊ (၂၅၄)

## ဆိုလိုရင်း အဓိပ္ပာယ်

စေတနာ သဒ္ဓါတရား ကင်းမဲ့သဖြင့် ပေးလှူခြင်းမရှိခြင်းသည် လူတကာ၏ မှန်းတီးစေသောဆေးတစ်မျိုးဖြစ်၏။ ပေးလှူတတ်ခြင်းသည် ချစ်ဆေးဖြစ်၏။ ဤလူ့လောက၌ စေတနာသဒ္ဓါဖြင့် ရက်ရောစွာ ပေးကမ်းလှူဒါန်းခြင်းသည်ကား မိမိတစ်စုံတစ်ရာသော လာဘ်လာဘကို ရခြင်းထက်ပို၍ ဝမ်းမြောက်ကြည်နူးရ၏။ ထို့ကြောင့် လှူဒါန်း ပေးကမ်းခြင်းသည် မွန်မြတ်သော မင်္ဂလာတစ်ပါးပင် ဖြစ်၏။

## ၂၆။ မကြုံလည်းပြီး ကြုံလည်းပြီး

ကုသိုလ်ဘုန်းကံ၊ သင့်စိမ်သော်၊ မကြုံလည်းပြီး၊ ကြုံလည်းပြီး၏၊ မတီးလည်းမြည်၊ တီးလည်းမြည်သို့၊ မရည်လည်းမြောက်၊ ရည်လည်းမြောက်ခဲ့၊ (၂၅၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိ၏ ရှေးကုသိုလ်ဘုန်းကံက အကျိုးပေးလာသောအခါ မိမိကြုံစည်ထားသည်ဖြစ်စေ၊ မကြုံစည်ထားသည်ဖြစ်စေ အလိုလိုပြီး၏။ ထို့အတူ မိမိက အထူးတလည် ပြုပြင်စီမံစရာမလိုဘဲ မတီးလည်းမြည်၊ တီးလည်းမြည်၊ မရည်ရွယ်ဘဲလျက်လည်း ပြီးမြောက်၊ ရည်ရွယ်လျက်လည်း ပြီးမြောက်တတ်စွာ၏။

## ၂၇။ ရသူဘုန်းမဲ့ သုံးမတည့်ဘူး

မိုးကောင်းဆင်ဖြူ၊ ရပါမူလျက်၊ ရသူဘုန်းမဲ့၊ ဖြစ်ခဲ့ရကား၊ မတန်ဘြား၍၊ တစ်ပါးထိုက်ရာ၊ ပျံသွားပါ၏၊ ရတနာဟူတုံ၊ တစ်စုံတစ်ခု၊ ဝတ္ထုအမျိုး၊ အဖိုးနဂ်ပြည့်၊ ပြည်တန်လှည့်လည်း၊ သုံးမည့်သူက၊ သုံးမကျလျှင်၊ မြေမှုထင်စွာ၊ ကြက်ယက်ရာ၌၊ ရတနာပတ္တမြား၊ ပေါ်သော့လားသို့၊ သုံးစားမဝင်၊ ဖိုးမထင်ဘူး၊ (၂၆၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မိုးလေဝသကောင်းမွန်၍ တစ်ပြည်လုံး ဝပြောစည်ပင်ဇေနိုင်သည့် ဆင်ဖြူရတနာကြီးကို ရထားပါလျက်နှင့် ရသူဘုန်းကံမရှိသဖြင့် ထိုဆင်ဖြူရတနာသည် ထိုက်တန်ရာ တခြားတစ်ပါးသို့ ရောက်သွားရ၏။ အဖိုးအနဂ္ဃ ထိုက်လှသော ရတနာသည် ပြည့်တန်အောင် တန်ဖိုးကြီးမားလှသော်လည်း ရသူက အသုံးမကျ မထိုက်တန်လျှင် ထိုရတနာသည် ကြက်ယက်ရာ၌ ပေါ်လာသော ပတ္တမြားသည် ထိုကြက်အဖို့ အသုံးမဝင် တန်ဖိုးမရှိသလို ထိုသူအားလည်း အသုံးမကျ တန်ဖိုးမရှိ ဖြစ်တတ်ချေ၏။

## ၂၈။ ကံစိမ်ရာ ဖြစ်ကြရ

မဟာသမုဒ္ဒရာဓိ၊ ပင်လယ်မြစ်၌၊ ရေနစ်ပွဲခံ၊ တည်ည်ဖြင့်၊ ကံမကောင်းသူ၊ ပျက်ကြောင်းဟူ၏၊ ကံမူကောင်းက၊ ချမ်းသာကြ၏၊ (၂၆၄)

## ဆိုလိုရင်း အဓိပ္ပာယ်

မဟာသမုဒ္ဒရာ ပင်လယ်တွင်း၌ သင်္ဘောပျက်၍ တည်ည် တစီစီနှင့် ကမ္ဘာပျက်သကဲ့သို့ အော်ဟစ်ကူးခတ်နေသူများထဲတွင် ကံမကောင်းသူများသည် သေကြေပျက်စီး

ကြပြီး၊ ကံကောင်းသူများကမူ ကယ်သူနှင့်တွေ့၍ ချမ်းသာကြ၏။ ကံစီမံရာအတိုင်း ဖြစ်ရ၏။

## ၂၉။ ကမ္မမူလ ကြောင်းရင်းစ

သုခဒုက္ခ၊ ဝိပါကဟု၊ ကမ္မနှစ်ခု၊ ရှေးကပြုသား၊ ကုသိုလ်အကုသိုလ်၊ အကျိုးကိုမူ၊ မလိုလည်းရ၊ လိုမရတည့်၊ တောင့်တအားလှိုင်း၊ ကြံစည်တိုင်းလည်း၊ ကြံတိုင်းမပြီး၊ ရှေးအတီးက၊ ရင်းနီးပုညကုသလသာ၊ ကမ္မမူလ၊ ကြောင်းရင်းစတည့်၊ (၂၈၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ချမ်းသာခြင်း၊ ဆင်းရဲခြင်းဟူသော ကံအကျိုးပေးမှု နှစ်မျိုးသည် ရှေးကပြုခဲ့သော ကုသိုလ်၊ အကုသိုလ်များကြောင့် ဖြစ်ရခြင်းဖြစ်၏။ ကုသိုလ်၊ အကုသိုလ်တို့၏ အကျိုးပေးမှုဟူသည် မိမိမလိုချင်ပါလျက်နှင့် ရတတ်၏။ လိုချင်လျက်လည်း မရနိုင်ချေ။ ကြံစည်တိုင်း၊ တောင့်တတိုင်းလည်း ရနိုင် ဖြစ်နိုင်သည်မဟုတ်။ ထိုထိုသော အကျိုးပေးမှုဟူသမျှသည် မိမိရှေးကပြုခဲ့သည့် ကောင်းမှုကုသိုလ်၊ အကုသိုလ်များတွင်သာ စတင်အခြေခံ ပြီး ဖြစ်ရ၏။

## ၃၀။ ကံပစ်ချတိုင်း တွေ့ကြုံကြ

ကံပစ်ချတိုင်း၊ တွေ့ကြုံကြ၊ ခံကုန်ရခဲ့၊ မုချမြဲရှု၊ ကိုယ်လျှင်ပြုတိုင်း၊ အမှုကောင်းဆိုး၊ စေ့စိုက်ပျိုးသည့်၊ မျိုး၏ပမာ၊ ကာလကြာသော်၊ နာနာက္ခဏိက၊ အခွင့်ရတိုင်း၊ ပွင့်ကြသီးကြ၊ ဝိပါကဖြင့်၊ ရင့်ကြမြဲသာ၊ မလွဲသာဘူး၊ (၂၆၄)

## ဆိုလိုရင်း အဓိပ္ပာယ်

ကံကို ကိုယ်တိုင်ပြုခဲ့သဖြင့် ထိုကံပြုပြင်တိုင်း ကိုယ်ကခံရမြဲ၊ တွေ့ရမြဲဖြစ်၏။ ကံဟူသည် အပင်က ပွင့်ဖူးလာသည့် အပွင့်ပမာ ဖူးကြ၊ ပွင့်ကြ၊ ရင့်မှည့်ကြရသည်သာ ဖြစ်၏။

## ၃၁။ ချမ်းသာမရ ပျက်တတ်စွ

ရှေးကကောင်းမှု၊ မပြုနည်းပါး၊ ထိုသူများက၊ စီးပွားဥစ္စာ၊ ချမ်းသာရကြောင်း၊ ပြုပါရှောင်းလည်း၊ တိမ်းစောင်းယွင်းဖောက်၊ လှေ့နှယ်မှောက်၍၊ မမြောက်ကြံရာ၊ လက်ချည်းခါအောင်၊ ချမ်းသာမရ၊ ပျက်တတ်စွတည့်၊ (၂၈၃)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေးကကောင်းမှုကုသိုလ် ပြုခဲ့သူတို့သည် စီးပွားချမ်းသာရအောင် ကြိုးစားပါသော်လည်း တိမ်းမှောက်သွားသည့်လှေကဲ့သို့ လက်ချည်းသာကျန်ပြီး အထမမြောက်ဘဲ နောက်ဆုံးတွင် ပျက်စီးရ၏။

# ၂၈။ ကျန်းမာသက်ရှည်ကြောင်းတရား

လူတို့သည် ကျန်းမာခြင်းကို အလိုရှိကြ၏။ ရောဂါကင်း၍ နုပျိုစွာ နေလိုကြ၏။ အသက်ရှည်ရှည် နေချင်ကြ၏။ မြတ်ဗုဒ္ဓကလည်း **"အာရောဂျ ပရမံ လာဘံ"**ဟု ကျန်းမာခြင်း၏ တန်ဖိုးကြီးမား မြင့်မြတ်ပုံကို ထုတ်ဖော်ဟောမြွက်တော်မူခဲ့၏။

ကျန်းမာခြင်းသည် ရလိုဖြစ်လိုသော စိတ်တစ်ခုတည်းရှိရုံနှင့် ရနိုင် ဖြစ်နိုင်သော အရာမျိုးမဟုတ်။ ကိုယ်တိုင် ကျန်းမာ ချမ်းသာစေသော အကြောင်းတရားတို့ကို ရှာဖွေ ကျင့်သုံးပါမှ ရနိုင် ဖြစ်နိုင်သောအရာ ဖြစ်၏။ သို့ဆိုလျှင် မည်သို့ကျင့်ကြံနေထိုင်ကြရ မည်နည်း။

ပထမဦးစွာ ကျန်းမာစေသော အကြောင်းတရားများကို သိရန်လို၏။ ထို အကြောင်းတရားများအပေါ် ယုံယုံကြည်ကြည် လက်ခံ၍ ကျန်းမာအောင် နေတတ်ထိုင် တတ် ကျင့်သုံးမှီဝဲတတ်ရန် လိုပါ၏။ အခြားတစ်ဖက်မှလည်း ကျန်းမာခြင်းကို ဖျက်ဆီး ယုတ်လျော့စေသော အကြောင်းတရားများကို သိရှိ နားလည်ရန် လိုပြန်ပါ၏။ သို့မှသာ ထိုအဖျက်တရားများကို ရှောင်ကြဉ်၍ ကျန်းမာစေသည့် အပြုတရားများကို လိုက်နာ ကျင့်သုံးနိုင်ကြမည် ဖြစ်၏။

ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် သူ၏ မဃဒေဝလင်္ကာသစ်ကြီးတွင် ကျန်းမာပြီး အသက်ရှည်စွာ နေနိုင်ရေးဆိုင်ရာ နည်းကောင်းလမ်းမှန်တို့ကို ညွှန်ပြဖွဲ့ဆို ထား၏။ မည်သို့နေ၊ မည်သို့ကျင့်လျှင် ကျန်းမာနုပျို ရွှင်လန်းမည်၊ အသက်ရှည်မည်၊ မည်သို့နေထိုင်ပြုမူလျှင် အသက်တိုမည်၊ ရုပ်အဆင်းညှိုးနွမ်းပြီး ရောဂါများမည် စသည် တို့ကို ဝေဖန်ထောက်ပြထား၏။ အချိန်အခါ လရာသီကိုလိုက်၍ ဆောင်ရန် ရှောင်ရန် များကိုလည်း ဖော်ညွှန်းထားသဖြင့် ကျန်းမာခြင်း၊ နုပျိုခြင်း၊ အသက်ရှည်ခြင်းကို လာဘ်တစ်ပါးအဖြစ် ရှာဖွေ ရယူလိုသော ပုဂ္ဂိုလ်များအတွက် အကျိုးများမည်မှာ အမှန်ဖြစ်၏။

ထို့ကြောင့် သက်ရှည်ကျန်းမာ အနာမဲ့စွာဖြင့် လူ့ဘဝခရီးတစ်လျှောက် ပျော်ရွှင် ချမ်းမြေ့စွာ လျှောက်လှမ်းသွားလိုသူများအတွက် ဆရာတော်ကြီး၏ ရှောင်ရန်၊ ဆောင်ရန်

လမ်းညွှန်များကို ရွေးချယ်ကောက်နုတ်ကာ ဤအပိုင်းတွင် အဓိပ္ပာယ် မြန်မာပြန်နှင့် တကွ ဖော်ပြထားပါ၏။ ယင်းအဆိုအမိန့်များကို ဖတ်ရှုလေ့လာပြီး လက်တွေ့ကျင့်သုံးကာ ကျန်းမာ၊ ချမ်းသာ၊ နုပျိုအသက်ရှည်စွာ နေနိုင်ကြပါစေဟု ဆန္ဒပြုလိုက်ရပါသည်။

## ၁။ ပြိုင်တုဖက်ရှား သက်ရှည်ပွား၍

သက်ပိုင်းတိုရာ၊ ဇာတာပါလည်း၊ သမ္မာပယောဂ ကုသလဖြင့်၊ ဒီဃအာယု၊ ပြိုင်တုဖက်ရှား၊ သက်ရှည်ပွား၍၊ ထင်ရှားချမ်းသာ၊ ကြီးကျယ်စွာလျက်၊ တေဇာဘုန်းရောင်၊ တိုးတက်ပြောင်၏။ (၂၈၉)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိ၏မွေးဇာတာတွင် အသက်တိုရာ အကြောင်းပါလာသော်လည်း ကောင်းသော အကျင့်နှင့် ကုသိုလ်ကောင်းမှုများကို ဆည်းပူးပြုလုပ်ခဲ့ပါလျှင် အသက်ရှည်နိုင်ရာ၏။ ထို့ပြင် ကြီးပွားချမ်းသာပြီး ကြီးကျယ်ထင်ရှားစွာ နေရလျက် ဘုန်းတန်ခိုးလည်း တိုးတက် တောက်ပြောင်စေနိုင်၏။

## ၂။ ကုသိုလ်သမ္မာ မကျင့်စွာဘဲ

အာယုဒါယ၊ ကျမ်းလာပြတိုင်း၊ တွက်ရအသက်၊ သူ့ထက်ပိုမို၊ ရှည်မည်ဆိုလည်း၊ ကုသိုလ်သမ္မာ၊ မကျင့်စွာဘဲ၊ နေကာမတ္တ၊ သပ္ပါယဟု၊ ကမ္ဘောဇနေ၊ ဩသဓနှင့်၊ ဗြဟ္မစာရီ၊ ပဥ္စသီဥပုသ်၊ ချို့ဖောက်ယုတ်က၊ အဟုတ်ဆိုတိုင်း၊ ရှည်မလှိုင်းတည့်၊ (၂၈၉)

## ဆိုလိုရင်း အဓိပ္ပာယ်

အာယုဒါယ ကျမ်းလာအတိုင်း မိမိမှာ သူတစ်ပါးထက် အသက်ရှည်မည်ဟု ပြဆိုထားသော်လည်း မိမိသည် ကုသိုလ်ကောင်းမှုများကို မပြုသည့်ပြင် ကံကို မြင့်စေသည့် ဗြဟ္မဝိဟာရတရားများ စောင့်ထိန်းခြင်း၊ ငါးပါးသီလ စသော ဥပုသ်ဆောက်တည်ခြင်း စသော တရားများကို မကျင့်သုံးဘဲ နေကာမတ္တနေလျှင် အသက်ရှည်မည် မဟုတ်ချေ။

## ၃။ ပုညခေါ်ရိုး ကျင့်တစ်မျိုး

မှတ်ဆောင်တစ်ဆစ်၊ ရေစစ်ဆေးကျောင်း၊ အဟောင်းပြုပြင်၊ ပဥ္စင်အဋ္ဌ၊ သီလမည်သာ၊ ဤခြောက်ဖြာလည်း၊ ဒီဃာယုက၊ ပုညခေါ်ရိုး၊ ဆေးတစ်မျိုးတည့်၊ အားကြီးသမ္မ၊ ဆောက်တည်ပြုက၊ ယခုဒိဋ္ဌ၊ ဤဘဝ၌၊ သုခပွားစည် ၊..စည်းစိမ်တည်၍၊ သက်ရှည်ဘုန်းကြီး၊ အံ့မပြီးအောင်၊ ဝဲခြီးလူ့ဘောင်၊ ဘဝနောင်လည်း၊ အခေါင်ဓိမိုင်း၊ တုမဲ့နိုင်းသည်၊ (၂၉၁)

## ဆိုလိုရင်း အဓိပ္ပာယ်

ရဟန်းသံဃာများအား ရေစစ်လှူခြင်း၊ ဆေးဝါးလှူခြင်း၊ ကျောင်းလှူခြင်း၊ သိမ် ကျောင်း ဇရပ်ဟောင်းများကို ပြုပြင်ခြင်း၊ ငါးပါးသီလ မြဲမြံစွာ စောင့်ထိန်းခြင်း၊

အဋ္ဌင်္ဂဥပေါသထသီလ ဆောက်တည်ခြင်းဟူသော အကြောင်းခြောက်မျိုးသည် အသက်ရှည်ကြောင်း ဆေးတစ်မျိုးဖြစ်၏။ ယင်းတရားတို့ကို ကြိုးစားအားထုတ်ပါက ယခုဘဝ၌ပင် စည်းစိမ်ဥစ္စာ၊ ဘုန်းတန်ခိုး တိုးပြီး အသက်ရှည်ကာ နောင်ဘဝသံသရာတွင်လည်း ကြီးပွားချမ်းသာရ၏။

## ၄။ လောကီလူပေါင်း သက်ရှည်ကြောင်း

ဤလူ့ဇာတ်၌၊ လျှောက်ပတ်ကျင့်ငြား၊ လျှောက်ပတ်စားနှင့်၊ ဆေးဝါးစာကြေ၊ သွားထွေကာလ၊ ဗြဟ္မစာရီ၊ ဤငါးလီမူ၊ လောကီလူပေါင်း၊ သက်ရှည်ကြောင်းတည့်၊ (၁၂၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင်၊ သင့်တင့်လျှောက်ပတ်စွာ နေထိုင်ကျင့်ကြံခြင်း၊ စားသောက်ခြင်း၊ အစာကြေစေသော ဆေးဝါးများ မှီဝဲခြင်း၊ အချိန်ကာလကိုလိုက်၍ သွားလာခြင်း၊ မြတ်သောအကျင့်ကို ကျင့်ခြင်းဟူသော အကြောင်းငါးမျိုးသည် လူတို့အား အသက်ရှည်စေ၏။

## ၅။ သက်အာယုမြတ် ရှည်ကြောင်းမှတ်

တစ်နည်းမှာကား၊ အစာကြေမှ၊ စားထသောဇဉ်၊ အစဉ်မှတ်ဖွယ်၊ ကြီးငယ်နှစ်ပါး၊ ကျင့်အသွားကို၊ မတားအဟုန်၊ မေထုန်ကြဉ်ရှား၊ သူ့အားမညှင်း၊ မစဉ်းစားမူ၊ မပြုလျှင်စွာ၊ ဤငါးဖြာလည်း၊ သက်အာယုမြတ်၊ ရှည်ကြောင်းမှတ်လော့၊ (၁၂၇)

## ဆိုလိုရင်း အဓိပ္ပာယ်

အသက်ရှည်ကြောင်း နောက်တစ်နည်းမှာ အစာကြေမှ စားခြင်း၊ ကျင်ကြီးကျင်ငယ်သွားလိုတိုင်း ချုပ်တီးထားခြင်းမပြုဘဲ သွားစေခြင်း၊ မေထုန်မှီဝဲခြင်းမှ ရှောင်ကြဉ်ခြင်း၊ သူတစ်ပါးအား မညှဉ်းဆဲခြင်း၊ မဆင်ခြင် မစဉ်းစားဘဲ အလျင်စလို မပြုလုပ်ခြင်းဟူသော အကြောင်းငါးမျိုးကို လိုက်နာကျင့်သုံးရန် ဖြစ်၏။

## ၆။ ဗြဟ္မစရိယာ ကျင့်မြတ်စွာ

တစ်ဖြာထို့ပြင်၊ ငါးအင်သီလ၊ ပဉ္စင်္ဂကို၊ စောင့်ထမမှား၊ ထိုအပြားတွင်၊ မယားတစ်ယောက်၊ လင်တစ်ယောက်ထက်၊ မဖောက်ဘယ်မျှ၊ သန္တောသဟု၊ ဗြဟ္မစရိယာ၊ ကျင့်မြတ်စွာလည်း၊ မဟာမေ့၊ ပါလပုဏ္ဏား၊ အမျိုးသားတို့၊ တရားဆောင်ကယ်၊ ကင်းအပါယ်နှင့်၊ သူငယ်ဟူသမျှ၊ ငယ်ကမသေ၊ ထောင်သက်နေ၏။ (၁၂၇)

## ဆိုလိုရင်း အဓိပ္ပာယ်

ထို့ပြင် ငါးပါးသီလကို စောင့်ထိန်းခြင်း၊ မယားတစ်ယောက်၊ လင်တစ်ယောက် အပြင် ဖောက်ပြားကျူးလွန်မှုမရှိခြင်း၊ ဗြဟ္မဝိဟာရတရားနှင့်အညီ မြင့်မြတ်စွာ ကျင့်ကြံ

နေထိုင်ခြင်းတို့ဖြင့် မဟာဓမ္မပါလပုဏ္ဏား အမျိုးအနွယ်တစ်စုသည် အပါယ်မှ ကင်းလွတ်ပြီး မည်သူမျှ ငယ်စဉ်အခါ မသေရဘဲ အသက်တစ်ထောင်နေရသကဲ့သို့ ချမ်းသာစွာ အသက်ရှည်ရာ၏။

## ၇။ နှစ်ပါးကိုယ်စိတ် စင်ကြယ်ဟိတ်ဖြင့်

ကြည်ဖြူရွှင်အား၊ နှစ်ပါးကိုယ်စိတ်၊ စင်ကြယ်ဟိတ်ဖြင့်၊ အနိဋ္ဌကင်း၊ ရောဂါရှင်း၍၊ ရှည်ခြင်းအသက်၊ တည်မပျက်မှ၊ မကွက်လုံ့လ၊ မှုကိစ္စဒ္ဓိ၊ နေ့ညမချ၊ ယှဉ်နိုင်ရာ၏။ (၃၂၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ကြည်လင်ရွှင်ပျပြီး အင်အားနှင့် ပြည့်ဝသော ကိုယ်နှင့် စိတ်ရှိသောသူသည် အခါခပ်သိမ်း ရောဂါဘယများ ကင်းရှင်းပြီး အသက်ရှည်ကျန်းမာမှသာလျှင် ပြုစရာကိစ္စများ၌ လုံ့လစိုက်ထုတ်ပြီး နေ့ညမဟူ လုပ်ဆောင်နိုင်မည်ဖြစ်၏။ ထို့ကြောင့် ကိုယ် စိတ်နှစ်ပါး ကြည်လင်ရွှင်ပျ၊ အင်အားရှိအောင် နေထိုင်ပြုမူရာ၏။

## ၈။ အိုနာဘေးကြီး မနိုပ်စက်အောင်

အိုနာဘေးကြီး၊ ဖိစီးနှောင့်ယှက်၊ မနိုပ်စက်အောင်၊ အသက်ဉာဏ်စောင့်၊ ရှေးယခေါင့်က၊ သူ့ဟောင်းစကား၊ မြဲမှတ်သားတည့်၊ ဆေးဝါးကျင့်မြတ်၊ မပြတ်ယှဉ်ပြု၊ အားထုတ်မှုကား၊ အာယုခန္ဓာ၊ ချမ်းသာတိုးတက်၊ အသက်ရှည်ကြောင်း၊ မှတ်တုံရှောင်း၏၊ (၃၂၈)

## ဆိုလိုရင်း အဓိပ္ပာယ်

အိုခြင်း၊ နာခြင်းဟူသော ဘေးဆိုးကြီးများ မဖိစီး မနိုပ်စက်ရန် အသက်ကို ဉာဏ်စောင့်ပြီး နေထိုင်ပါဟု ရှေးသူဟောင်းတို့၏ ဆိုရိုးစကား ရှိခဲ့၏။ ထိုအဆိုအမိန့်ကို ဆေးဝါးသဖွယ် အားကိုးရသည့် အကျင့်မြတ်တစ်ခုအဖြစ် မှတ်ယူကာ အမြဲသတိယှဉ်လျက် လိုက်နာကျင့်သုံးရာ၏။ သို့မှသာ အသက်ရှည်ပြီး ချမ်းသာတိုးတက်မည် ဖြစ်၏။

## ၉။ နာဆိုးပြောဟုံ ကိုယ်လိုကြုံ၏

ကိုယ်တွင်တည်မှီး၊ ဝမ်းမီးဟူထ၊ ကမ္မဇတေဇော၊ နုံ့သောလူမျိုး၊ ရုပ်မတိုးဘူး၊ နာဆိုးပြောဟုံ၊ ကိုယ်လိုကြုံ၏၊ မှတ်တုံတစ်သီး၊ ဝမ်းမီးထိဓာတ်၊ ထက်လတ်သော့သူ၊ ကိုယ်ဆူဖွံ့ထွား၊ ရုပ်တိုးပွား၏၊ (၃၂၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ကိုယ်ခန္ဓာအတွင်း တေဇော (မီး) ဓာတ်နုံ့သောလူသည် ရုပ်ဓာတ်ကြည်လင်ဖွံ့ဖြိုးမှုမရှိ၊ အနာရောဂါ ထူပြောပြီး ကိုယ်ခန္ဓာ ကြုံလှီနေတတ်၏။ ထို့အတူ ဝမ်းမီးခေါ် တေဇောဓာတ်အား ကြီးသောသူသည် ကိုယ်ခန္ဓာ ဖွံ့ထွားပြီး ရုပ်အဆင်းကို တိုးပွားစေ၏။

## ၁၀။ မေထုန်မှားမြှောင် မှိုဝဲရှောင်လော့

ထိုမှအထူး၊ အတာကူးသား၊ တန်ခူးကဆုန်၊ ပုပ္ပုန်တက်ကြွ၊ ဝသန္တနှင့်၊ တဝထိုမြို့၊ တပို့တပေါင်း၊ ကြက်ဆောင်းမာသ၊ သိဿိရဥ္စ၊ လုံ့လကြိုးကုတ်၊ အားထုတ်ပြင်းစွာ၊ မပြုရာတည့်၊ ဂိမှာရတု၊ ခေါ်ပြုနယုန်၊ ဝါဆိုကုန်အောင်၊ မေထုန်မှားမြှောင်၊ မှိုဝဲရှောင်လော့၊ ဝါခေါင်တော်သလင်း၊ ခတ္တာမင်းနှင့်၊ ရွှေယင်းမာလ၊ ဝဿာနဥ္စ၊ မှန်လှမချွတ်၊ ဖက်ဆွတ်ရေမျိုး၊ မချိုးသောက်ရာ၊ ချိန်ဝါကျွတ်ကင်း၊ သီတင်းတန်ဆောင်၊ လူ့ဘောင်ခေါ်ကြ၊ သရဒကား၊ ကြဉ်ထမအံပ်၊ ချဉ်စပ်ငန်ပူ၊ နို့ဓမ်းဟူ၏၊ တမူမှတ်ခန်း၊ ကိုယ်လက်ကျန်းမှ၊ စိတ်လန်းကြည်လင်၊ ရုပ်ပျိုရွှင်၏၊ (၃၂၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ထိုမှ အထူးမှတ်သားရန်မှာ ပူပြင်းသော တန်ခူးလ၊ ကဆုန်လ၊ တပို့တွဲ၊ တပေါင်းလတို့၌ ပြုဖွယ်ရှိရာကိစ္စတို့ကို ပြင်းထန်စွာ မပြုရာ။ နယုန်လ၊ ဝါဆိုလတို့တွင် မေထုန်အမှုကို ရှောင်ရာ၏။ ဝါခေါင်လ၊ တော်သလင်းလတို့တွင် ရွှာသော ဖက်ဆွတ်မိုးရေကို မသောက်ချိုးရာ။ သီတင်းကျွတ်လ၊ တန်ဆောင်မုန်းလတို့တွင်ကား ချဉ်စပ်ငန်ပူသော အစားအစာ၊ နို့ဓမ်းတို့ကို ရှောင်ကြဉ်ရာ၏။ ထိုသို့ အခါရာသီနှင့်အညီ ရှောင်ကြဉ်နိုင်မှ လူသည် ကိုယ်လက်ကျန်းမာပြီး ရုပ်အသွင်လည်း နုပျိုလန်းဆန်းမည် ဖြစ်၏။

## ၁၁။ သက်တိုလူရွယ် သေပျောက်လွယ်၏

ပါဏာတိပါတ်၊ သက်သတ်ရေးဟို၊ အကုသိုလ်ကြောင့်၊ သက်တိုလူရွယ်၊ သေပျောက်လွယ်၏၊ အကယ်ဆက်ဆံက်၊ သူ့သက်သတ်မှု၊ မပြုအစဉ်၊ မေတ္တာယှဉ်၍၊ ပယ်ကြဉ်တတ်ငြား၊ သက်ရှည်လျားရှင့်၊ သနားမဲ့လျက်၊ တုတ်လက်နက်နှင့်၊ နှိပ်စက်တတ်သူ၊ ရောဂါထူ၏၊ ကိုယ်တူမခြား၊ သူတစ်ပါးအား၊ သနားတတ်လျှင်း၊ ကင်း၏အနာ၊ များဘွာမျက်ရှု၊ ထွက်တတ်သူတို့၊ လူနှင့်လူချင်း၊ မတူလျှင်းအောင်၊ အဆင်းမလှ၊ မျက်နည်းကလျှင်၊ ရူပတင့်တယ်၊ ရှုဖွယ်မငြီး၊ (၃၂၉)

## ဆိုလိုရင်း အဓိပ္ပာယ်

သူ့အသက်သတ်သော အကုသိုလ်ကြောင့် အသက်တို၏။ သက်သတ်မှုကို ရှောင်ကြဉ်၍ သတ္တဝါများအပေါ် မေတ္တာယှဉ်ပြီးနေလျှင် အသက်ရှည်၏။ သတ္တဝါများအပေါ် သနားခြင်းမရှိ နှိပ်စက်တတ်လျှင် ရောဂါထူပြော၏။ သတ္တဝါတို့အပေါ် ကြင်နာသနားတတ်ပါမူ အနာရောဂါကင်း၏။ အမျက်ထွက်တတ်သူသည် ရုပ်အဆင်းမလှ ဖြစ်ရ၏။ အမျက်နည်းလျှင်မူ ရုပ်အဆင်း လှပတင့်တယ်၏။

ပဉ္စမြားမောက်စာပေ

# ၂၈။ ပြည်သူ့ဝန်ထမ်း (မင်းမှုထမ်း)

တိုင်းပြည်နိုင်ငံတစ်ခုတွင် အုပ်ချုပ်သူ (မင်း)၊ ပြည်သူပြည်သားများ၊ နိုင်ငံ့ဝန်ထမ်း (မင်းမှုထမ်း)များဟူ၍ အဓိက အင်အားကြီးသုံးရပ်ရှိရာ အုပ်ချုပ်သူ အကြီးအကဲ (မင်း)သည် တိုင်းနိုင်ငံတစ်ခုလုံး ဝပြောသာယာ၍ စည်ပင်ဖွံ့ဖြိုးအောင် ဆောင်ရွက်ရသည်။ ပြည်သူတို့မှာ အုပ်ချုပ်သူ သို့မဟုတ် နိုင်ငံတော်မှ ချမှတ်ထားသော စည်းကမ်းဥပဒေများနှင့်အညီ လိုက်နာကျင့်သုံးကာ နေထိုင်ကြရသည်။ ပြည်သူ့ဝန်ထမ်း (မင်းမှုထမ်း) တို့မှာကား နိုင်ငံတော် (အကြီးအကဲ)မှ ချမှတ်ထားသော စည်းကမ်းဥပဒေများနှင့်အညီ နိုင်ငံသား ပြည်သူများ ငြိမ်းချမ်းစွာ နေထိုင်နိုင်စေရန် နိုင်ငံတော်ကိုယ်စား ကြိုးပမ်းဆောင်ရွက်ပေးရသူများ ဖြစ်ကြ၏၊

ထို့ကြောင့် ပြည်သူ့ဝန်ထမ်း (မင်းမှုထမ်း)တို့သည် နိုင်ငံတော်ကြီး၏ အုပ်ချုပ်ရေး၊ တရားဥပဒေစိုးမိုးရေးတည်းဟူသော ယန္တရားကြီးကို ပြည်သူများအကြားဆင်း၍ ကိုယ်တိုင်လှည့်ပတ် အကောင်အထည်ဖော်ပေးရသူများဖြစ်ကြ၍ သူတို့အား နိုင်ငံတော်၏ ခြေလက်၊ နိုင်ငံတော်၏ မျက်စိ၊ နိုင်ငံတော်၏ နားများအဖြစ် တင်စားပြောဆိုခဲ့ကြခြင်း ဖြစ်၏။

ပြည်သူ့ဝန်ထမ်းများသည် မရှိမဖြစ် လိုအပ်သော အင်အားတစ်ရပ်ဖြစ်သောကြောင့် ထိုဝန်ထမ်းများ ဥပဒေစည်းကမ်းများနှင့်အညီ တာဝန်သိသိ၊ သစ္စာရှိရှိ ပြည်သူ့အကျိုးကို သယ်ပိုးဆောင်ရွက်နိုင်ရေးသည် အရေးကြီးလှ၏။ ဤသဘောကို ကောင်းစွာသိမြင်သော ကျေးဇူးရှင် မန်လည်ဆရာတော်ကြီးသည် နိုင်ငံ့ဝန်ထမ်း (မင်းမှုထမ်း) တို့၏ ဆောင်ဖွယ်၊ ရှောင်ဖွယ်များကို သူ၏မဃဒေဝလင်္ကာသစ်ကြီး၏ အမစ္စောဝါဒခန်းတွင် အကျယ်တဝင့် လမ်းညွှန်ဖော်ပြထားခဲ့၏။

ဆရာတော်ကြီးသည် သက်ဦးဆံပိုင် ပဒေသရာဇ်မင်းတို့ထံ ခစားထမ်းရွက်ကြရသည့် မှူးမတ်သေနာပတိ၊ ကလန်၊ သံပျင်စသော မင်းမှုထမ်းတို့အား ရည်ရွယ်ပြီး ညွှန်ပြထားသည် မှန်သော်လည်း ထိုလမ်းညွှန်အဆုံးအမများသည် ပဒေ့သရာဇ်ခေတ် မင်းမှုထမ်းများသာမက ယနေ့ခေတ် နိုင်ငံတော်၏ အရေးကိစ္စများကို ဆောင်ရွက်အကောင်အထည်ဖော်နေကြသည့် ပြည်သူ့ဝန်ထမ်းများအတွက်လည်း လိုက်နာ ကျင့်သုံးဖွယ်ကောင်းသော အဆုံးအမများဖြစ်သဖြင့် ပြည်သူ့ဝန်ထမ်း (မင်းမှုထမ်း) ဟူသော ခေါင်းစီးဖြင့် သင့်နိုးရာရာ လမ်းညွှန်အချို့ကို ရွေးထုတ်၍ တစ်စုတစ်စည်းတည်း ဖော်ပြထားပါ၏။ ဖတ်ရှု လေ့လာကြပါကုန်။

## ၁။ ပြည်သူ့ဝန်ထမ်းကောင်း (၁၄)ဦး

မမေ့စဖွယ်၊ မပယ်စကောင်း၊ သူအပေါင်းကား၊ တစ်ကြောင်းမှတ်ခင်း၊ အရှင်မင်းကို၊ မကင်းဖြောင့်ဖြောင့်၊ စောင့်တတ်သသူ၊ အရှင်ဟူက၊ သည်းအူထဲနစ်၊ ချစ်တတ်သသူ၊ လူတို့ဓိပတိ၊ မြတ်သာမိ၏၊ ဟိတာဟိတ၊ နှစ်ဝနှစ်ပုံ၊ ပြည့်စုံချို့တဲ့၊ ကျိုးရှိမဲ့ကို၊ ပြိုပြိုဆတ်ဆတ်၊ မြင်တတ်သသူ၊ ဆာပူမင်းမှာ၊ ဘေးတွေ့ခါ၌၊ မခွာမတွန့်၊ မစွန့်သသူ၊ မိးပူထိန်ညီး၊ ညွှန်တံစီးနှင့်၊ ခြောက်ကြီးရေလှိုင်း၊ အရှင်ခိုင်းက၊ မိန့်တိုင်းရွတ်ရွတ်၊ အရှင့်ဝတ်၌၊ စွန့်တတ်သသူ၊ စင်ဖြူနွယ်ရိုး၊ ဘိဘေးဘိုးက၊ အမျိုးမြတ်သူ၊ ရှင်လူသတ္တဝါ၊ ချမ်းသာရာနှင့်၊ ပြည်ရွာတိုင်းကား၊ စည်ပြန့်ပွားအောင်၊ ကြိုးစားသမှု၊ ပြုတတ်သသူ၊ ရာဇူဘုန်းဟော့၊ မေ့လတ်သော့ခါ၊ မှုရေးရာ၌၊ သညာမနုံ၊ လုံ့တတ်သသူ၊ ကြီးထုမှုခင်း၊ မင်း၌တွေ့သော်၊ ရဲဘော်လည်းပြု၊ ခိုင်ခံ့မှုဖြင့်၊ တောင်ထုအလား၊ နတ်ယောကျ်ားသို့၊ တည်ကြားသသူ၊ လူတွင်ခဲကတ်၊ မပြတ်တရား၊ သူတစ်ပါးကို၊ ဖြတ်ခြားမနိုင်၊ တွေ့လာဆိုင်လည်း၊ ပစ်ချိုင်နတ်စက်၊ ကွဲခြာအက်သို့၊ ဆက်ဆက်ဟုတ်ဟတ်၊ ပိုင်းပိုင်းပြတ်အောင်၊ ဆုံးဖြတ်နိုင်သူ၊ ဘေးရန်ထူပြော၊ တောင်တောမြို့ရွာ၊ မရောက်သာလည်း၊ ခွင့်ရှာဖောက်၍၊ ရောက်တတ်သသူ၊ မှုဟူသမျှ၊ ကိစ္စအစုမျိုး၊ အရှင့်ကျိုးကို၊ ကြိုးကြိုးပမ်းပမ်း၊ သဘောလမ်းဖြင့်၊ ထမ်းတတ်သသူ၊ အယူမပြား၊ ခြေဖဝါးသို့၊ သားတော်မြေးရောက်၊ မြစ်တော်မြောက်အောင်၊ မဖောက်ပြန်လတ်၊ အရှင်မှတ်၍၊ ကိုးတတ်သသူ၊ သူကောင်းဟူသည်၊ ဤလူတွက်ရေး၊ တစ်ကျိပ်လေးကို၊ ကိုယ်ဝေးမနေရစ်စေနှင့်။ (၂၀၈)

## ဆိုလိုရင်း အဓိပ္ပာယ်

မမေ့အပ်၊ မပယ်ထားအပ်သော ပြည်သူ့ဝန်ထမ်း (မင်းမှုထမ်း) ကောင်းများမှာ (၁၄)ဦး ရှိကုန်၏။ ယင်းတို့မှာ–

၁။ ခေါင်းဆောင်အကြီးအကဲအား မကင်းမပြတ် အမြဲစောင့်ရှောက်တတ်သူ

၂။ အရှင်၊ အကြီးအကဲကို အူထဲ သည်းနစ်အောင် ချစ်ခင်တတ်သူ

၃။ အကြီးအကဲအဖို့ အကျိုးရှိ မရှိကို နားလည်သိမြင်တတ်သူ

၄။ ဘေးအန္တရာယ် ရောက်လာသောအခါ အရှင်၏အနီးမှ မခွာဘဲ နေတတ်သူ

၅။ အကြီးအကဲ ခိုင်းစေ တာဝန်ပေးသည်ကို ရွတ်ရွတ်ချွံချွံ ဆောင်ရွက်တတ်သူ
၆။ အမျိုးအနွယ် အစဉ်အလာ မြင့်မြတ်သူ
၇။ ရှင်လူအများ ချမ်းသာရာနှင့် တိုင်းနိုင်ငံ ကြီးပွားတိုးတက်အောင် ကြိုးစားဆောင်ရွက်တတ်သူ
၈။ အရှင်အကြီးအကဲ မေ့လျော့နေသည့်အမှုကိစ္စကို လှုံ့ဆော်သတိပေးတတ်သူ
၉။ အကြီးအကဲ၌ မှုခင်းကြီးငယ်ရှိသောအခါ ရဲဘော်ရဲဘက်အဖြစ်ရှိသူ
၁၀။ မည်သည့်အရာကိုမျှ မကြောက်မရွံ့၊ ကြံ့ခိုင်သော စိတ်ဖြင့် နတ်ယောကျာ်းသဖွယ် တည်ကြည်ခိုင်ခံ့သူ
၁၁။ ခဲရာခဲဆစ် ဆုံးဖြတ်ရန်ခက်သော ကိစ္စတို့တွင် ပြတ်ပြတ်သားသား ဆုံးဖြတ်နိုင်သူ
၁၂။ အန္တရာယ်များလှသည့် နိုင်ငံတော်၏ တောတောင်မြို့ရွာအနံ့တို့သို့ အရောက် လှည့်လည်သွားရောက်နိုင်သူ
၁၃။ အကြီးအကဲ၊ နိုင်ငံတော်၏ အကျိုးကို ကြိုးပမ်းအားထုတ် ဆောင်ရွက်တတ်သူ
၁၄။ အရှင်အပေါ်၊ နိုင်ငံနှင့်လူမျိုးအပေါ် သားစဉ်၊ မြေးမြက်တိုင်အောင် မဖောက်မပြန် သစ္စာရှိရှိ ဆောင်ရွက်တတ်သူ တို့ဖြစ်၏။

## ၂။ အရှင်လည်းယစ် ကျွန်လည်းယစ်

မွေ့မွေ့လျော်လျော်၊ ပျော်ပျော်ရွှင်ရွှင်၊ တဘင်ဘင်နှင့်၊ အရှင်လည်းယစ်၊ ကျွန်လည်းယစ်နှင့်၊ ကျိုးပြစ်မထင်၊ ဖြစ်ခဲ့ကျင်သော်၊ လူရှင်ခပဲ၊ ပြည်ထဲကိစ္စ၊ မချမ်းမြဘူး၊ (၂၁၄)

### ဆိုလိုရင်း အဓိပ္ပာယ်

ပြည်သူ့အရေးကိစ္စများကို ထမ်းရွက်နေကြသည့် အကြီးအကဲဖြစ်သူနှင့် လက်အောက်ဝန်ထမ်းများသည် အချိန်ရှိသရွေ့ အပျော်အပါး လိုက်စားပြီး မူးယစ်သောက်စားကာ နေကြလျှင် ပြည်သူအများသည် ချမ်းချမ်းသာသာ မနေရဘဲ ပြည်ထဲရေးကိစ္စများသည် ရှုပ်ထွေးပွေလီနေမည်သာ ဖြစ်၏။

## ၃။ ရှေ့ဆောင်နွားလား အကောက်သွားက

ရှေ့ဆောင်နွားလား၊ အကောက်သွားက၊ နောက်နွားတစ်သိုက်၊ အကောက်လိုက်၏၊ ရှေ့၌နွားမူး၊ အဖြောင့်ကူးသော်၊ မထူးနောက်ပါ၊ နွားတကာလည်း၊ ဖြောင့်စွာမြစ်၌၊ ကူးနောက်လိုက်၏၊ (၂၇၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ရှေ့ကသွားသော နွားလားသည် ကောက်ကောက်သွားနေလျှင် နောက်မှ လိုက်လာသော နွားများက ကောက်ကောက်လိုက်ကြမည် ဖြစ်၏။ ထို့အတူ ရှေ့ကသွားသော နွားမှူးက မြစ်ကို ဖြောင့်ဖြောင့်ကူးသော် နောက်ပါနွားများသည်လည်း ဖြောင့်ဖြောင့်ပင် လိုက်ကူး ကြမည်ဖြစ်၏။ ထိုနည်းတူစွာပင် ခေါင်းဆောင်အကြီးအကဲဖြစ်သူ၏ အမူအကျင့် စရိုက်ကိုလိုက်ပြီး နောက်ပါအဖွဲ့သားများက လိုက်၍ ပြုမူလေ့ရှိသဖြင့် ပြည်သူ့ဝန်ထမ်း အကြီးအကဲတို့သည် တရားနည်းလမ်းကျစွာ ပြုကျင့်သင့်ကြကုန်၏။

## ၄။ မမှန်လေမိုး မဖြောင့်နိုးဘူး

မမှန်လေမိုး၊ မဖြောင့်နိုးဘူး၊ မင်းစိုးဥပရာ၊ မတ်သေနာနှင့်၊ လေးဖြာမျိုးသား၊ တရားယွင်းစွ၊ ကံကိစ္စတည့်၊ လူကမသင့်၊ မကောင်းကျင့်သော်၊ လူနှင့်စပ်ရာ၊ နတ်တို့မှာလည်း၊ မသာနှလုံး၊ မရွှင်ပြုံးဘဲ၊ မသုံးဓမ္မ၊ ပျက်ယွင်းကြ၏။ (၂၇၉)

## ဆိုလိုရင်း အဓိပ္ပာယ်

နိုင်ငံကို အုပ်ချုပ်သော မင်း၊ မှူးမတ်သေနာပတိနှင့် အမျိုးလေးပါးတို့သည် ကျင့်ဆောင်ရာသောတရား ပျက်ကြသောအခါ မကောင်းသောကံကို အကြောင်းပြု၍ မိုးလေ၊ ရာသီဥတုများမမှန်၊ ဖောက်ပြန်တတ်ကြကုန်၏။ လူများက တရားလမ်းကြောင်းမှ သွေဖည်ပြီး ဒုစရိုက်များကို ပြုလုပ်ကြသောအခါ လူတို့နှင့် နီးကပ်စွာနေသော နတ်တို့သည် နှလုံးမသာယာ၊ ပျော်ရွှင်ခြင်းမရှိကြဘဲ တရားနှင့်အညီမနေကြ၊ အကျင့်ပျက်ယွင်းကြကုန်၏။

## ၅။ အိုးတန်ဆန်ခက် ကျင့်နိုင်တတ်လျက်

မပိုမလွန်၊ ပြည်ကြီးဝန်ကို၊ အိုးတန်ဆန်ခတ်၊ ကျင့်နိုင်တတ်လျက်၊ ကျင့်မြတ်နိုးနွယ်၊ ဆောင်ပိုးသယ်လော့၊ မှတ်ဖွယ်တစ်သီး၊ ပမာမိုးသော်၊ စားပြီးတုံရှောင်း၊ အစာဟောင်း၌၊ နှစ်ထောင်းဝမ်းသာ၊ မရှိရာသို့၊ ခန္ဓာဟုဆို၊ ဖြစ်ပြီးကိုယ်၌၊ အလိုရမ္မက်၊ မိစ္ဆာဖက်၍၊ နှစ်သက်ကြီးစွာ၊ မပြုရာဘူး၊ (၂၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

တိုင်းပြည်၏တာဝန်ကို ထမ်းဆောင်ရာတွင် အိုးတန်ဆန်ခတ်သည့်ပမာ မပိုမလိုစေဘဲ ကျင့်ဆောင်နိုင်ရာ၏။ ဥပမာသော်ကား စားပြီးသောအစာဟောင်းကို ပြန်လည်၍ နှစ်သက်လိုလားခြင်း မရှိသကဲ့သို့ မိမိတို့၏ လောဘရမ္မက်လိုချင်တပ်မက်မှုများဖြင့် နှစ်သက် လိုလားခြင်း မရှိပါစေနှင့်။

## ၆။ ဌာနမရွေး ရှိသေပေးလျက်

ဝမ်းတွင်းစွဲမျိုး၊ မင်းခဆိုလျှင်၊ ကိုယ်ကိုဘယ်မျှ၊ မငဲ့ရဘူး၊ ဌာနမရွေး၊ ရှိသေပေးလျက်၊ ခွေး၏စရိုက်၊ မင်းလိုလိုက်က၊ မင်းကြိုက်တတ်စွာ၊ သဘောသာတည့်၊ (၃၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

နိုင်ငံ့ဝန်ထမ်း၊ မင်းခစားမှန်သမျှသည် ကိုယ့်ကိုယ်ကို ဘယ်သောအခါမှ မငဲ့ရချေ။ ကိုယ်ကျိုးစွန့် အနစ်နာခံကာ ထမ်းဆောင်ရာ၏။ မည်သည့်နေရာ၊ မည်သည့်အခါမဆို မိမိကိုယ်ကို နှိမ့်ချကာ ရှိသေလေးစားစွာ ဆက်ဆံရာ၏။ ခွေးများသည် သခင်၏ သဘောအတိုင်း လိုက်နာဆောင်ရွက်တတ်သကဲ့သို့ ပြည်သူ့ဝန်ထမ်းသည်လည်း မိမိ အထက်လူကြီး၏ သဘောကိုလိုက်၍ ရွက်ဆောင်ရမည်ဖြစ်၏။

## ၇။ ဌာနာဌာန လျှော်သင့်မျှအောင်

ဌာနာဌာန၊ လျှော်သင့်မျှအောင်၊ မင်းခတို့ထုံး၊ တစ်ချောင်းသုံးလျက်၊ လက်ရုံးနှလုံး၊ မင်းသုံးပညာ၊ အရာရာ၌၊ လိမ္မာလေ့ကျက်၊ မင်းနှစ်သက်၍၊ ဆောင်ရွက်ထပ်တိုး၊ ဂုဏ်မညှိုးသည်၊ မြတ်နိုးဆုပုံကြစေလော့၊ (၃၆၅)

## ဆိုလိုရင်း အဓိပ္ပာယ်

မင်းခစား၊ နိုင်ငံ့ဝန်ထမ်းတို့၏ ထုံးစံအတိုင်း နေရာဌာနနှင့် လျော်ညီအောင် မိမိအား ညွှန်ကြားသည့်အတိုင်း ဆောင်ရွက်ရမည် ဖြစ်၏။ အထက်လူကြီး (သို့မဟုတ်) မင်းတို့၌ ပြေပြစ်လိမ္မာစွာ ဆက်ဆံ၍ လက်ရုံးရည် နှလုံးရည် ပြည့်ဝစွာဖြင့် ထမ်းဆောင်ရာ၏။ မင်း (သို့မဟုတ်) အထက်လူကြီး နှစ်သက်သဘောကျအောင် ဆောင်ရွက်တတ်ခြင်းသည် ဂုဏ်သိက္ခာ တိုးစေသည့်ပြင် အကြီးအကဲ၏ ထိုက်သင့်သောဆုများပေးခြင်းကိုပင် ရစေနိုင်၏။

## ၈။ ဝမ်းနည်းဝမ်းသာ မရှိရာ

ရာဇအရှင်၊ သခင်စိုးမင်း၊ သတိကင်း၍၊ ချွတ်ယွင်းမေ့ကျန်၊ ဌာနန်ရာထူး၊ ချီးကျူးမေးခေါ်၊ မပြုသော်လည်း၊ ပျော်ပျော်ကပ်ဆည်း၊ ဝမ်းမနည်းနှင့်၊ မင်းတည်းမျက်နှာ၊ ရသောခါလည်း၊ လွန်စွာမြူးရွှင်၊ မိုးမမြင်အောင်၊ ငါပြင်မရှိ၊ ထင်ဘိစိတ်မှာ၊ မမြောက်ရာဘူး၊ (၃၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

မင်း သို့မဟုတ် အရှင်သခင် အကြီးအကဲက မေ့လျော့၍ မိမိအား ထိုက်သင့်သောရာထူးမပေးဘဲ ချီးကျူးပြောဆိုခြင်းမရှိသော်လည်း ဝမ်းနည်းခြင်းမရှိဘဲ ပျော်ရွှင်စွာ

ရွှက်ဆောင်မြဲ ရွက်ဆောင်ပါလော့။ အကယ်၍ မင်းအကြီးအကဲက မိမိအား ချီးမြှောက်ပြီး မျက်နှာသာပေးလျှင်လည်း မိုးမမြင် လေမမြင်ဖြစ်ပြီး အလွန်အမင်း ဝမ်းသာခြင်း မဖြစ်ပါစေနှင့်။ စိတ်ကြီးမဝင်ပါစေနှင့်၊ နေမြဲအတိုင်း နေရာ၏။

## ၉။ အလျှင်နှုတ်လျှာ မဆောရာ

စာနာကြောင်းလမ်း၊ မစုံစမ်းဘဲ၊ ချီးမွမ်းပြစ်တင်၊ တွေးအထင်နှင့်၊ အလျှင်နှုတ်လျှာ၊ မဆောရာတည့်၊ မသာမယာ၊ ဆရာမိဘ၊ နည်းမရသည့်၊ တောသားနှုတ်သံ၊ နာခံမချမ်း၊ လွန်ကြမ်းတမ်းသို့၊ လူ့တန်းမမီ၊ အလဇ္ဇီဖြင့်၊ ဝစီဒုစရိုက်၊ ဖိုးမထိုက်ရှင့်၊ လူမိုက်လျှာပါး၊ တဘွားဘွားနှင့်၊ စကားဖျင်ဖျင်၊ မင်းပွဲခွင်၌၊ ထင်ရာထင်တိုင်း၊ အရိုင်းဘာသာ၊ မပြောရာတည့်၊ (၃၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

မည်သည့်အရေးကိစ္စကိုမဆို စုံစမ်းမေးမြန်းခြင်းမပြုဘဲ ချီးမွမ်းခြင်း၊ ပြစ်တင်ခြင်းကို အလွယ်တကူ မပြုသင့်ချေ။ မိမိသည် နိုင်ငံ့ဝန်ထမ်းတစ်ယောက်ဖြစ်သည့်အားလျော်စွာ ပြောသင့် ပြောထိုက်သောစကားကို ချင့်သာယာစွာ ပြောဆိုရာ၏။ မင်းပွဲစိုးခွင် ပရိသတ်အလယ်၌ မိဘဆရာတို့၏ ဆုံးမပဲ့ပြင်ခြင်း မခံရဖူးသည့် လူမိုက်လျှာပါးများကဲ့သို့ ထင်ရာအတိုင်း ရိုင်းရိုင်းစိုင်းစိုင်း မပြောရာချေ။

## ၁၀။ တိုက်ကုန်းမင်းမှာ မချောရာ

ကိုယ်သာမြတ်နိုး၊ မင်းအကျိုးကို၊ တိုး၍လိုဟန်၊ မာယာဖန်၍၊ မမှန်စကား၊ မင်းအကြား၌၊ သူ့အားပြစ်ရှာ၊ မင်းနားနာအောင်၊ သူ့မှာပျက်ကြောင်း၊ မကောင်းနှလုံး၊ သူမိုက်သုံးဖြင့်၊ တိုက်ကုန်းမင်းမှာ၊ မချောရာတည့်၊ (၃၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိသာလျှင် မင်း သို့မဟုတ် အထက်လူကြီး၏အကျိုးကို ပိုမိုလိုလားသည့်ဟန်ဆောင်၍ မမှန်စကားများဖြင့် သူတစ်ပါးပျက်စီးရာ ပျက်စီးကြောင်းကို အပြစ်ရှာလျှောက်တင်ခြင်းကို မပြုပါနှင့်။ မကောင်းသောစိတ်နှလုံးဖြင့် အကြီးအကဲ (မင်း)ကို ကုန်းတိုက်ပြောဆိုခြင်း မပြုရာ။

## ၁၁။ ခင်ပွန်းမထင် ကျွမ်းမဝင်ရာ

ခဲကတ်လိမ္မာ၊ ကြံစည်ကာလျှင်၊ ကောင်းစွာသတိ၊ ထားဘိမယွင်း၊ နှလုံးသွင်း နှလော့၊ မင်းကိုအချစ်၊ စင်စစ်မှတ်ကျုံ၊ မယုံစအပ်၊ ဆွေမျိုးစပ်သော်၊ တော်၏မမှန်း၊ ခင်ပွန်းမထင်၊ ကျွမ်းမဝင်ရာ၊ (၃၆၆)

## ဆိုလိုရင်း အဓိပ္ပာယ်

အထက်လူကြီး၏ လမ်းညွှန်စေခိုင်းမှုများကို သတိထားပြီး လိမ္မာစွာ ကြံစည်ရွက်ဆောင်ပါလော့။ အကြီးအကဲ (မင်း)ဟူသည် မိမိသဘောထားနှင့် အမြဲတမ်းကိုက်ညီမည်ဟု သဘောမထားအပ်ချေ။ အကြီးအကဲ (မင်း)ကို မိမိ၏ အဆွေခင်ပွန်း၊ မိတ်ဆွေတစ်ယောက်ကဲ့သို့ ကျွမ်းဝင်ခြင်း မရှိစေရာ။

## ၁၂။ မောက်မိုမော်ကြွား မပလွှားရာ

ရာဇသေဝက၊ ပုရိသတို့၊ နိစ္စနှိုင်းညှိ၊ သတိသမ္ပဇဉ်၊ အစဉ်ဘယ်မျှ၊ မချွတ်ကြနှင့်၊ ကြွလျှင်နှိပ်မျိုး၊ မိုးလျှင်ချမြဲ၊ မလွဲမှန်ဘိ၊ သဘောရှိသိရှင့်၊ မိမိကိုယ်ကို၊ ကြီးမြင့်လိုမူ၊ မောက်မိုမော်ကြွား၊ မပလွှားရာ၊ စကားကြွပ်ဆတ်၊ မင်မတ်နင်သင်၊ မဆင်ခြင်ဘဲ၊ ဆိုချင်တာတတ်တိုင်း၊ နှုတ်မရိုင်းနှင့်၊ မကိုင်းညွတ်လို၊ မိုက်မုန်ယို၍၊ မင်းကိုမာန၊ မထောင်ရဘူး၊ (၃၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မင်းခစား ယောက်ျားတို့သည် သတိသမ္ပဇဉ်ကို ဘယ်အခါမျှ မလွှတ်စေနှင့်။ ကြွလျှင် အနှိပ်ခံရမည်၊ သူ့အပေါ်ကဲမိုးလွှမ်း အုပ်လျှင် အောက်သို့ချခြင်းခံရမည်မှာ အမှန်ဖြစ်၏။ မိမိကိုယ်ကို ကြီးမြင့်လိုသူသည် ဘယ်အခါမျှ မော်ကြွားပလွှားခြင်း မရှိစေရာ။ စကားကိုလည်း နှုတ်က ထွက်တိုင်း မဆင်မခြင်ဘဲ ရိုင်းစိုင်းစွာ မဆိုပါနှင့်။ မိမိအထက်လူကြီး (မင်း)ကို မရိုမသေ၊ မကိုင်းမညွတ်သောစိတ်နှင့် မာနမထောင်ပါနှင့်။

## ၁၃။ နိမ့်ချဝတ်စား တန်ရုံအားဖြင့်

နိမ့်ချဝတ်စား၊ တန်ရုံအားဖြင့်၊ ညွတ်တွားကျို့ကျို့၊ ပြားပြားရို့၍၊ ယုန်သို့ဖွေ့ဖွေ့၊ ခစားလေ့လော့၊ ဆယ်ရေးတစ်ရေး၊ မင်းပြစ်ပေးလည်း၊ ခွေးသို့အလား၊ မှတ်မထားဘဲ၊ ပြစ်မှားမရှိ၊ ပကတိသွင်၊ မျက်နှာရွှင်လျက်၊ ထွက်ဝင်မကင်း၊ ဝတ်မပျင်းလင့်၊ (၃၆၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိအထက် အကြီးအကဲ (မင်း)ထံ ဝင်ရောက်ရာ၌ တန်ရုံအဝတ်အစား အဆင်အပြင်များဖြင့် နိမ့်ချရိုကျိုးစွာ ချဉ်းကပ်ခစားရမည်။ တစ်ခါတစ်ရံတွင် အနေမသင့်၍ အကြီးအကဲ (မင်း)က မိမိအား အပြစ်ပေးခဲ့ပျှင်လည်း အမှတ်မထားဘဲ မျက်နှာရွှင်ပျစွာ ခါတိုင်းကဲ့သို့ ထွက်ဝင်(ခစား)ရာ၏။

## ၁၄။ မင်းခဓမ္မတာ သစ္စာပကျူး

နေ့ညခရီး၊ တောင်မြစ်ဆီးလည်း၊ ဝေးနီးယူဇနာ၊ မဟူရာတည့်၊ အခါမထောက်၊ ကြောင့်ကိုသင်ဖြူး၊ ဆူးကိုဖွေ့ရာ၊ မြွေမှာတံတား၊ ကျားကိုသစ်ငုတ်၊ စုန်းဘုတ်တစ္ဆေ၊

ဖော်မိတ်ဆွေသို့၊ မင်းစေဟူက၊ မဆုတ်ရဘူး၊ မင်းခစမ္မတာ၊ သစ္စာမကျူး၊ သူ့ကျေးဇူးကို၊ အထူးခံငြား၊ သူ့ဆန်စားက၊ သူ့အားကျိုးဆောင်၊ မရှောင်သာပေ၊ ရဲရပေ၏။ (၃၆၈)

## ဆိုလိုရင်း အဓိပ္ပာယ်

နိုင်ငံ့ဝန်ထမ်း မင်းခစားဟူသည် တောင်ကြီး၊ မြစ်ကြီးများ ဆီးကာထားသော မည်မျှဝေးသောခရီးကိုမဆို မိမိအား တာဝန်ပေးပါက နေ့ညမဟူ သွားရမည်သာ ဖြစ်၏။ လမ်းတစ်လျှောက်၌ တွေ့ရမည့် ကြောင့်ခလုတ်ကို သင်ဖြူး၊ ဆူးကို မွေ့ရာ၊ မြွေကို တံတား၊ စုန်းတစ္ဆေကို မိတ်ဆွေလို သဘောထားပြီး မကြောက်မရွံ့ အသက်စွန့်ကာ သွားရာ၏။ မင်းခစားဝန်ထမ်းတို့ ဓမ္မတာအတိုင်း မိမိအား လခရိက္ခာများပေးထားသည်နှင့်အညီ ပေးအပ်သည့်တာဝန်ကို သစ္စာရှိရှိ ကျေပွန်စွာ ဆောင်ရွက်ရမည် ဖြစ်၏။

## ၁၅။ ထင်ရာမနော လျှင်မဆောနှင့်

ထင်ရာမနော၊ လျှင်မဆောနှင့်၊ သဘောမုချ၊ မသိကြဘဲ၊ တွေးဆသူ့ကို၊ အပြစ်ကြို့၍၊ မလိုတမာ၊ မဆိုသာဘူး၊ ဆိုပါတတ်မူ၊ လူမလိမ္မာ၊ ဟူစပါခဲ့၊ ထင်ရာသမျှ၊ အတွေးရတိုင်း၊ မိန်းမပါးစပ်၊ ပေါ့လျှပ်လျှပ်နှင့်၊ အရပ်စကား၊ ဟူသည်များကား၊ တရားပွဲခွင်၊ ထဲမဝင်ရှင့်၊ (၃၆၉)

## ဆိုလိုရင်း အဓိပ္ပာယ်

အများပြည်သူအရေးကို စဉ်းစားဆုံးဖြတ်ရသူ ပုဂ္ဂိုလ်သည် တစ်ဖက်သား၏ အတွင်းသဘောကို အမှန်မသိဘဲ အပြစ်တင်မစောပါနှင့် ထိုသို့အပြစ်တင် ပြောဆိုတတ်ပါလျှင် ထိုသူသည် မလိမ္မာသူ လူမိုက်ဟု ဆိုကြ၏။ စကားကို အတွေးရတိုင်း မဆင်မခြင်ပေါ့လျှပ်စွာ ပြောဆိုခြင်းသည် အရပ်စကားမျှသာဖြစ်၍ တရားပွဲခွင် မဝင်နိုင်ချေ။ ထို့ကြောင့် ဝန်ထမ်းအကြီးအကဲပုဂ္ဂိုလ်တို့သည် စိတ်ထင်ရာ ပြောဆိုဆုံးဖြတ်ခြင်းကို မပြုသင့်ချေ။

## အနာမသိ ဆေးမရှိတည့်

အကြင်လူ့ရွာ၊ လောကမှာလျှင်၊ အနာမသိ၊ ဆေးမရှိတည့်၊ ယောင်ဝိယောင်ဝါး၊ မကုစားခင်၊ သမားသဖွယ်၊ ငွေယူလွယ်သို့၊ လူဝယ်မှုခင်း၊ ဖြစ်ပေါ်လျှင်းက၊ အရင်းအမြစ်၊ မစပ်မသိ၊ ပြုမိပြုရာ၊ မသမာဘဲ၊ ပဏ္ဏာယူငြား၊ အလျင်စား၍၊ တရားချဲ့ထွင်၊ ဘွဲ့မဆင်နှင့်၊ (၃၆၉)

## ဆိုလိုရင်း အဓိပ္ပာယ်

လောကတွင် အနာမသိ ဆေးမရှိဟူသော စကားရှိသည့်အတိုင်း အမှုအခင်း ပြဿနာတစ်ခု ရှိလာလျှင် ပြဿနာ၏ အရင်းအမြစ်ကို သိအောင် လေ့လာရာ၏။ ပြဿနာကို ဖြေရှင်းရာ၌ ဆေးမကုခင်တွင် လက်ဆောင်ကို အလျင်ယူသော ဆေးသမား

ကဲ့သို့ လူအချင်းချင်းဖြစ်ပွားသော မှုခင်းတို့၌ အရင်းအမြစ်ကို မဆင်ခြင် မစဉ်းစားဘဲ မိမိကိုယ်ကျိုးကိုသာကြည့်ပြီး မပြုသင့်ချေ။

## ၁၇။ ဖျက်သူနောင်ဝယ် ဂုဏ်ညှိုးငယ်လိမ့်

ကိုယ့်ထက်အမျိုး၊ ဘုန်းတန်ခိုးနှင့်၊ အုပ်စိုးမပြတ်၊ စောင့်ရှောက်တတ်သည့်၊ ကြီးမြတ်ထင်ရှား၊ သူတို့အားလျှင်၊ ပြစ်မှားစိတ်မှာ၊ အပြစ်ရှာ၍၊ ဣသာငြူစူ၊ ဖျက်မမူနှင့်၊ ဖျက်သူနောင်ဝယ်၊ ဂုဏ်ညှိုးငယ်လိမ့်၊ (၃၇၂)

## ဆိုလိုရင်း အဓိပ္ပာယ်

ကိုယ့်ထက် မျိုးရိုး၊ ဘုန်းတန်ခိုး သာလွန်ပြီး ကိုယ့်အပေါ် အုပ်စိုးစောင့်ရှောက်တတ်သည့် ပုဂ္ဂိုလ်များအပေါ် ပြစ်မှားလိုသောစိတ်ဖြင့် ငြူစူဖျက်ဆီးခြင်း မပြုရာ။ ပြုမိပါက ဖျက်သူသာလျှင် ဂုဏ်ရည်ညှိုးငယ်ရချေ၏။

## ၁၈။ တရားတိုက်တိုက် လောဘလိုက်၍

တံစိုးတူစား၊ သူတစ်ပါးကို၊ တရားတိုက်တိုက်၊ လောဘလိုက်၍၊ မထိုက်ကြေးငွေ၊ မယူစေနှင့်၊ ဥပဒေဓမ္မ၊ ပိုင်ဇာခြားပြတိုင်း၊ မှုချမှန်စွာ၊ မချွတ်ရာဘူး၊ (၃၇၈)

## ဆိုလိုရင်း အဓိပ္ပာယ်

ပြည်သူ့ရေးရာကိစ္စများကို ဆောင်ရွက်ရာ၌ တံစိုးလက်ဆောင်ကို နှစ်ဖက်စလုံးမှ ယူပြီး လောဘကို အလိုလိုက်ကာ ငွေကြေးများကို မယူရာ။ ဥပဒေနှင့်အညီ တရားနည်းလမ်းကျစွာ ဆုံးဖြတ်စီရင်ရာ၏။

## ၁၉။ ဖြေဖြန်သမှု ငြိမ်းအောင်ပြုလော့

ရင်သွေးညက်စံ၊ သားသက်နှံအား၊ မျက်လျှံဘမိ၊ ဒေါသရှိလည်း၊ မချိမိုးကဲ၊ လွန်စွာလွဲ၍၊ ဟိန်းဟဲရုံမျှ၊ သာသာချသို့၊ ထိုမျှမှောက်မှား၊ ပြည်သူ့အားကို၊ ပြစ်ထားဒဏ်ရေး၊ လျော့လျော့ပေးလျက်၊ မြီကြွေးခိုက်ရန်၊ နှုတ်လက်လွန်ကို၊ ဖြေပြန်သမှု၊ ငြိမ်းအောင်ပြုလော့၊ (၃၈၁)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိတို့၏ ရင်သွေးငယ်အပေါ် အမျက်ဒေါသ ထွက်သော မိဘသည် သားငယ်အပေါ် ဒေါသကို ချုပ်၍ ဟိန်းဟောက်မာန်မဲရုံ၊ သာသာထိုးထိုး အပြစ်ယူသကဲ့သို့ ပြည်သူတို့ အရေးကိစ္စကို စီရင်ဆုံးဖြတ်နေရသူ နိုင်ငံ့ဝန်ထမ်းတစ်ဦးသည်လည်း အမှုအခင်းဖြစ်သူတို့အပေါ် နှစ်ဖက်ကြေအေးအောင် ဖြန်ဖြေ ဆုံးဖြတ်ပေးရာ၏။

---

## ၂၀။ လူမွှေယောက်ျား မင်းစေများ

အိုးကြီးအလယ်၊ အိုးငယ်ထောင်သောင်း၊ လောင်း၍မပြည့်၊ အိပ်မက်၏သို့၊ နိုင်းရှည့်အလား၊ တူသောအားဖြင့်၊ တိုင်းသားပြည်သူ၊ များရှင်လူတို့၊ ဆာပူညှိုးခွေ၊ မဖြစ်စေနှင့်၊ လူမွှေယောက်ျား၊ မင်းစေများလည်း၊ မင်းအားကိုးကိုး၊ မင်းအကျိုးနှင့်၊ ကိုယ်ကျိုးသာမျှ၊ ငဲ့တတ်ကြ၏၊ (၃၈၂)

## ဆိုလိုရင်း အဓိပ္ပာယ်

အလယ်တွင်ချထားသော အိုးကြီးထဲသို့ နံဘေးရှိ ထောင်ပေါင်းများစွာသော ရေအိုးတို့ဖြင့် လောင်းထည့်ပါသော်လည်း ထိုအိုးကြီးသည် မည်သည့်အခါမျှ မပြည့်ဘဲ ရှိနေသော အိပ်မက်ကဲ့သို့ နိုင်ငံ့အရေးကိစ္စဟူသမျှ၌ ပြည်သူအများ၏ ပူးပေါင်းပါဝင်မှုသည် လိုအပ်သည်မှန်သော်လည်း ပြည်သူများ ပင်ပန်းညှိုးနွမ်းခြင်းမရှိစေရန် အလေးဂရုပြုသင့်ကြ၏။ အချို့သော နိုင်ငံတော် (မင်း)နှင့် ပြည်သူအကြား နှောင့်ယှက်ဖျက်ဆီးလိုသူ ဝန်ထမ်းများသည် အထက်လူအားကိုးနှင့် မိမိတို့အကျိုးကိုသာ ကြည့်ပြီး ပြုကျင့်တတ်ကြကုန်၏။

## ၂၁။ သူ့မယားငို မျက်ရည်ယိုမှ

သူ့မယားငို၊ မျက်ရည်ယိုမှ၊ ကိုယ့်မယားလှ၊ ဝမ်းဝကြဟု၊ ဆိုထမယွင်း၊ လူ့ခပင်းတို့၊ မှုခင်းစိုးစိ၊ ဖြစ်သည်ရှိသော်၊ ဝိုင်းဖိအုံကာ၊ မီးလောင်ရာဝယ်၊ မိစ္ဆာငှက်ခါး၊ မှောင့်သောလားသို့၊ ချောက်ချားလူမွှေ၊ မညှပ်စေနှင့်၊ (၃၈၃)

## ဆိုလိုရင်း အဓိပ္ပာယ်

သူတစ်ပါး၏မယား မျက်ရည်ကျမှ မိမိမယား ဝမ်းဝမည်ဆိုသည့် ဆိုရိုးစကားအတိုင်းပင် လူအချင်းချင်းအကြား မှုခင်းတစ်စုံတစ်ရာ ဖြစ်လာသောအခါ မိမိ၏စားကွက်ကိုရှာ၍ သူတစ်ပါးဆင်းရဲဒုက္ခရောက်အောင် ပြုတတ်ကြ၏။ ထို့ကြောင့် မှုခင်းတစ်စုံတစ်ရာ ပေါ်ပေါက်ခဲ့သော် မီးလောင်ရာလေပင့်၊ ပြဿနာပိုမိုရှုပ်ထွေးအောင် လုပ်ကြမည့် လူနှောင့်၊ လူမွှေများ မဝင်လာအောင် သတိပြုရာ၏။

## ၂၂။ ဆင်ခြင်မပေါ့ မမေ့လျော့နှင့်

အသိဉာဏ်နက်၊ ပညာဖက်၍၊ အောက်ထက်ဝန်းကျင်၊ တွင်းပြင်ဝေးနီး၊ နယ်သီးရက်ဆိုင်၊ ခရိုင်တိုင်းပြည်၊ အတည်တည်နှင့်၊ ပတ်လည်ဒေသ၊ မြို့ပြရွာကျေး၊ မျက်နှာရေးကို၊ မှန်ကြေးမုံပြင်၊ နေ့တိုင်းထင်သို့၊ သံပျင်မကျန်၊ ကာလန်မကြွင်း၊ စုသင်းမှုကိုင်၊ မြေတိုင်တောခေါင်း၊ အပေါင်းထိုမျှ၊ စစကုန်စင်၊ များပုံယင်၍၊ ဆင်ခြင်မပေါ့၊ မမေ့လျော့နှင့်၊ (၃၈၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မိမိနိုင်ငံ တိုင်းပြည်နှင့် တစ်ဆက်တစ်စပ်တည်း ရှိနေသည့် တိုင်းခရိုင်၊ မြို့ပြ ကျေးရွာများ၏ အခြေအနေကို ကြေးမုံမှန်ပြင်တွင် ကိုယ်တိုင်မြင်တွေ့နေရသကဲ့သို့ သံပျင်၊ ကလန်၊ မြေတိုင်း၊ တောခေါင်း စသည့်ဝန်ထမ်းတို့သည် တိုင်းရေးပြည်ရေး မြို့ရွာအရေးများကို အသိပညာနှင့် ဆင်ခြင်၍ မမေ့မလျော့၊ မပေါ့မဆဘဲ ကျေပွန်စွာ ဆောင်ရွက်ပါလော့။

## ၂၃။ ငယ်သည့်အမှု ပအောင်ပြုလော့

ကြံကြောင်းကြံမြတ်၊ ဉာဏ်ဖြင့်မှတ်၍၊ ဆုံးဖြတ်ရွေးချယ်၊ ကြီးမှငယ်လျက်၊ ငယ်သည့်အမှု၊ ပအောင်ပြုလော့၊ (၃၈၇)

## ဆိုလိုရင်း အဓိပ္ပာယ်

မြင့်မြတ်ကောင်းမွန်သော အကြံအစည် ကိစ္စရပ်တစ်ခုကို မိမိ၏ အသိဉာဏ်ပေါ်တွင် စေစား ဆင်ခြင်ပြီး ကောင်း မကောင်း၊ ရာ မရာကို ရွေးချယ်ဆုံးဖြတ်ပါ။ ကြီးသည့်အမှုကိစ္စကို ငယ်အောင်၊ ငယ်သောအမှု ပပျောက်အောင် လုပ်ဆောင်ရာ၏။

## ၂၄။ ကြားတိုင်းဘယ်ခါ မယုံရာ

လူတို့ရွာ၌၊ စောင်းကာမြောင်းကာ၊ အဘိဈ္ဈာနှင့်၊ ဣဿာငြူစူ၊ ပြောလေ့ထူခဲ့၊ ထိုလူတကာ၊ လိုရာရှုရှု၊ ပြောဆိုကြလည်း၊ မိန်းမပါးစပ်၊ အရပ်စကား၊ မဟုတ်များ၏၊ ကြားတိုင်းဘယ်ခါ၊ မယုံရာဘူး၊ (၃၈၇)

## ဆိုလိုရင်း အဓိပ္ပာယ်

လူ့လောကတွင် လူအများစုသည် ပျက်စီးလို၍ မလိုမုန်းထားသော စိတ်ဖြင့် မိမိတို့ လိုရာကို ဆွဲ၍ ပြောဆိုတတ်ကြကုန်၏။ ထိုစကားများသည် ထင်ရာမြင်ရာကို ပြောတတ်သည့် မိန်းမများ၏ ပါးစပ်မှ ထွက်လာသော အရပ်စကားများဖြစ်၍ မဟုတ်မမှန်သည်က များ၏။ ထို့ကြောင့် ထိုအခြေအမြစ်မရှိသော အတင်းအဖျင်းစကားများကို ကြားတိုင်း မယုံပါနှင့်။

## ၂၅။ တရားညီဖြောင့် ပြည်ကိုစောင့်လော့

လေးဦးနွယ်ပြား၊ လူအများ၌၊ သားနှင့်မိဘ၊ တူတမျှတိ၊ ဆုံးမြစ်ထား၊ နှုတ်သြဝါဖြင့်၊ မဟာသုခမိန်၊ မတ်ကပိန်တို့၊ မိုန်မိုန်မွေ့ညက်၊ လွတ်ရုံးတက်၍၊ မပျက်အစဉ်၊ မြဲယှဉ်သီးသီး၊ ခါမငြီးဘဲ၊ လူကြီးပီပီ၊ ဂုဏ်ရာသီနှင့်၊ ဒီပါလောကဓာတ်၊ မြဲစောင့်တတ်သည့်၊ ဓတရဋ္ဌ၊ ဝိရူဠ္ဍနှင့် တေဇပြင်းဆူ၊ ဝိရူပက္ခ၊ ကုဝေရတို့၊ လောကတစ်ဝိုက်၊ စက်နယ်တိုက်ကို၊ အုပ်ပိုက်ပိုင်းခြား၊ စောင့်သောလားသို့၊ တရားညီဖြောင့်၊ ပြည်ကိုစောင့်လော့၊ (၃၉၂)

ပဏ္ဍာမြားငမောက်စာပေ

## ဆိုလိုရင်း အစိပ္ပာယ်

မင်း၊ ပုဏ္ဏား၊ ကုန်သည် လယ်လုပ်ဟူသော အမျိုးလေးပါး လူအများတို့တွင် မိဘတို့သည် သားသမီးများကို နှုတ်ဖြင့် ဆုံးမသွန်သင်ကာ စောင့်ရှောက်လေ့ရှိကုန်၏။ မင်းထံ ခစား၍ ပြည်သူအများ၏ အကျိုးစီးပွားကိုစောင့်ရှောက်ကာကွယ်ကြရကုန်သော အမတ်၊ ပညာရှိတို့သည် ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရနတ်မင်းကြီး လေးယောက်တို့က ဤလောကကြီးကို ထိန်းသိမ်းစောင့်ရှောက်ထားသကဲ့သို့ နိုင်ငံတော်ကြီးကိုလည်း တရားနှင့်အညီ စောင့်ရှောက်ကြပါကုန်လော့။

ဦးဝမ်ထိန်